# ဘာကြောင့် ဒီမိုကရေစီ လိုချင်ရသလဲ

[ နိုင်ငံရေးဆောင်းပါးစု ]



ဖေမြင့်

**စာမူခွင့်ပြုချက်အမှတ်**

၃၁၀၂၇၈၁၁၁၁

**မျက်နှာဖုံးခွင့်ပြုချက်အမှတ်**

၃၁၀၃၃၈၁၂၁၁

**မျက်နှာဖုံးသရုပ်ဖော်**

ဘဌေးကြည်

**မျက်နှာဖုံးပုံနှိပ်သူ**

ဦးကျော်ယဉ် (၀၇၈၄၃)၊ ဓမ္မမော်အော့ဖ်ဆက်၊

၂၈၄၊ ၃၉ လမ်း (အထက်)၊ ရန်ကုန်မြို့။

**အတွင်းပုံနှိပ်သူ**

ဒေါ်ခင်လှ (၀၁၅၇၈)၊ စာပေလောကပုံနှိပ်တိုက်၊

၁၇၃၊ ၃၃ လမ်း၊ ရန်ကုန်မြို့။

**ထုတ်ဝေသူ**

ဦးဖေမြင့် (၀၂၂၅၉)၊ ဖေမြင့်စာပေ၊

အမှတ် N - 6 ၊ ရွှေမာလာရိပ်မွန်၊

ဘုရင့်နောင်လမ်း၊ ကမာရွတ်၊ ရန်ကုန်မြို့။

ဖုန်း– ၀၁ ၇၀၆၁၃၉၊ ၀၉ ၅၁၂၄၀၄၉

**ပုံနှိပ်ခြင်း**

ပထမအကြိမ်၊ ၂၀၁၁ ခုနှစ်၊ ဒီဇင်ဘာလ။

**အုပ်ရေ**

၁၀၀၀

၈၀၈.၈၄

ဖေမြင့်

ဘာကြောင့်ဒီမိုကရေစီလိုချင်ရသလဲ / ဖေမြင့်။ – ရန်ကုန်၊ ဖေမြင့်စာပေ၊ ၂၀၁၁။

၃၆၅ စာ၊ ၁၃.၃ x ၂၀.၈ စင်တီ။

(၁) ဘာကြောင့်ဒီမိုကရေစီလိုချင်ရသလဲ

# မာတိကာ


BURMESE
CLASSIC
.com

# အမှာစကား

"ဘာကြောင့် ဒီမိုကရေစီ လိုချင်ရသလဲ"သည် ပြီးခဲ့သည့် နှစ်နှစ်ဝန်းကျင်ကာလ အတွင်း ရှက်နုဝေမဂ္ဂဇင်းနှင့် Idea မဂ္ဂဇင်းတို့တွင် အနည်းငယ်စီလည်းကောင်း၊ ပြည်သူ့ခေတ်ဂျာနယ်တွင် အဓိက အများဆုံး လည်းကောင်း ရေးသားခဲ့သည့် နိုင်ငံရေးဆိုင်ရာ စာများကို စုစည်းထားခြင်း ဖြစ်ပါသည်။

သည်စာများအနက် အများစု (စုစုပေါင်း ၅၈ ပုဒ်) မှာ ပြည်သူ့ခေတ် ဂျာနယ်၌ ခေါင်းကြီး သို့မဟုတ် အယ်ဒီတာ့အာဘော်အဖြစ် ရေးသားခဲ့သည်များ ဖြစ်၍၊ ရေးသားသော ကာလမှာ ၂၀၁၀ နိုဝင်ဘာ ရွေးကောက်ပွဲ မတိုင်မီနှင့် ရွေးကောက်ပွဲအပြီး (သို့မဟုတ် အစိုးရသစ် မတက်မီနှင့်တက်လာပြီး) စသဖြင့် ခွဲခြားပြောဆိုနိုင်သည့် အချိန်ကာလများ ဖြစ်ပါသည်။ ၎င်းစာပုဒ်အသီးသီး၏ အဆုံး၌ ရေးသားခဲ့သည့် နေ့စွဲများကို ဖော်ပြထားရာ၊ စာဖတ်သူအနေဖြင့် ပြောင်းလဲဖြစ်ပေါ်ခဲ့သည့် မြန်မာ့နိုင်ငံရေး ကိစ္စရပ်များကို လည်းကောင်း၊ ယင်းတို့နှင့်စပ်လျဉ်းသည့် စာရေးသူ၏ ထင်မြင်ချက်များကို လည်းကောင်း၊ အချိန်ကာလနောက်ခံနှင့် ဆက်စပ် စဉ်းစားနိုင်ရန်အတွက် အထောက်အကူ ပြုလိမ့်မည်ဟု ယူဆမိပါသည်။

ခေါင်းကြီးများနှင့်၊ ၎င်းတို့နောက်တွင် ဆက်လက်ပါရှိသည့် ဆောင်းပါးများ အားလုံးပင် စာအုပ်အမည်က ညွှန်းဆိုထားသည့်အတိုင်း ကျွန်တော်တို့ တိုင်းပြည်တွင် ဒီမိုကရေစီစနစ် ထွန်းကားပေါ်ပေါက်စေလိုသည့် ထက်သန်သော ဆန္ဒဖြင့် ရေးသားခဲ့ခြင်းဖြစ်ကြောင်း ဖော်ပြလိုပါသည်။

စာဖတ်သူအား ထာဝစဉ် လေးစားလျက်

[illegible]

၂၃-[illegible]-၂[illegible]

# အယ်ဒီတာ ခေါင်းကြီး

အယ်ဒီတာ့အာဘော် (editorial) မဟုတ်ပါ။ ယခုစာက အယ်ဒီတာ ခေါင်း 'ကြီး' သည့် ကိစ္စဖြစ်ပါသည်။

"ပြည်သူတို့အကျိုးစီးပွားအတွက်ပြည်သူများကိုယ်တိုင် ပါဝင်ဆောင်ရွက်သည့် ပြည်သူ့အစိုးရခေတ်ကို ရည်မျှော်လျက်"ပြည်သူ့ခေတ်ဂျာနယ်ကို ထုတ်ဝေမည့် အကြောင်း ကြေညာလိုက်သည့်အခါ ရပ်ဝေးရပ်နီးမှ စိတ်ဝင်စားသူတို့ စုံးစမ်း မေးမြန်းကြသည်။

ခင်မင်သော မိတ်ဆွေများက၊ "ခင်ဗျားတို့ဗျာ ဒီအသက်အရွယ်ရောက်မှ အေးအေးဆေးဆေး မနေ၊ ပင်ပန်းမယ့် အလုပ်တွေ သွားလုပ်နေတယ်" ဟု ကရုဏာဒေါသော ပြောကြသည်။

သို့သော် အများသူငါ အဓိက သိချင်ကြတာကတော့၊ အဲ ... ကျွန်တော်တို့ ကိုယ်တိုင်လည်း သိချင်နေသည့်၊ "ခင်ဗျားတို့က ဘယ်လောက် ရေးလို့ ရမှာလဲ" ဆိုတာပဲ ဖြစ်သည်။

စာနယ်ဇင်း လွတ်လပ်ခွင့်၊ လွတ်လပ်စွာ ရေးသားပြောဆိုခွင့်၊ ... အဲဒါတွေ ကျွန်တော်တို့မှာ ဘယ်လောက် ရှိသလဲ။

ယခု လောလောဆယ်မှာ ဂျာနယ်ထုတ်ဝေခွင့်ပြုသည့် အတိုင်းအတာအထိ တော့ လွတ်လပ်ခွင့် ရထားပြီ။

သို့သော် ပြည်သူတို့ အရေးကိစ္စများနှင့် စပ်လျဉ်း၍ ကျွန်တော်တို့ ဘယ်ရွေ့ဘယ်မျှ ပြောဆိုနိုင်ကြမည်နည်း။

တာဝန်က ကိုယ့်ခေါင်းပေါ် ရောက်လာပြီ။

တာဝန်ထမ်းဆောင်ရင်း ဘေးကျပ်နံကျပ် ပြဿနာပေါ်သည့်အခါ ပုံပြင်ထဲက ယုန်လို နှာစေးနေလိုက်မည်လား။

အဲဒါဆိုလျှင် နှာစေးသော ဂျာနယ် ဖြစ်သွားလိမ့်မည်။

သို့သော် နှာစေးရမည့်အချိန်မှာ နှာခေါင်းသိပ်ကောင်းနေမိခဲ့လျှင်လည်း — ဘာဖြစ်မည်ဆိုတာ စာဖတ်သူ သိပါသည်။

ဒါဖြင့်လျှင် အရေးကြုံသောအခါ ဝိစကိနိုင်ငံရေး သမားဓော် နည်းလမ်းဟာမျိုးကို ကျင့်သုံးမည်လား။

'ဒါတော့ နည်းနည်း ပြောဖို့ လိုမည်ထင်သည်။

အဲဒါက ၁၉၅၂ ခုနှစ်က အမေရိကန် နိုင်ငံရေးသမားတစ်ဦး ပြောခဲ့၍

if-by-whiskey ခေါင်းစဉ် အမည်ဖြင့် ထင်ရှားသွားခဲ့သည့် စကားတစ်ခု အကြောင်း ဖြစ်သည်။

အလွန် အငြင်းပွားရသည့် ပြဿနာရပ်မျိုးမှာ တချို့လူတွေ ဘယ်လို ရပ်တည်တတ်ကြသည်ဆိုတာ အထင်အရှား နမူနာပြသွားသည့် စကား။

တစ်ခါတုန်းက အမေရိကန်ပြည်မှာ အရက်သေစာထုတ်လုပ်မှု ရောင်းဝယ် ဖောက်ကားမှုများကို ပိတ်ပင်သည့် ဥပဒေတစ်ရပ် ပြဋ္ဌာန်းခဲ့ဖူးသည်။ ပြဋ္ဌာန်းနိုင်သူတွေ ပြဋ္ဌာန်းခဲ့သော်လည်း မလိုက်နာလိုသူတွေ များနေသည့်အခါ ပြဿနာတက်ပြီး၊ နောက်ဆုံး၌ ပြည်နယ်အသီးသီးက သည်ဥပဒေကို ပြန်လည် ဖျက်သိမ်းခဲ့ကြသည်။ သို့သော် မဖျက်သိမ်းမီကာလမှာ အရက်ကို ဆက်ပိတ် ထားချင်သူတွေနှင့် တားမြစ်မှု ရုပ်သိမ်းစေချင်သူတွေအကြား အငြင်းပွားမှုတွေ ပြင်းထန်ခဲ့သည်။

အဲသည်လို ပြင်းထန်နေစဉ် အတောအတွင်း လွှတ်တော် အမတ်တွေ ရပ်တည်ရ အလွန်ခက်ခဲ့ကြသည်။ ခင်ဗျားဆိုလျှင် အရက်ကို ခွင့်ပြုမည်လား၊ ပိတ်ပင်မည်လား။ တစ်ခုခု ပြတ်ပြတ်သားသား ပြောပါဟုဆိုလာလျှင် ဖြေဖို့ ခက်သည်။ တစ်ဖက်က ရပ်တည်လိုက်လျှင် နောက်တစ်ဖက်က လူတွေလာမည့် ရွေးကောက်ပွဲမှာ သူ့ကို မဲပေးတော့မည် မဟုတ်။ အဲသည်တော့ ပရိသတ် အခြေအနေ ကြည့်ကာ သူတို့နှင့် သဘောချင်း မကွဲပြားသလို ဘာသိုလို ဝေ့လည်ကြောင်ပတ် ယောင်ဝါးဝါး ဖြေကြသည်။

သို့သော် ကြာရှည် ဝေ့နေယောင်နေ၍ မရ။ ဆက်ယောင် နေလျှင် နှစ်ဖက်လုံး တညီ တညာတည်း ရှုတ်ချမည့် အနေအထား ရောက်လာလိမ့်မည်။ အဲဒါဆိုလျှင် ပြုတ်မှာ သေချာသည်။

သည်အနေအထားမျိုးတွင် မစ္စစ္စီပီပြည်နယ်မှ အမတ်တစ်ဦးဖြစ်သူ နိုးဝါးဆွက်(တ) (ဂျူနီယာ) (Noah Sweat Jr.) က ပရိသတ်တစ်စုရှေ့မှာ သူ့ရပ်တည်ချက်ကို တရားဝင်ကြေညာသည်။

စကားလုံးတွေ အများကြီး ဖုံးကွယ်ရစ်ပတ်ပြီး ပြောသွားသည့် သူ့စကားကို ကျွန်တော် သူ့အတိုင်း တိုက်ရိုက်ဘာသာမပြန်ဘဲ ဆိုလိုရင်း သဘောကို ကျွန်တော့် စကားဖြင့် ပြန်ပြောပါမည်။

သူက

မိတ်ဆွေများ ခင်ဗျား၊ ဒီလောက် အငြင်းပွားနေတဲ့ ပြဿနာကို အခု ဒီနေရာမှာ ဆွေးနွေးဖို့ ကျွန်တော် မရည်ရွယ်ခဲ့ပါဘူး။ ဒါပေမဲ့ ကျွန်တော်ဟာ

ပြဿနာကို ရှောင်တဲ့သူ မဟုတ်ဘူးဆိုတာလည်း မိတ်ဆွေတို့ သိစေချင်ပါတယ်။ တကယ်က ဒီပြဿနာမှမဟုတ်၊ ဘယ်လောက် အထင်အမြင် လွဲမှားနိုင်တဲ့ ပြဿနာမျိုးဖြစ်စေ အချိန်မရွေး နေရာမရွေး ကျွန်တော် ဖြေရှင်းဖို့ အသင့်ပါ။

အခု မိတ်ဆွေတွေက မေးကြတယ်။ ဝီစကီနဲ့ ပတ်သက်လို့ ကျွန်တော့် သဘောထား ဘယ်လိုရှိသလဲတဲ့။

ကောင်းပြီ၊ ကျွန်တော့်သဘောထား အခု ပြောပါမယ်။

မိတ်ဆွေတွေက ဝီစကီလို့ ပြောလိုက်တဲ့ အခါမှာ ဘာကို ဆိုလိုပါသလဲ။ သေရည်လို့ခေါ်တဲ့ မကောင်းဆိုးဝါး အဆိပ်အတောက် လား။ သူ့ကို သွားသောက်ရင် ဦးနှောက်ပျက် စဉ်းစားဉာဏ်ပျက် စီးပွားပျက် အိမ်ထောင်ပျက် ဖြစ်ပြီး၊ ကလေးသူငယ် လူမမယ်တွေ ခများလည်း အားကိုးရာမဲ့ဖြစ် မိမဲ့ဖမဲ့ဖြစ် စေမယ့်၊ အဲသလို ဘက်စုံဒုက္ခတွေ ပေးမယ့် အရာလား။ လူကို ဖျက် အရက်ဆိုတဲ့ စကားလို သူ့ကို သောက်သုံးခြင်းကြောင့် လူလုံး မလှ ဘဝတစ်ခုလုံး နိမ့်ကျ ပျက်သဉ်းရစေမယ့် ဘုရားမကြိုက်တဲ့ သုရာမေရယလား။ အဲဒါဆိုရင်တော့ ကျွန်တော် လုံးလုံးလျားလျား ပြတ်ပြတ်သားသား ဆန့်ကျင်တယ်။

ဒါမှမဟုတ် ခင်ဗျားတို့ပြောတဲ့ ဝီစကီသည် သောက်သုံးသူကို [illegible] သွက်လက်စေပြီး မိတ်ဆွေ အပေါင်းအသင်းအပေါ် စေတနာစိတ် ယိုဖိတ်[illegible] နှုတ် လျှာ သွက်လက်သလို ဦးနှောက်ရှင်လန်းပြီး စိတ်ကူးစိတ်သန်း[illegible] ထွက်ပေါ်စေတဲ့ အရာ၊ အလုပ်ခွင်က တစ်နေကုန် ပင်ပန်းနွမ်းနယ်ခဲ့သမျှတွေ လျော့ပါးပျောက်ကွယ်ပြီး ခေါင်းပူရ စိတ်ရှုပ်ရ အနာဂတ်အရေး တွေးခဲ့ရတဲ့ လူ့ဘဝဒုက္ခတွေ အခိုက်အတန့် ကင်းဝေးအောင် ဖန်တီးပေးတဲ့အရာ၊ အတန်အသင့် ဆေးဖြစ်ဝါးဖြစ် သောက်ရင်ဖြင့် အသက်ရှည်ကျန်းမာပြီး ဘဝရဲ့ သုခတွေ ပြည့်ပြည့်ဝဝ ခံစားရစေမယ့် အရာ၊ အဲ... အဲဒီအရာကို အများသူငါ သောက်သုံးကြလို့ ဒါက ရတဲ့ အခွန်အကောက်တွေကြောင့် တိုင်းပြည်ဘဏ္ဍာ ပြည့်တင်းမယ်၊ ဒီဘဏ္ဍာတွေကို အသုံးပြုပြီး စာသင်ကျောင်းတွေ ဆေးရုံတွေ ဆောက်လုပ်နိုင်မယ်၊ မိဘမဲ့ ဂေဟာတွေ ဘိုးဘွားရိပ်သာတွေ ဖွင့်လှစ်ပြီး အားကိုးရာမဲ့ရှာတဲ့ ကလေးသူငယ်များနဲ့ အိုမင်းမစွမ်း သူတွေကို [illegible] စောင့်ရှောက်နိုင်မယ်ဆိုရင်တော့ ဒီလောက် အကျိုးပြုတဲ့အရာကို ကျွန်တော် ပြတ်ပြတ်သားသား ထောက်ခံသွားမှာပဲပေါ့။

ကျွန်တော် အခု ပြောတာ ဝီစကီအရေးနဲ့ ပတ်သက်တဲ့ ကျွန်တော့်ရဲ့ ရပ်တည်ချက်ပါ။ ဒီရပ်တည်ချက်ကို ကျွန်တော် တစ်ပြားသားမှ [illegible]

နိုင်ဘူး၊ ခြေတစ်လှမ်းမှလည်း နောက်မဆုတ်နိုင်ဘူး... တဲ့။

စကားနှစ်ခွအရာမှာ ဂန္တဝင်မြောက်သွားခဲ့သည့် အဲသည်တုန်းက သူ့မိန့်ခွန်းကို ပရိသတ်က ဘယ်လို ဩဘာပေးခဲ့ကြသလဲ ကျွန်တော် မသိ။ သည်အမတ်နောက်ပိုင်း ဘာဖြစ်သွားသလဲ။ လွှတ်တော်မှာ ပျော်တော်ဆက်ရာထူးပဲ ခန့်အပ်ခံရသလား၊ နောက်တစ်ကြိမ်တော့ တော်ပါပြီဗျာဟု ငြင်းပယ်လိုက်ကြသလားဆိုတာလည်း ကျွန်တော် မစုံစမ်းမိ။

သေချာသည်ကတော့ သည်တစ်ပွဲမှာ နောက်သလို အတည်လိုနှင့် ရှောင်ထွက်သွားနိုင်ခဲ့သော်လည်း နောက်တစ်ကြိမ် if-by-whiskey ဖြင့် စင်ပေါ်တက်ဖို့ လွယ်မည် မဟုတ်။

စာနယ်ဇင်းသမားအဖို့မှာလည်း သည်အတိုင်းဖြစ်သည်။

နှာစေးနေ၍ မရသည့် ပြဿနာများမှာ ဝီစကီဗျူဟာဖြင့် ရပ်တည်ကြမည်ဆိုလျှင် ဝီစကီ စာနယ်ဇင်းသမား ဖြစ်သွားလိမ့်မည်။

ကျွန်တော်တို့ ဘာလုပ်ကြမည်လဲ။

ကျွန်တော်တို့ ဂျာနယ်ကို နာမည်ပေးထားသည်က 'ပြည်သူ့ခေတ်'။

ဘယ်ပြည်သူတွေကို ဆိုလိုသလဲ။ ဘာကို ရည်မှန်းသလဲ ထင်ရှားအောင် of the people, by the people, for the people ဆိုသော စာတန်းကိုလည်း ရေးထိုးထားသေးသည်။

ပြည်သူ့အတွက် ကျွန်တော်တို့ ဘယ်လောက် ဆောင်ရွက်နိုင်မည်လဲ။

သတင်းစာဆရာကြီး ဂျိုးဇက်ပူလစ်ဇာက စာနယ်ဇင်းသမားသည် စာဖတ်သူအား သတင်း အချက်အလက်ပေးခြင်း၊ ဗဟုသုတနှင့် ဉာဏ်အမြင်ကြွယ်ဝအောင် ဖြည့်တင်းပေးခြင်း အလုပ်များကိုလည်း လုပ်ရလိမ့်မည်။ သို့သော် သည်ဟာတွေထက် ပိုအရေးကြီး၍ စာနယ်ဇင်းတို့၏ အသက်ဝိညာဉ်ဟု ခေါ်ဆိုနိုင်သည့်အရာကား အမှန်ဘက်က ရပ်တည်တတ်မှု၊ ယင်းနှင့် ဆက်စပ်၍ သတ္တိရှိမှု၊ မယိမ်းမယိုင် ကြံ့ခိုင်မှု၊ လူသားအရေးကို အလေးထားမှု၊ အဖိနှိပ်ခံရသူ-နိမ့်ကျသူတို့အား စာနာထောက်ထားမှု၊ လွတ်လပ်စွာ ရပ်တည်လိုစိတ်နှင့် ပြည်သူ့အကျိုး သယ်ပိုးလိုစိတ်များ ထက်သန် ပြင်းပြနေမှုတို့ ဖြစ်သည်ဟု ဆိုခဲ့သည်။

ကျွန်တော်တို့ အဲသည်စံချိန် စံညွှန်းများနှင့် ညီညွတ်အောင် မည်မျှ စွမ်းဆောင်နိုင်မည်လဲ။

တစ်ဖက်မှာ

ကျွန်တော်တို့ကို အားပေးအားမြှောက်ပြုနေသည့် ရှေးစကားတစ်ခု ရှိသည်။ 'ကလောင်သွားသည် ဓားသွားထက် ထက်၏' (The pen is mightier than the sword.) ဟူသော စကား။

ဟုတ်ရဲ့လားဟု သံသယ ဖြစ်ဖွယ်ရှိသည်။ သို့သော် ကလောင်သမားတို့ ကတော့ ရေရှည်တွင် ကလောင်က အောင်မြင်လိမ့်မည်ဟု ယုံကြည်ကြသည်။

သို့သော် တစ်ဖက်တွင်

'နိုင်ငံရေး အာဏာသည် သေနတ်ပြောင်းဝက ထွက်သည်။ (Political power grows out of the barrels of a gun.) ဆိုသော စကားတစ်ခွန်း ရှိတာကိုလည်း ကျွန်တော်တို့ သိထားကြသည်။

ခေါင်းထဲမှာ သည်နှစ်ခု ပဋိပက္ခဖြစ်ရင်း အယ်ဒီတာ၏ ဦးခေါင်းကတော့ ဘစ်နေ့တခြား ကြီးလာလိမ့်မည် ဟုထင်နေသည်။

[ ၁ ဇူလိုင် ၂၀၁၀ ]

# အာဇာနည်

'သေတိုင်း အာဇာနည် မဟုတ်၊ ဘယ်အတွက် အသက်ပေးသွားသလဲ ဆိုသည့်အပေါ် မူတည်၍သာ အာဇာနည်ဖြစ်ရ၏' ဟူသော စကားတစ်ခု ရှိသည်။

မိမိ ကိုယ်ကျိုးအတွက် မဟုတ်၊

မတရားသော လုပ်ရပ်မျိုးအတွက် မဟုတ်၊

တိုင်းပြည်အတွက်၊ လူမျိုးအတွက်၊ ကမ္ဘာလောကအတွက်၊

လွတ်လပ်မှု၊ တန်းတူညီမျှမှုနှင့် အမှန်တရားအတွက်၊... စသည့် ဂုဏ်ကျက်သရေရှိသော အရေးကိစ္စ တစ်စုံတစ်ရာအတွက် စွမ်းစွမ်းတမံ ဆောင်ရွက်ရင်း မိမိ အသက်ကို စွန့်လွှတ်သွားခဲ့သူမျိုးကိုသာ အာဇာနည် ဟုခေါ်ရ၏။

အသိပညာသမိုင်းတစ်လျှောက် အမှောင်ထုကို ပယ်ခွင်းရန် ကြိုးပမ်းရင်း အသက်ပေးခဲ့သည့် အာဇာနည် အများအပြားရှိခဲ့သည်။

အန္တရာယ်ကို ရင်ဆိုင်၍ အမှန်တရားကို ဖော်ထုတ်တင်ပြခဲ့ကြသူတွေ။

သူတို့မှာ ရဲဝံ့မှုရှိသည်။

ယုံကြည်ချက်အတွက် အသက်ကို စွန့်လွှတ်ရဲသည့် ၎င်းပုဂ္ဂိုလ်တို့၏ သတ္တိကို ထင်ဟပ်သော စကားတစ်ခု ဂရိပညာရှိ ဆော့ခရတီးစ် ပြောခဲ့တာ ရှိသည်။

သူ့အယူအဆ သူ့စကားများကို ပိတ်ပင်ဟန့်တားလိုသူတွေ ကြီးစိုးသည့် တရားရုံးရှေ့မှောက်တွင် ဆော့ခရတီးစ်က 'အက်သင်း(စ)သားတို့ သင်တို့ ငါ့ကို လွှတ်လိုက လွှတ်နိုင်၏။ မလွှတ်လျှင်လည်း ကိစ္စမရှိ။ သို့သော် သင်တို့ မည်သို့ပြုသည် ဖြစ်ပါစေ၊ အကြိမ်ကြိမ် အဖန်ဖန် ငါသေရမည်ဆိုသည့်တိုင် ငါကား ငါ၏ လမ်းကြောင်းကို ဘယ်သောအခါမှ ပြောင်းလဲလိမ့်မည် မဟုတ် ဟူသည်ကို သိထားစေချင်သည်' ဟူ၍ ပြောဆိုကာ ဂုဏ်သိက္ခာကင်းမဲ့စွာ အသက်ရှင်ရမည့် လမ်းကို စွန့်ပယ်လျက် ဟင်းမလော့ခ် အဆိပ်ရည်ဖြင့် သေဒဏ်စီရင်ခံရမည့် လမ်းကို ရွေးချယ်ခဲ့သည်။

လွတ်လပ်ရေး တန်းတူညီမျှရေးတို့အတွက် တိုက်ပွဲဝင်ကြသူတွေလည်း အလားတူ ကြီးမားသော အန္တရာယ်ကို ရင်ဆိုင်ကြရသည်။

လူဖြူ လူမည်း ခွဲခြားမှု ပြင်းထန်သည့်ကာလ အမေရိကမှာ တန်းတူညီမျှရေးအတွက် အကြမ်းမဖက်သောနည်းဖြင့် လှုပ်ရှားတောင်းဆိုသူတွေ ရက်ရက်စက်စက် အကြမ်းဖက်ခံကြရသည်။ သို့သော် သည်ကြားထဲက

သူရဲကောင်း အများအပြား ထွက်ပေါ်ခဲ့သည်။

ယခုအခါ သမိုင်းဝင် ထင်ရှား နေပြီဖြစ်သည့် လူမည်း အာဇာနည် မာတင်လူသာကင်း (ဂျူနီယာ) ဆိုပါစို့။ အသက်ကို အကြိမ်ကြိမ် ရန်ရှာသော်လည်း နောက်မတွန့်၊ သေလုမြောပါး လုပ်ကြံခံရပြီးနောက်မှာလည်း ကြောက်ရွံ့မသွား။ နောက်ဆုံး အပြီးသတ် လုပ်ကြံခံရ၍ အသက်မဆုံးမီ တစ်ရက်အလိုမှာပင် ကြီးမားသော အသက်အန္တရာယ်ကို သိလျက်နှင့် မျက်ကွယ်ပြုကာ လူမည်း အခွင့်အရေးအတွက် ဆက်လက် တိုက်ပွဲဝင်သွားမည့်အကြောင်း ရဲဝံ့စွာ ကြေညာပြောဆိုသွားသေးသည်။

ကျွန်တော်တို့ အမျိုးသားခေါင်းဆောင်ကြီး ဗိုလ်ချုပ်အောင်ဆန်းသည်လည်း ဆိုနည်းငြင်း။

မောရစ်ကောလစ် ရေးသည့် Last and First in Burma အမည်ရှိ စာအုပ်တွင် ဘုရင်ခံ ဆာဒေါ်မန်စမစ်အား ဗိုလ်ချုပ်အောင်ဆန်း ပြောခဲ့သည့် စကားတစ်ခု ဖော်ပြထားသည်။

'အမျိုးသား သူရဲကောင်းဆိုတဲ့ ပုဂ္ဂိုလ်တွေ ဘယ်လောက် အသက်ရှည်ကြ သလဲ၊ ဒီတိုင်းပြည်မှာတော့ မရှည်ဘူး၊ သူတို့မှာ ရန်သူတွေ များလွန်းတယ်။ အလွန်ဆုံး သုံးနှစ်လောက်ပဲ အသက်ရှင်ဖို့ မျှော်လင့်နိုင်ကြတယ်။ ကျွန်တော့် ကိုယ်ကျွန်တော်တော့ နောက်ထပ် ဆယ့်ရှစ်လထက် ပိုတွက်မထားဘူး' ဟု သူဆိုခဲ့သည်။

တကယ်လည်း သည်စကားပြောပြီး တစ်နှစ်ခွဲခန့်အကြာတွင် ဗိုလ်ချုပ် အောင်ဆန်း လုပ်ကြံခံခဲ့ရသည်။

ကြီးမားသော အန္တရာယ်ကို သူ မြင်သည်။

သို့သော် မရှောင်ဖယ်ခဲ့၊ နောက်မတွန့်ခဲ့။

လွတ်လပ်ရေးအတွက် မိမိ အသက်ကို ပေးသွားခဲ့သည်။

ထို့ကြောင့် အာဇာနည်။

[ ၈ ဇူလိုင် ၂၀၁၁ ]

# တိုင်းပြည်ဖွံ့ဖြိုးရေးမှာ ဆင်းရဲသားနှင့်သူဌေး ဘယ်သူ့ဦးစားပေးမည်လဲ

ယခုအခါ ဆင်းရဲ ချမ်းသာ ကွာဟမှု တိုးပွားလာနေသည်ဟု ပြောသံဆိုသံများ မကြာခဏ ကြားလာရသည်။

ဆင်းရဲသားဦးရေ အတိုးအလျော့ကို စာရင်းဇယားမရှိ၍ မသိရသော်လည်း အချို့သော သူတို့၏ ချမ်းသာမှု လက္ခဏာများကိုကား တစ်နေ့တခြား ပို၍ မြင်လာနေရသည်။ ခေတ်ကလည်း ချမ်းသာမှုကို ဖုံးကွယ်သော ခေတ်မဟုတ်၊ ရှိသမျှ အကုန် ထုတ်ပြသောခေတ် ဖြစ်လာသည်။

တချို့လူတွေသည် အရင်ခေတ်များက မကြားဖူးသည့် အတိုင်းအတာထိ ဓနဥစ္စာတွေ ပိုင်ဆိုင်နေကြပြီး ယခင်က မမျှော်မှန်းနိုင်သည့် ရောမလုပ်ငန်းကြီးများကို ကိုယ်ပိုင်အဖြစ် လုပ်ကိုင်ခွင့်ရနေကြတာလည်း အများတွေ့မြင်နေရသည်။ သည်ဟာနှင့် ပတ်သက်၍ အမြင်နှစ်မျိုး ရှိနေသည်။

တချို့က၊

ဆိုရှယ်လစ်ခေတ်တုန်းက အားလုံး ဆင်းရဲကြသည်။ အခွင့်ထူးခံ ပုဂ္ဂိုလ်များပင် အိမ်တစ်လုံးထက် နှစ်လုံး ပိုင်ဆိုင်ဖို့မလွယ်။ ဆန်၊ ဆီ ခွဲတမ်းအပိုကို ရောင်းချရတာနှင့်ပင် ကြွယ်ဝလှပြီ ထင်ခဲ့ကြသည်။ သည်နေ့က ဈေးကွက်စနစ် ဖြစ်လာပြီ။ အဲသည်တော့ တချို့လုပ်ငန်းသမားတွေ ချမ်းသာလာမှာ သဘာဝ ဖြစ်သည်။ ဒါကို အမြင်မတိုသင့်၊ ဟုဆိုသည်။

ဒါကိုပင် စီးပွားရေးပညာ ရှုထောင့်က ပြောကြတာလည်း ရှိသည်။ သည်လို နိုင်ငံမျိုးတွေမှာ တိုင်းပြည်ဖွံ့ဖြိုးရေး လုပ်သည့်အခါ ကနဦး၌ ချမ်းသာသူတချို့ ချမ်းသာသွားလိမ့်မည်။ အဲသည်အခါ ဆင်းရဲချမ်းသာ ပိုကွာဟသလို မြင်ရလိမ့်မည်။ သို့သော် ကိစ္စမရှိ၊ သူတို့ကို အစိုးရက အားပေးရမည်။ သူတို့လုပ်ငန်းတွေ အောင်မြင်သဖြင့် တိုးတက်ချဲ့ထွင်သည့်အခါ အောက်ဘက် အဆင့်ဆင့်က လူတွေ အလုပ်အကိုင် ရကြလိမ့်မည်။ အဲသည်ခါ သုံးနိုင်စွဲနိုင် ဖြစ်လာကြမည်၊ ဟူ၍ ဆိုကြသည်။ တစ်နည်းပြောရသော် ထိပ်ဆုံးက လူချမ်းသာတို့၏ ဓနငွေကြေးသည် အောက်ဘက်ရှိ အလယ်အဆင့် လူများ၊ ထို့နောက် ဆင်းရဲသားများဆီသို့ တဖြည်းဖြည်း စိမ့်ယိုစီးကျလာလိမ့်မည် ဟူသောသဘော ဖြစ်သည်။ ဒါကို trickle down effect ဟု သူတို့ ဆိုကြသည်။

သူဌေး မဟုတ်သူများ အဖို့တော့ သည်အယူအဆ တစ်ဖက်သတ် ကျလွန်းနေတာ အထင်အရှား ဖြစ်သည်။

အောက်လွှတို့ကို အခြေပြု စဉ်းစားကြသူတို့ကတော့၊

အောက်ဘက်ရှိ လုပ်ငန်းအလတ် အသေးများ ရှင်သန်လျှင် တိုင်းပြည်ရှိ ဦးနှောက်ပေါင်းစုံတို့ တီထွင်ကြံဆ လုပ်ကိုင်ခွင့်များ ရသဖြင့် ကဏ္ဍအရပ်ရပ်မှာ တိုးတက်မှု ရှိလိမ့်မည်။ ထို့ပြင် အောက်လွှတို့ ကိုယ်စွမ်းကိုယ်စဖြင့် လုပ်ကိုင်ရင်း အတိုင်းအတာအလျောက် အဆင်ပြေကာ ဝယ်နိုင်ခြမ်းနိုင် ရှိလာလျှင် လုပ်ငန်းကြီးသမားတို့အတွက် ပြည်တွင်းဈေးကွက် တိုးတက်သော သဘောဖြစ်၍ ပိုမို ကြွယ်ဝအောင် လုပ်ကိုင်ရန် အခွင့်အလမ်းများ ရကြလိမ့်မည် ဟုဆိုသည်။ ဒါကို အောက်ခြေက ခနွေကြေးများ အထက်သို့ စိမ့်တက်ခြင်း (trickle up effect) ဟု သူတို့က အပြန်အလှန် သုံးနှုန်းပြောဆိုသည်။

သူတို့ ဆိုချင်သည်က၊

လောလောဆယ် ဆင်းရဲသားကို ဦးစားပေးပါ။ သည့်အတွက် ချမ်းသာသူတွေ မနစ်နာ၊ နောက်ပိုင်းမှာ သူတို့ ပိုချမ်းသာလာပါမည် ဟူသောသဘောဖြစ်သည်။

သည်အယူအဆက ပို၍ မျှတသည်ဟု ကျွန်တော်တို့ မြင်ပါသည်။

[ ၁၅ ဇူလိုင် ၂၀၁၀ ]

# အမြင်မတူသူများ အတူယှဉ်တွဲနေထိုင်နိုင်ရေး

'လက်ထဲမှာ ပန်းသီးတစ်လုံးစီရှိသူနှစ်ဦး ဖလှယ်ကြလျှင် တစ်ယောက် ပန်းသီး တစ်လုံးစီပဲ ဆက်ရှိနေမည်။ တစ်ယောက် စိတ်ကူးတစ်ခုစီ ရှိသူနှစ်ယောက် စိတ်ကူးချင်းဖလှယ်ကြလျှင်မူ တစ်ယောက်စိတ်ကူး နှစ်ခုစီ ရှိလာကြလိမ့်မည်' တဲ့။

အင်္ဂလိပ်စာရေးဆရာကြီး ဘားနာ့ဒ်ရှောပြောခဲ့သောစကား ဖြစ်သည်။

မတူသော အမြင်တွေ ညှိနှိုင်း ဖလှယ်ခြင်းဖြင့် အကျိုးမယုတ်နိုင်ကြောင်း ထောက်ခံသော စကားတစ်ခုအဖြစ် ကျွန်တော်တို့ ကောက်ယူချင်သည်။

သဘောထား အမြင်ဟူသည် လူတစ်ဦးချင်း တို့၏ ယုံကြည်ချက်များ၊ သို့မဟုတ် နာခံမှတ်သား လာခဲ့သည်များပေါ်တွင် မူတည်နေတတ်သည်။ ယင်းသိမှတ်ချက်များပေါ်တွင် မူတည်၍ ပြဿနာ ရပ်များအပေါ် လူတို့သုံးသပ်သည့် ရှုထောင့်များ ကွဲပြားကြသည်။ ရှုထောင့်မတူသည့်အခါ ကောက်ချက်လည်း မတူတော့။

ထို့ပြင် သက်ဆိုင်ရာ ပြဿနာနှင့် စပ်လျဉ်း၍ ဘယ်ရွေ့ဘယ်မျှ သိရှိ နားလည်သနည်း ဟူသည့် အပေါ်မူတည်၍လည်း ထင်မြင်ချက်များ ကွဲလွဲ တတ်ကြသည်။

ထို့နောက် လူတစ်ဦးချင်း၏ စရိုက်သဘာဝ၊ အချိန်အခိုက်အတန့်တစ်ခုမှာ ရှိသည့် ၎င်း၏ စိတ်အနေအထား၊ ထို့ပြင် တချို့လူများမှာ တချို့ကိစ္စများနှင့် စပ်လျဉ်း၍ ဘာကြောင့်ဟု သေသေချာချာ မပြောနိုင်ဘဲ ရှိနေတတ်သည့် အထူးနှစ်သက်မှု အထူး မနှစ်သက်မှုများ၊ စတာတွေပေါ် မူတည်၍လည်း သဘောထားတွေ၊ ကောက်ချက်တွေက ကွဲလွဲနိုင်ကြသည်။

ထို့ကြောင့် လူတစ်ယောက်နှင့် တစ်ယောက် ကိုထား၍ လူတစ်ဦးတည်းပင် သည်ကနေ့နှင့် မနက်ဖြန် သဘောထားချင်း ခြားနားနေနိုင်သည်။

မည်သို့ဖြစ်စေ အဲသည်အကြောင်းကြောင်းတွေဖြင့် မိမိခေါင်းထဲတွင် ဖွဲ့စည်းဖြစ်ပေါ်လာသည့် သဘောထားအမြင်တစ်ရပ်ကို အမှန်ဟု မှတ်ယူကာ အဲသည် အမြင်မှန်ကန်ကြောင်း အကျိုးအကြောင်းတွေ၊ အထောက်အထား သာဓကတွေလည်း ရှာဖွေတင်ပြတတ်ကြသည်။

သည်လိုဖြင့် သဘောထားအမြင်ဆိုတာတွေ လူ့ဝန်းကျင်ထဲမှာ ပျံ့နှံ့တည်ရှိနေကြခြင်း ဖြစ်သည်။

တချို့က ခပ်ဆင်ဆင်၊ တချို့က နည်းနည်း ကွဲပြားသည်။ တချို့က တစ်ခုနှင့်တစ်ခု လုံးဝ ဆန့်ကျင်ဘက်။

သည်အခါ တူတာတွေမှာ ပြဿနာမရှိသော်လည်း မတူတာနှင့်ပတ်သက်၍ ဆက်စပ် စဉ်းစားစရာ ရှိလာသည်။ အဲဒါက သဘောထားအမြင်များနှင့် စပ်လျဉ်း၍ မည်သို့ သဘောထားကြမည်နည်း ဟူသောအချက် ဖြစ်သည်။

သူ့အယူအဆမမှန်၊ ငါ့အယူအဆသာ မှန်သည်၊ ထို့ကြောင့် သူ့အယူအဆ ပျောက်စေရဟူ၍ သဘောထားမည်လား။

သူ့အယူအဆ မမှန်ကြောင်း၊ ငါ့ အယူအဆ မှန်ကြောင်း သူ သိမြင်လာအောင် အကျိုးအကြောင်း အထောက်အထားဖြင့် ငါ ပြောမည်။ တစ်ချိန်တည်းမှာ ငါ့အယူအဆ မှန်သည်ဟုချည်း အသေ ဆုပ်ကိုင်မထား၊ သူ့အယူအဆကို သူရှင်းပြ၍ ကျိုးကြောင်းထောက်ထား ခိုင်လုံလျှင် ငါလက်ခံမည် ဟူ၍ သဘောထားမည်လား။

သူ့အယူအဆ မရှိစေရဟူသော သဘောထားပြင်းထန်သူတွေကတော့ အယူအဆရော အယူအဆကိုင်စွဲသူကိုပါ အသေချေမှုန်းဖို့၊ အမြစ်ဖြုတ်သုတ်သင်ဖို့ အားထုတ်ခဲ့ကြတာတွေ ရှိသည်။ အဲဒါကြောင့် တစ်ဦးချင်းတွေကို ကားစင် တင်တာ၊ မီးရှို့စီရင်တာ၊ ခြသေ့်စာကျွေးတာတွေ လုပ်ခဲ့ကြသည်။ လူမျိုး ဆိုက်၊ ဘာသာလိုက် သွေးချောင်းစီး စစ်ပွဲကြီးတွေလည်း ဆင်နွှဲခဲ့ကြသည်။ သည်ကနေ့လည်း သည်လုပ်ရပ်မျိုးတွေ ရှိနေဆဲ။

သို့သော်၊ သည်လို အကြမ်းပတမ်းနည်းတွေဖြင့် သူတစ်ပါးခေါင်းထဲက အယူအဆကို ဖောက်ထုတ်ရှင်းလင်း၍ မရနိုင်၊ မိမိ ပြောဆိုစည်းရုံး၍ ပြောင်းလည်း သူ့သဘောနှင့်သူ ရှိပါစေ၊ သူ့မှာလည်း သူနှစ်သက်ရာ ကိုးကွယ်ခွင့်ရှိသည်ပဲ၊ ဟူသော သဘောထားမျိုးလည်း လူအတော်များများ ခေါင်းထဲမှာ ရှေးတုန်းကတည်းက ရှိခဲ့သည်။

'ခင်ဗျား ပြောတာတွေ ကျုပ် သဘောမတူဘူး၊ ဒါပေမဲ့ ခင်ဗျားရဲ့ ပြောဆိုပိုင်ခွင့်ကိုတော့ ကျုပ် အသက်ပေးပြီး ကာကွယ်သွားမယ်' (I disapprove of what you say, but I will defend to death your right to say it.) ဟု ပြင်သစ်တွေးခေါ်ရှင် ဗော်လတဲယား (Voltaire) က ပြောခဲ့ဖူးသည်။

မတူသော အယူအဆကို သည်းခံနိုင်မှုအပေါ် သူ ဘယ်လောက် တန်ဖိုး ထားကြောင်း ဖော်ပြခြင်း ဖြစ်သည်။

တရုတ်ခေါင်းဆောင်ကြီး မော်စီတုန်းကလည်း ပန်းပေါင်းတစ်ရာ ပွင့်ပါစေ၊ အတွေးအခေါ် ဂိုဏ်းပေါင်းတစ်ရာ ယှဉ်ပြိုင်ကြပါစေ။ (...Let a hundred flowers blossom and a hundred schools of thought contend...) ဟူသော သဘောထားကို အသိပညာ အတတ်ပညာများ ဖွံ့ဖြိုးတိုးတက်ရေးဆိုင်ရာ မူဝါဒတစ်ရပ်အဖြစ် ထုတ်ပြန်ကြေညာခဲ့ဖူးသည်။

ပတ်ဝန်းကျင်မှာ အယူအဆ အများအပြား လှုပ်ရှားရှင်သန်နေသော် ယင်းတို့နှင့် ချိန်ထိုးညှိနှိုင်းရင်း မိမိအယူအဆ ပို၍ကြွယ်ဝပြည့်စုံလာနိုင်သည်ဟု ခံယူသောသဘော ဖြစ်ပါသည်။

သည်နေ့ခေတ်မှာတော့ ကွဲပြားခြားနားမှုတွေကို အသိအမှတ်ပြုရေး၊ အပြန်အလှန် သည်းခံတတ်ရေး၊ မတူတာတွေထားကာ တူညီရာမှာ ပူးပေါင်းဆောင်ရွက်ရေး ဟူသောအယူအဆ ထွန်းကားကျယ်ပြန့်လာနေသည်ဟု ကျွန်တော်တို့ ရှုမြင်သည်။ လူအများစုဝေးရာ ကဏ္ဍာနယ်ပယ်အသီးသီးမှာပင် ဦးနှောက်မုန်တိုင်းဆွေးနွေးဝိုင်း ဟုဆိုကြသည့် စိတ်ကူးမျိုးစုံတွေ တိုးတိုက်ဖလှယ်သော စည်းဝေးပွဲတွေ ပြုလုပ်လာကြခြင်းသည် မတူသော အယူအဆများကြားမှ ပို၍ထူးခြားကောင်းမွန်သော အယူအဆသစ်တို့ ပေါ်ထွက်လာနိုင်ကြောင်း ယုံကြည်သူတွေ များပြားလာသည့် သာဓကတစ်ခု ဖြစ်သည်။

အားလုံးသိကြသည့် မျက်မမြင်ပုဏ္ဏား ခြောက်ယောက် ပုံပြင်ကိုပင် စဉ်းစားကြည့်ပါ။ ပုဏ္ဏားတွေသည် ငါသိတာအမှန်၊ ငါကိုယ်တိုင် ကိုင်ကြည့်လာတာဟု တစ်ယူသန် စွဲမနေဘဲ၊ သူတို့လည်း ငါကဲ့သို့ပင် စမ်းသပ်သိရှိလာခဲ့တာဖြစ်နိုင်သည်ဟု သဘောထားကာ အတူတကွ နှီးနှောဖလှယ်ကြမည်ဆိုက ဆင်နှင့်ပတ်သက်၍ အနီးစပ်ဆုံး ပုံသဏ္ဍာန်ကို ဖော်ထုတ်ရရှိနိုင်ကြလိမ့်မည်ဟု ကျွန်တော်တို့ မြင်ပါသည်။

•

[ ၂၀ ဇူလိုင် ၂၀၁၀ ]

# စစ် နှင့် ငြိမ်းချမ်းရေး

လူတွေ အစုအဝေးနှင့် နေလာစကတည်းက စစ်တိုက်ခဲ့ကြသည်။

စားနပ်ရိက္ခာအတွက် လူအုပ်စုတစ်ခုနှင့်တစ်ခု တိုက်ခိုက်ကြသည်။ နယ်မြေအတွက် တိုက်ခိုက်ကြသည်။ မိမိကို ရန်ပြုမှာ စိုးသည့်အတွက် မိမိက အရင်တိုက်ခိုက်သည်။ သည့်အပြင်၊ အမျိုးမတူသည့်အတွက်၊ ဘာသာ မတူသည့်အတွက်၊ သယံဇာတအတွက်၊ အင်ပိုင်ယာချဲ့ထွင်ရန် အတွက်၊ မဟာမိတ်များနှင့် ကတိကဝတ်ရှိသည့်အတွက် စသည့် အကြောင်းကြောင်းတို့ဖြင့် စစ်တိုက်ကြသည်။

ဘာကြောင့် သည်လို ဖြစ်ရသလဲ။

လူ၏ ပင်ကိုသဘာဝမှာပင် ရန်လိုသောစိတ်က လွှမ်းမိုးနေသည်ဟု ဆိုရမည်လား။

ပြင်သစ်တွေးခေါ်ရှင် မွန်တိန်း (Michel de Montaigne) ကတော့၊ လောက၌ လူလောက် ဆိုးဝါးကောက်ကျစ်သောသတ္တဝါ မရှိဟု ဆိုသည်။ ဂျာမန်တွေးခေါ်ရှင် ရှိုပင်ဟောင်ဝါ (Arthur Schopenhauer) ကလည်း၊ ယေဘုယျတွင် လူဟူသည်ကို ယဉ်ကျေးမှုစနစ်၏ လှေ့ကျင့်ထိန်းကျောင်းမှု အောက်၌ မြင်နေတွေ့နေကြရတာ ဖြစ်သည်၊ ပင်ကိုမူလသဘောအရမူ လူဟူသည် ရိုင်းစိုင်း ကြမ်းကြုတ်၍ ကြောက်မက်ဖွယ်ကောင်းသော သတ္တဝါတစ်မျိုး ဖြစ်သည်၊ ဟုဆိုခဲ့သည်။ လူတွေ၏ သမိုင်းကြောင်းကို လေ့လာရာက အဲသည်လို အဆိုးဘက်ကောက်ချက်တွေ ထွက်လာခဲ့ခြင်း ဖြစ်လိမ့်မည်။

စစ်ပွဲများအကြောင်း သုတေသနပြုသူတို့၏ တွေ့ရှိချက်များကလည်း ၎င်းတို့အမြင်ကို ထောက်ခံအတည်ပြုသလို ရှိနေသည်။ သမိုင်းတစ်လျှောက် ပေါ်ပေါက်တည်ရှိခဲ့သည့် လူ့အဖွဲ့အစည်း (မြို့၊ ပြ၊ တိုင်းပြည်၊ လူမျိုးစု စသည်)တို့၏ ၉၀–၉၅ ရာခိုင်နှုန်းသည် အနည်းဆုံး ရံဖန်ရံခါ စစ်တိုက်လေ့ရှိခဲ့ကြပြီး အချို့ဆိုလျှင် စစ်ပွဲပြတ်သည်ဟူ၍ပင် မရှိဟု ဆိုသည်။

စောစောပိုင်းကာလမှာ ကျောက်တုံး ကျောက်ခဲများ တုတ်တိုတုတ်ရှည်များနှင့် တိုက်ခိုက်ပြီး၊ နောက်တွင် ဓားလှံ လေးမြား၊ ထို့နောက် အမြောက် သေနတ် စတာတွေဖြင့် တိုက်ကြသည်။ နောက်ဆုံးတော့ အဏုမြူလက်နက်၊

သုတေသီတို့က အံ့ဩစရာအချက်တစ်ခုကိုလည်း တွေ့ရှိခဲ့သည်၊

အဲဒါက စစ်ပွဲဆင်နွှဲသူဦးရေနှင့် သေဆုံးသူဦးရေတို့ကို အချိုးချ[illegible] ခေတ်သစ်စစ်ပွဲ ကြီးများမှာထက် မျိုးနွယ်စုများအကြားတိုက်[illegible] ခေတ်ဟောင်းစစ်ပွဲများက သေဆုံးသူ အချိုးအစား ပိုများသည်ဟု[illegible]

ဖြစ်သည်။ အကြောင်းက စစ်ကြီးများတွင် အနိုင်ရရေး၊ သိမ်းပိုက်နိုင်ရေးသည် အဓိကဦးစားပေးဖြစ်သော်လည်း မျိုးနွယ်စုစစ်ပွဲများတွင်မူ မျိုးဖြုတ်သတ်ဖြတ်နိုင်ဖို့ကို အဓိက အားထုတ်ကြသောကြောင့် ဖြစ်သည်။

သို့သော် သည့်အတွက် ခေတ်သစ်စစ်ပွဲတွေက သက်သာသည်ဟု မဆိုလို။ ခေတ်သစ် စစ်ပွဲများတွင်လည်း လူမျိုးတုံးသတ်ဖြတ်သည့် အစိတ်အပိုင်းတွေ ရှိနေသေးသည်။ ထို့ပြင် သုံးစွဲသည့် စစ်လက်နက်ပစ္စည်းတွေက အင်အားပြင်းထန်လှသည်ဖြစ်ရာ သေကြေပျက်စီးမှုလည်း ကြီးမားလှသည်။ ထို့ပြင် မြို့ ကြီးပြကြီးတွေပါ စစ်မြေပြင် ဖြစ်လာသဖြင့် လက်နက်ကိုင် တိုက်ခိုက်သူတွေထက် အရပ်သူအရပ်သားတို့ ပို၍ပင် သေဆုံးရသည်။

ဒါကြောင့်လည်း လူ့သမိုင်းတစ်လျှောက် ဖြစ်ခဲ့သမျှ စစ်ပွဲကြီးများထဲတွင် ဒုတိယကမ္ဘာစစ်သည် အသေအပျောက်အများဆုံး စာရင်းပေါက်ခဲ့ခြင်း ဖြစ်သည်။ နိုင်ငံပေါင်းစုံမှ သေဆုံးသူ ဦးရေ စုစုပေါင်းသည် သန်းပေါင်း ၆၀–၇၀ မျှ ရှိသည်ဟု ဆိုသည်။

စစ်ကြီးပြီးကာနီးမှာ အဏုမြူဗုံးနှစ်လုံး သုံးခဲ့သော်လည်း အဏုမြူစစ်ဟုတော့ မဆိုနိုင်။ သို့တိုင် အောင် ထိုဗုံးနှစ်လုံး ကြဲချခံရသည့် ဟီရိုရှီးမားနှင့် နာဂါဆကီမှ အဖြစ်ဆိုးသည် ၆ နှစ်တာ ဖြစ်ပွားခဲ့သည့် ဒုတိယကမ္ဘာစစ်အတွင်း ကြောက်မက်ဖွယ်အကောင်းဆုံးဖြစ်ရပ်အဖြစ် လူသားတို့စိတ်အာရုံ၌ စွဲထင်ခဲ့သည်။

သည်နောက်ပိုင်းမှာ ကမ္ဘာစစ် ဖြစ်မည်ဆိုလျှင်ကား ရာထောင်ချီသော အဏုမြူလက်နက်မျိုးစုံတို့ကို သွန်ထုတ်သုံးစွဲကြမည်ဖြစ်ရာ ကမ္ဘာပေါ်တွင် လူသားဟူ၍မျှ ကျန်နိုင်ပါဦးမလား တွေးတောဖွယ်ဖြစ်သည်။ သိပ္ပံပညာရှင်ကြီး အိုင်စတိုင်း(Albert Einstein) အား တတိယကမ္ဘာစစ်ကြီး ဖြစ်လျှင် မည်သို့သောအရာများဖြင့် တိုက်ခိုက်ကြလိမ့်မည်နည်း မေးသည့်အခါ အိုင်စတိုင်းက 'တတိယကမ္ဘာစစ်မှာ ဘာလက်နက်တွေနဲ့ တိုက်ခိုက်ကြမလဲ ကျွန်တော် မသိဘူး။ စတုတ္ထကမ္ဘာစစ် ကျရင်တော့ တုတ်တွေ၊ ကျောက်ခဲတွေနဲ့ တိုက်ခိုက်ကြလိမ့်မယ်' ဟူ၍ ဖြေခဲ့သည်။

အကယ်၍ ကံကောင်းထောက်မသဖြင့် တတိယကမ္ဘာစစ် အပြီးတွင် လူတချို့ ကျန်ခဲ့ဦးမည်ဆိုလျှင်ပင် လူ့ယဉ်ကျေးမှုစနစ်ကြီးကတော့ ပျက်စီးသွားမှာ သေချာသဖြင့် လူသားတွေ ကျောက်ခေတ်က ပြန်စရလိမ့်မည် ဟူသောသဘော ဖြစ်သည်။

အဲသည် အနေအထားကို သိသည့်တိုင် တိုက်မလား၊ ခိုက်မလားနှင့် တဖောင်ဖောင် လုပ်နေကြတာတွေကတော့ ကမ္ဘာအနှံ့မှာ ရှိမြဲရှိနေသည်။ အဏုမြူ မတော်တဆ ဖြစ်မှုမှနေ၍ ရုတ်တရက် လန့်ဖျပ်ကာ တစ်ယောက်ကို

ဘာစ်ယောက် လက်ဦးအောင် ထတိုက်ရာက မထင် မှတ်ဘဲ စစ်ကြီးဖြစ်သွားနိုင်သည်ဟု စိုးရိမ်သူတွေလည်း စိုးရိမ်ကြသည်။ သည့်အပြင် တခြား စိုးရိမ်စရာ အကြောင်း သစ်တွေလည်း ဆက်၍ဆက်၍ ဖြစ်ပေါ်လာနေသည်။

သည်လိုကာလမှာ အားကိုးနိုင်သည်က လူသားအချင်းချင်းကိုပဲ ဖြစ်သည်။

လူသားမှာ ရန်လိုတိုက်ခိုက်ချင်စိတ် အမဲလိုက်သမားစိတ်တွေချည်း ရှိသည်မဟုတ်။ မေတ္တာကရုဏာစိတ်၊ သည်းခံခွင့်လွှတ်စိတ်၊ ရိုင်းပင်းကူညီစိတ်များ လည်း ရှိသည်။ သည့်အပြင် အများအကျိုးကိုကြည့်ကာ ဉာဏ်အမြော်အမြင်ရှိရှိစွာ ချေးစားလုပ်ကိုင်တတ်သော စွမ်းရည်လည်း ရှိသည်။

သည်စွမ်းရည်တွေက လူသားကို ပျက်စီးမှုအန္တရာယ်မှ ကယ်တင်ပေလိမ့်မည်။

ဒေါသအာဃာတနှင့် အနိုင်ယူစိုးမိုးလိုစိတ်များ ကြီးမားကြသူတို့ကြောင့် သခင်က စစ်ကြီးများ ဖြစ်ပွားခဲ့ကြသည်။ သို့သော် တစ်ကမ္ဘာလုံး ပျက်သုဉ်း သွားနိုင်သည့် သည်ကနေ့ အနေအထား ရောက်ရှိလာချိန်၌မူ မတူညီသည်တို့ကို သည်းခံ၍ လူတစ်ဖက်သားတို့အား မိမိနှင့် တန်းတူရည်တူများအဖြစ် သိမှတ်လက်ခံနိုင်စွမ်းရှိသည့် ဉာဏ် အမြော်အမြင်သမားတို့က ငြိမ်းချမ်းရေးကို ထိန်းသိမ်းနိုင်ကြလိမ့်မည်ဟု မျှော်လင့်ယုံကြည်မိပါသည်။

[ ၂၈ ဇူလိုင် ၂၀၁၀ ]

# ဘာကြောင့် ဒီမိုကရေစီ လိုချင်ရသလဲ

လူအများက ဒီမိုကရေစီ ဆိုသော စကားကို တဖွဖွ ပြောသောအခါ တချို့လူတွေ နားကြားပြင်းကတ်ကြသည်။ ကိုယ်မကြိုက်သောသူ့အကြောင်းကို တမ်းတမ်းတတ ပြောနေတာ သည်းမခံတတ်သော သဘာဝကြောင့် ဖြစ်ပါသည်။

အဲသည်လို နားကြားပြင်းကတ်သူတွေက 'ဒီမိုကရေစီဆိုတာ မင်း ဘယ်လောက်နားလည်လို့ ပြောနေသလဲ။ သူများပြောသံကြားတိုင်း လိုက်ယောင် မနေနဲ့' စသဖြင့် တစ်ဖက်လူ ပါးစပ်ပိတ်သွားအောင် ဖိပြောတတ်ကြသည်။

တကယ်လည်း သည်ပုဂ္ဂိုလ်တွေ ပြောသလို 'မင်း ဘယ်လောက်နားလည် သလဲ' မေးလျှင် 'ကျွန်တော် သိပ်တော့နားမလည်ပါဘူး' ဟု ဝန်ခံရသူတွေ များလိမ့်မည်။ သို့သော် 'ခင်ဗျားကော' လို့ ပြန်မေးလျှင် သူကော ဘယ်လောက် ကျကျနန ဖြေနိုင်မည်လဲ။

အကြောင်းအရာတစ်ရပ်ကို ခံစားနားလည် ယုံကြည်တာနှင့် အမေးမြန်း အစစ်ကြောခံနိုင်တာ မတူပါ။ အများပြည်သူတွေသည် နိုင်ငံရေးသဘော တရားတွေ၊ ကျမ်းဂန်အဆိုအမိန့်တွေကို ရွတ်ဖတ် သရဇ္ဈာယ်မနေသော်လည်း သူတို့ရင်ထဲမှာ ဒီမိုကရေစီစနစ်၏ အနှစ်သာရတွေ အခိုင်အမာ အမြစ်တွယ် နေသည်။

တခြားဟာတွေ မသိသော်လည်း ဒီမိုကရေစီဆိုလျှင် လွတ်လပ်မှုရှိမည်၊ တရားမျှတမှုရှိမည် ဟူ၍ လူတွေ သိကြသည်။

လွတ်လပ်မှုကို လိုချင်တာ လူ့ပင်ကိုသဘာဝဖြစ်သည်။ လွတ်လပ်မှု ရှိမှလည်း သူ့အသက်ရှင် ရပ်တည်မှုအတွက် သူ အားထုတ်နိုင်မည်။ ကျွန်ဘဝ ရောက်နေသော တိုင်းပြည်သည် နာလန်မထူနိုင်သကဲ့သို့ လွတ်လပ်မှုကင်းမဲ့သော သူသည်လည်း လူလုံးလှနိုင်မည်မဟုတ်။ ထို့ကြောင့်လည်း လူတိုင်းလူတိုင်း လွတ်လပ်စွာ မွေးဖွားလာခဲ့သည်ဟူသော စကားတစ်ခုကို လူမျိုးတစ်ရာ့တစ်ပါးတို့ အထူးတလည် အရေးတယူပြုပြီး ရေးခဲ့၊ မှတ်ခဲ့၊ အတည်ပြုခဲ့ကြတာဖြစ်သည်။ လွတ်လပ်မှုသည် လူ၏ မွေးရာပါပစ္စည်း။ သူ့ပစ္စည်း သူပိုင်ရမည်။ သူ မပိုင်လျှင် အခြားသူတစ်ဦးတစ်ယောက်က ရယူသိမ်းဆည်းထား၍ ဖြစ်မည်။ အဲဒါဆိုလျှင် ဘယ်မှာ တရားမျှတပါမည်လဲ။

လွတ်လပ်မှုဟု ဆိုလိုက်သည့်အခါ ဘာတွေ လွတ်လပ်ချင်တာလဲ။

ကိုယ့်ဝမ်းစာ ကိုယ်ရှာစားသည့်အခါမှာ အနှောင့်အယှက် အဟန့်အတား မများဖို့ ဖြစ်သည်။

ကိုယ့်အိမ်ကိုယ့်ရာမှာ နေထိုင်သည့်အခါ လုံခြုံစိတ်ချရမှုရှိဖို့ ဖြစ်သည်။

လူအများနှင့် ပတ်သက်သည့် ကိစ္စများမှာ ကိုယ်စိတ်ဝင်စားတာတွေ ဝင်လုပ်ပြီး မဝင်စားတာတွေမလုပ်ဘဲ အေးအေးဆေးဆေးနေနိုင်ဖို့ ဖြစ်သည်။

ရပ်နှင့်ရွာနှင့်နေသည့်အခါ အများနှင့် ဆက်ဆံပေါင်းသင်းရလိမ့်မည်ဟု သူတိုင်း သိကြသည်။ အဲသည်လို ဆက်ဆံရသည့်အခါ အသင့်အတင့် သည်းခံရ လိုက်လျောရ၊ အနစ်နာခံရတာတွေ ရှိမည် ဆိုတာလည်း လူတိုင်း နားလည်ကြသည်။ သို့သော် 'အသင့်အတင့်'သာ လက်ခံနိုင်ကြလိမ့်မည်။

လူအများ ရောနှောနေသည့်အခါ တစ်ဦးကိုတစ်ဦး စည်းရုံးတာ၊ ဆွဲဆောင်တာတွေ ရှိမည်။ သဘောတူလျှင် ပါသွား၊ မတူလျှင် အသင့်အတင့် လက်ခံနားထောင်၊ သည့်ထက်မက ဆိုလျှင်တော့ တော်ပါတော့ဗျာဟု ဆိုလိမ့်မည်။

အလုပ်အကိုင် အဆင်မပြေသည့် မိတ်ဆွေအား 'ခင်ဗျား မုန့်ဟင်းခါး မရောင်းနဲ့ဗျာ။ ကျုပ်ဝပ်ရှော့လာ လုပ်။ ဘယ်လောက်ပေးမယ်'ဟု ဆို၍ ရပါသည်။ သို့သော် လက်ခံမခံက သူ့သဘော ဖြစ်သည်။ အရေးတကြီး အသည်းအသန် အနေအထားမျိုးမှာ ကျေးဇူးတတင် လက်ခံချင် လက်ခံမည်။ သို့မဟုတ်လျှင်တော့ စဉ်းစားဖို့ များသည်။ သူပြောတာ ငါ့အတွက်လား၊ သူ့အတွက်လား။ စေတနာနဲ့ ပြောတာပဲဟု ယုံကြည်လျှင်ပင် သူ့စေတနာသည် ကိုယ့်အတွက် အကျိုးဖြစ်မလား၊ မဖြစ်ဘူးလား ...။ မုန့်ဟင်းခါးဆိုင်က အကျိုးအမြတ် မသေချာ၊ သို့သော် ကိုယ်ပိုင်ဖြစ်သည်၊ လွတ်လွတ်လပ်လပ် လုပ်နိုင်သည်။ ဝပ်ရှော့မှာ လုပ်လျှင် သူ့အလုပ်သမားဖြစ်လိမ့်မည်၊ လခ သေချာလျှင်ပင် လွတ်လပ်မှုတော့ မရှိ ... စသဖြင့်။

လူသည် ကိုယ့်တစ်ဝမ်းတစ်ခါးကို ကိုယ့်ဘာသာ လွတ်လပ်စွာ ရှာစားချင်သောစိတ် ရှိသည်။ ထို့ကြောင့်လည်း လူအများကို ဖိကုပ် နတ်ပြည်တင်ပေးချင်သည့် ဗဟိုဦးစီးစနစ်များနှင့် အများပြည်သူတို့ သဟဇာတမတည့်ကြခြင်း ဖြစ်သည်။

မလွတ်လပ်ခြင်းကို မနှစ်သက်သလို တရားမျှတမှု မရှိခြင်းကိုလည်း လူတို့ မလိုလား။

ကလေးတွေအားလုံး မုန့်တစ်ယောက်တစ်ခုစီ ဝေသည့်အခါ ကိုယ့်မုန့်[illegible] နေလျှင် သဘောမကျ။ ကိုယ်တစ်ခုရပြီး သူနှစ်ခုရလျှင်လည်း လက်[illegible] ကျောင်းသားဘဝ၌ စာမရတာချင်းအတူတူ ဆရာမက သူ့ကို ခင်[illegible] ချက်ရိုက်ပြီး ကိုယ့်ကျတော့ ခပ်နာနာ နှစ်ချက်ရိုက်လျှင် သ[illegible] စာမေးပွဲမှာ အဖြေမှန်တာချင်းတူပါလျက် သူ့ကျတော့ အမှတ်[illegible] ကိုယ့်ကျတော့ ကတ်ကတ်သတ်သတ်အမှတ် လျှော့ထားတာ [illegible]

လူကြီး ဖြစ်လာသည့်အခါမှာလည်း ထိုနည်းငှင်း ...။

တရားရုံးမှာ ငွေများ တရားနိုင်တာ၊ မျက်နှာကြီးရာ ဟင်းဖတ်ပါတာ လက်မခံနိုင်။ တရားဥပဒေသည် တရားမျှတမှုရှိရမည်။ တရားရုံးသည် မျက်နှာမလိုက်ရ။ တစ်ဖက်သတ် မစီရင်ရ။ ပြန်လှန်ခုခံ ချေပခွင့်ရှိရမည်။ နှစ်ဘက်ရှေ့နေတွေ ပြောကြဆိုကြ၊ လျှောက်လဲကြ။ တရားသူကြီးက သမာသမတ်ကျစွာ ဆုံးဖြတ်။

သည်လိုပဲ ...။

ရပ်ထဲရွာထဲမှာ ကိုယ်အမြင်မတော်တာတွေ ရှိသည်။ အဲဒါတွေ ပြုပြင် မွမ်းမံချင်သည်။ ကောင်းအောင် လုပ်ပေးချင်သည်။ အဲဒါတွေ လုပ်နိုင်ရန် အတွက် ရပ်ကွက်လူကြီးရွေးပွဲ၊ ရွာသူကြီးရွေးပွဲတွေ ဝင်ဖို့ လိုသည်ဆိုလျှင် သူဝင်ခွင့်ရှိသလို ကိုယ်လည်း ဝင်ခွင့်ရှိရမည်။ သူပြောဆိုစည်းရုံး ကိုယ်ပြောဆို စည်းရုံး။ သူ့ကို လူအများထောက်ခံလျှင် သူလုပ်၊ ကိုယ့်ကို လူအများ ထောက်ခံလျှင် ကိုယ်လုပ်။

အဲဒါဆိုလျှင် တရားမျှတသည်၊ တန်းတူအခွင့်အရေးရှိသည် ဟုမြင်သည်။ ဒါကို လူအများ သဘောကျသည်။ အများပြည်သူက ဒီမိုကရေစီလိုချင်သည်ဟု ပြောတာသည် အဲသည်လို အနေအထားမျိုးကို ရည်မျှော်ပြီး ပြောခြင်းဖြစ်သည်။

သို့သော် ... ။

ကိုယ်လိုချင်တာတွေချည်းပဲလားလို့ မေးလျှင် သည်လိုချည်း မဟုတ်ဘူး ဆိုတာ ပြတ်ပြတ်သားသား ဖြေကြလိမ့်မည်။

လူတွေသည် 'ဆန်ပေးမှ ဆေးရ' သဘောကို နားလည်ကြသည်။ လုပ်ပိုင်ခွင့် ရှိသလို လုပ်ပေးရမည့် တာဝန်တွေရှိတာလည်း သိကြသည်။ လုပ်ပေးခဲ့တာတွေ များပါပကောလားဟုပင် စောဒကတက်နိုင်သည်။

သို့သော် ဘာမှ အထူးတလည် မတောင်းဆို၊ လုပ်ပိုင်ခွင့်နှင့် တာဝန်မျှတဖို့၊ ပေးရသော ဆန်နှင့် ပြန်ရသောဆေး တန်ဖိုးချင်း ညီမျှဖို့ကိုသာ လူအများ အလေးထားကြပါသည်။

[ ၂ ဩဂုတ် ၂၀၁၀ ]

# လူသားချင်း စာနာစိတ်

ပုံပြင်တစ်ပုဒ်ရှိသည်။

တစ်ခါ၌ လူတစ်ယောက်သည် ရပ်ဝေးခရီးသွားစဉ် လမ်း၌ ခိုးသားဓားပြအုပ်နှင့် တွေ့ရသည်။ ဓားပြတို့က သူ့အား သေလုမြောပါး ရိုက်နှက်ပြီး အဝတ်အစားပါမကျန် လုယူသွားသည်။ လမ်းဘေး၌ လဲနေသော ၎င်းလူကို သည်လမ်းမှ ဖြတ်သန်းသွားသူတို့ မြင်ကသည်။ သို့သော် မကူညီကြ။ လမ်းတစ်ဘက်ခြမ်းမှ ကွင်းရှောင်သွားကြသည်။ ထူးခြားသော ပုဂ္ဂိုလ်တစ်ဦးသာ လဲနေသူကို မြင်လျှင်ပင် အနီးသို့ ချဉ်းကပ်သွားပြီး ဒဏ်ရာကို ဆေးထည့်ဆေးသည်။ အဝတ်ဖြင့် စည်းနှောင်ပေးသည်။ လူနေအိမ်ခြေရှိသည့်နေရာအထိ သယ်ဆောင်သွားပြီး တည်းခိုအိမ်တစ်ခု၌ အပ်နှံသည်။ သည်ပုဂ္ဂိုလ်ကို လက်ခံပြုစုပေးပါ၊ လောလောဆယ် ငွေကြေး မည်မျှယူထားပါ၊ နောက်ထပ် ကျသင့်ငွေကို ခရီးကိစ္စပြီး၍ မိမိ ပြန်လာလျှင်ပေးပါမည် ဟုဆိုသည်။

ဤသည်က ခရစ်ယာန်သမ္မာကျမ်းစာလာ ဆမာရီတန်ပုံပြင်ကို ပြန်ပြောခြင်း ဖြစ်ပါသည်။

စဉ်းစားကြည့်ပါ။ ဒုက္ခရောက်သူအပေါ် ကရုဏာစိတ်ထားသူ၊ သွားကူလျှင် ငါ့မှာ ပြဿနာ တစ်စုံတစ်ရာ တက်လေမလားဟု နှောင့်နှေးဗျာပါမရှိသူ၊ ကူညီရာ၌လည်း ရှေးဦးသူနာပြုစုခြင်းမှသည် အိတ်ထဲက ငွေကြေးပါ စိုက်ထုတ်ကာ အစအဆုံး ပြည့်စုံအောင်ဆောင်ရွက်သူ…၊ သည်လိုပုဂ္ဂိုလ်မျိုး ရှားပါးလှပါသည်။

သို့သော် ရှိတော့ ရှိသည်။

ကြက်ခြေနီဖခင်ကြီးဟု အများသိမှတ်ကြသည့် ဟင်နရီဒူးနန့် (Jean Henri Dunant 1828-1910) သည်လည်း အလားတူပုဂ္ဂိုလ်ထူးမျိုး ဖြစ်သည်။

ဒူးနန့်သည် လုပ်ငန်းရှင် သူကြွယ်တစ်ဦးဖြစ်၍ လုပ်ငန်းကိစ္စတစ်ရပ် အတွက် ပြင်သစ်ဧကရာဇ် နပိုလီယံထံ တင်ပြတောင်းခံရန် သွားရောက်ရင်း ပြင်သစ်နှင့် ဩစတြီးယားတို့ တိုက်ခိုက်ကြသည့် လွှမ်ဘာဒီစစ်မြေပြင်သို့ ရောက်သွားသည်။ သူရောက်ရှိချိန်မှာ တိုက်ပွဲ ပြီးဆုံးသွားပြီ၊ သို့သော် ဒဏ်ရာရသူပေါင်း ၄၀,၀၀၀ ကျော်မျှ စစ်တလင်းမှာ ကျန်ရစ်သည်။

သွေးအလိမ်းလိမ်းကပ်၍ ညစ်ထေးပေကျံကာ ကြောက်ဖွယ်သော အ[illegible] ကိုယ်စီနှင့် ညည်းညူ မြည်တမ်းနေကြသူများကြားသို့ ကိုယ်ပိုင် မြင်း[illegible] တစ်စီးနှင့် ဒူးနန့်ရောက်ရှိသွားသည်။ စီးပွားရေးဇောနှင့် လာခဲ့သူ [illegible] ဒုက္ခသည်တွေ မြင်ရသည့်အခါ သူ လျစ်လျူမရှုနိုင်။ 'ရေး [illegible]

အော်သူတွေကို ရေရှာ၍တိုက်သည်။ ဒဏ်ရာမှ သွေးတွေစီးကျနေသူကို အဝတ်စရှာ၍ စည်းပေးသည်။ ထို့နောက်၌ ဆမာရီတန်လိုပင် အပ်နှံ၍ မသွားနိုင်ဘဲ မလှမ်းမကမ်းရွာက ရွာသူရွာသားများကို စည်းရုံးကာ စေတနာဝန်ထမ်းအဖွဲ့ငယ်များ ဖွဲ့စည်းပြီး အရေးပေါ် ကယ်ဆယ်ရေး ဆောင်ရွက်သည်။

သည်က စတင်ကာ ဒူးနန့်၏ ဦးနှောက်ထဲ နှလုံးသားထဲတွင် လူသားချင်း စာနာထောက်ထားသော စိတ် အမြစ်တွယ်သွားပြီး ကိုယ်ပိုင်လုပ်ငန်းများကို သားဆယ်ကာ ဒုက္ခရောက်သူတို့အား လူမျိုး ဘာသာ မခွဲခြားဘဲ စောင့်ရှောက်ကူညီမည့် အပြည်ပြည်ဆိုင်ရာ ကြက်ခြေနီအဖွဲ့ အစည်းကြီး ဖြစ်မြောက်ရေးကို စွမ်းစွမ်းတမံ ဆောင်ရွက်သွားခဲ့သည်။

ယနေ့ခေတ်၌ လူလူချင်း စာနာထောက်ထားသော လုပ်ငန်းတွေသည် ယဉ်ကျေးမှုနှင့် အသိ ဉာဏ် မြင့်မားသော လူသား၏ လက္ခဏာတစ်ရပ်အဖြစ် ကမ္ဘာတစ်လွှား၌ ပြန့်ပွားတွင်ကျယ်လျက် ရှိနေသည်။ မြန်မာနိုင်ငံ၌လည်း မိဘမဲ့ကလေးသူငယ်၊ စောင့်ရှောက်သူမဲ့ သက်ကြီးရွယ်အို၊ မျက်မမြင်၊ ဆွံ့အနားမကြား၊ မသန်စွမ်းသူများ၊ ရောဂါဘယကြီးများ ဖိစီးနှိပ်စက်ခံရသူ၊ စီးပွားရေး နိမ့်ကျလွန်းသဖြင့် ပညာမသင်ကြားနိုင်သူ၊ ဆေးဝါးမကုသနိုင်သူ၊ အစာအာဟာရပြတ်လပ်သူ၊ ရုတ်တရက်ကျရောက်သည့် သဘာဝဘေးရန်ကြောင့် ဒုက္ခမျိုးစုံ ကြုံရသူ အစရှိသည့် အကူအညီလိုသူ မျိုးစုံတို့အတွက် ကူညီသော ကယ်ဆယ်သော စောင့်ရှောက်သော အလုပ်များကို အင်တိုက်အားတိုက် လုပ်ဆောင်လာနေကြတာ တွေ့ရသည်။

လူသားချင်း စာနာသည့် စိတ်ဓာတ်များ ထွန်းကားလာခြင်းကို ကောင်းသော လက္ခဏာအဖြစ် ကြိုဆိုရမည်ဖြစ်သည်။

သို့သော်၊

လိုအပ်သူကို ကူညီခြင်းသည် ကရုဏာလုပ်ငန်း၏ ပဏာမအဆင့်သာဖြစ်သည်။ ပို၍ အရေးကြီးပြီး ပို၍ထိရောက်သောအဆင့်ကား လိုအပ်သူနည်းပါးအောင် လုပ်ဆောင်ရေး၊ သို့မဟုတ် လိုအပ်ချက်များဖြစ်ပေါ်ရသည့် အကြောင်းရင်းများကို ဖယ်ရှားပေးနိုင်ရေး ဖြစ်သည်။

အထက်တွင် ဖော်ပြခဲ့သည့် ကူညီစောင့်ရှောက်မှု လိုအပ်သူ အများစုတို့၌ အရင်းခံပြဿနာသည် ဆင်းရဲချို့တဲ့ခြင်းဖြစ်သည်။ ဆင်းရဲခြင်းကြောင့် ကျောင်းမနေနိုင်၊ စာမတတ်သဖြင့် ပိုဆင်းရဲ၊ ဆင်းရဲခြင်းကြောင့် ဆေးမကုနိုင်၊ မကျန်းမာသဖြင့် ပိုဆင်းရဲ၊ ဆင်းရဲခြင်းကြောင့် ...။

ဆင်းရဲခြင်းနှင့် ဘေးဒုက္ခတို့သည် ပတ်ချာလည် ပြဿနာဖြစ်နေသည်။

စင်စစ် သဘာဝဘေးရန်များပင် ဆင်းရဲသူတို့ ပို၍ခုခံနိုင်စွမ်းနည်းပါးကြသည်။ ဘေးရန်ချင်းတူလျှင် ဆင်းရဲသူတို့ ပို၍ သေကျေပျက်စီးရသည်။

ဆင်းရဲခြင်း လျော့ပါးအောင် တစ်ဖက်တစ်လမ်းက အားမထုတ်ဘဲ ဆင်းရဲခြင်းကြောင့် ဖြစ်သည့် ဘေးဒုက္ခများကိုသာ ကောက်သင်းကောက် လိုက်လံဖြေရှင်းနေလျှင် အိတ်ပေါက်နှင့် ဖားကောက်သလို ဖြစ်နေလိမ့်မည်။

အမေရိကန် လူမည်းခေါင်းဆောင် မာတင်လူသာကင်း (Martin Luther King Jr. 1929-68) ပြောသွားသော စကားတစ်ခုကို မြန်မာလို ဆီလျော်အောင် ပြန်ပြောချင်သည်။ မာတင် လူသာကင်းက ... 'ကရုဏာအလုပ်သည် တောင်းစားနေသူတစ်ဦးထံ ငွေဒင်္ဂါးတစ်ပြား ပစ်ပေးလိုက်ရုံနှင့် မပြီး။ သူတောင်းစားများ အလုပ်ပေးနေသည့် လူမှုအဆောက်အအုံကို ပြန်လည် ပြင်ဆင်နိုင်မှ ကိစ္စပြီးသည်။ စေတနာရှင် ဆမာရီတန်လို ဘဝခရီးလမ်းဘေးတွင် ဒဏ်ရာနှင့် လဲနေသူကို ဖေးမကူညီရုံနှင့်မပြီး။ သူသူငါငါတို့၏ ဘဝခရီးလမ်းတစ်လျှောက် နောက်နောက်လုယက်မည့် သူများနှင့် မဆုံတွေ့ရအောင် ခရီးဝန်းကျင်ကို ပြုပြင် ပြောင်းလဲပေးဖို့လည်း လိုအပ်သည်' ဟုဆိုခဲ့ပါသည်။

[ ၉ ဩဂုတ် ၂၀၁၀ ]

# အခြေခံမှုနှင့် လက်တွေ့ကျင့်စဉ်

ဘယ်ကိစ္စမဆို တရားသေစွဲမထားနှင့်။ အချိန်အခါ အခြေအနေနှင့် လိုက်လျော ညီထွေလုပ်ပါဟု အကြံပေးလေ့ရှိကြသည်။

သင့်မြတ်သောစကား ဖြစ်ပါသည်။

သို့သော် ယေဘုယျကျလွန်းသည်။

အဲသည်အတိုင်းချည်း လိုက်လုပ်လျှင်လည်း တရားသေသဘော သက်ရောက်သွားမည်ဟု စဉ်းစားနိုင်သည်။

တစ်ဖန် တရားသေစွဲသည်ဆိုတာ ဘာလဲ။

မှန်သည်ဟု ထင်သော၊ ယူဆသော၊ ယုံမှတ်သောအရာကို မလွှတ်တမ်း ဆုပ်ကိုင်ထားသည် ဟုဆိုလိုခြင်း ဖြစ်သည်။

သို့သော်၊ မှန်သည်ထင်တာတွေ စွတ်လုပ်နေခြင်းမျိုးကို ငြင်းပယ်သင့် သော်လည်း အမှန်တရားကို လက်ကိုင် ထားခြင်းကိုမူ လက်ခံရပေလိမ့်မည်။ အကြောင်းက လူသည် အမှန်တရားကို ယုံကြည်မြတ်နိုးခြင်း၊ ကိုင်စွဲကျင့်သုံးခြင်း၊ ထိန်းသိမ်းကာကွယ်ခြင်းတို့ဖြင့်သာ ဂုဏ်ကျက်သရေပြည့်ဝလာနိုင်သောကြောင့် ဖြစ်သည်။

ဂုဏ်သိက္ခာ ပြည့်ဝသောသူများမှာ၊

သူ့ ယုံကြည်ကိုင်စွဲသော အယူအဆများ၊ သို့မဟုတ် ယုံကြည်ချက်များ ရှိသည်။

ထို့နောက် သည်အယူအဆများနှင့်အညီ လက်ခံကျင့်သုံးသော မူဝါဒလမ်းစဉ်များ ရှိသည်။

ဥပမာ

ဘာသာရေးယုံကြည်ချက်နှင့် ဘာသာကိုးကွယ်မှု၊

နိုင်ငံရေးယုံကြည်ချက်နှင့် နိုင်ငံရေးလမ်းစဉ်၊

စီးပွားရေး ယုံကြည်ချက်နှင့် စီးပွားရေးမူဝါဒ၊ စသဖြင့်။



လူသည် သူ စွဲမြဲယုံကြည်သော အရာတစ်ခု ဖြစ်မြောက်အောင်မြင်စေလိုသော ဆန္ဒပြင်းပြလေ့ရှိသည်။ တစ်နည်းပြောသော်၊ စွဲမြဲသော ယုံကြည်ချက်တစ်ခုသည် လူတစ်ယောက်၏ ဘဝအတွက် ရည်မှန်းချက်ပန်းတိုင် ဖြစ်တတ်သည်။

သည်အတွက် လုပ်ငန်းလမ်းစဉ်တွေချကာ အကောင်အထည်ဖော်လေ့ ရှိကြသည်။

အဲသည်အခါ အကြောင်းကြောင်းကြောင့် ယုံကြည်ချက်နှင့် လုပ်ငန်းစဉ်ကြားမှာ ကွာဟမှုတွေ ရှိလာတတ်သည်။ ညှိရ၊ နှိုင်းရ အငြင်းပွားရတာတွေ ရှိလာတတ်သည်။

သည်အခါမျိုးတွင် လက်တွေ့ပဓာနဝါဒီတို့က တရားသေမစဉ်းစားနဲ့ ကွက်တိ အနေအထားကိုလည်း ကြည့် ဟုဆိုတတ်သည်။ သို့သော် ယုံကြည်ချက်သမားများကလည်း လက်တွေ့ကိုလိုက်ရင်း ယုံကြည်ချက်နှင့် ဝေးဗည်သွားလိမ့်ဟု ထောက်ပြတတ်သည်။

သည်လိုဖြင့် အငြင်းအခုံတွေ ဖြစ်ရသည်။

နိုင်ငံရေးကဝေ ဟုဆိုကြသည့် မက္ကီယာဗယ်လီ (Machiavelli ၁၄၆၉–၁၅၂၇) ကတော့ အချိန်အခါနှင့် လျော်ညီစွာ လုပ်ငန်းလမ်းစဉ် ပြောင်းလဲချော်ကျင့်သုံးတတ်သူသာ အောင်မြင်သည် ဟူ၍ ဆိုသည်။

သူ့အဆိုက အဲသည်လောက်ပဲဆိုလျှင် လက်မခံနိုင်စရာမရှိ၊ ဟုတ်သားပဲ ဟောင် ဆိုရလိမ့်မည်။ သို့သော် သူက အဲသည်မှာ မရပ်။

နိဂုံးကောင်းလျှင် နည်းလမ်းကောင်းသည် (ဝါ) ရလဒ်ကောင်းထွက်လျှင် နည်းလမ်းကောင်း ဖြစ်သည်၊ (The end justifies the means.) ဟုဆိုသည်။ အဓိပ္ပာယ်က ဘယ်နည်းလမ်းနှင့် အောင်မြင်အောင်မြင်၊ အောင်မြင်လျှင် ပြီးတာပဲ ဟုဆိုလိုခြင်း ဖြစ်သည်။

အောင်မြင်ဖို့အတွက်ဆိုလျှင် ခြင်္သေ့၏နည်းလမ်း (အင်အားသုံးသောနည်း) ကိုလည်း ကျင့်သုံးရမည်၊ မြေခွေး၏ နည်းလမ်း (ကောက်ကျစ်စဉ်းလဲသောနည်း) ကိုလည်း ကျင့်သုံးရမည်ဟုလည်း ထပ်၍ ဆိုပြန်သည်။

အဲသည်အခါ ပြဿနာရှိလာသည်။

အကြမ်းပတမ်းနည်း၊ လိမ်ညာကောက်ကျစ်သောနည်းများဖြင့် ရလာမည့် အောင်မြင်မှုသည် ဘာအဓိပ္ပာယ် ရှိမည်လဲ။ အဲသည်နည်းဖြင့် ရောက်ရှိသော ရည်မှန်းချက်ပန်းတိုင်သည်လည်း မြင့်မြတ်ဂုဏ်ယူဖွယ် ဖြစ်နိုင်မည်လော။

ဥပမာ လူ့အသိုင်းအဝိုင်းအတွင်း ဆင်းရဲချမ်းသာ ကွာဟနေခြင်းသည်မကောင်း။ အဲသည်လို ကွာဟနေသော လူ့အသိုင်းအဝိုင်းသည် မတရားမမျှတသော လူ့အသိုင်းအဝိုင်း ဖြစ်သည်၊ အဲဒါကို ပြင်ရမည်၊ ဟူသော မြင့်မြတ်သော ရည်မှန်းချက်၊ သို့မဟုတ် စိတ်ကောင်း စေတနာ ပြည့်ဝသော ယုံကြည်ချက်တို့နှင့်ညီသည့်နည်းလမ်းဖြင့် အကောင်အထည်ဖော်မည်နည်း။ ချမ်းသာသူတွေဆီက နှုတ်ပြီး ဆင်းရဲသူတွေ ဝေငှပေးမည်ဆိုလျှင် ရည်မှန်းချက် မြင့်မားသော်လည်း နည်းလမ်းကြောင့်က နိမ့်ကျလိမ့်မည်။ ထိုနိမ့်ကျသော လမ်းစဉ်မျိုးဖြင့်လည်း မြင့်မြတ်သော ရည်မှန်းချက်များ အောင်မြင်လေ့မရှိ။

သို့သော်၊ မက္ကီယာဗယ်လီလို ဘယ်နည်းလမ်းနှင့်ဖြစ်ဖြစ် အောင်မြင်ဖို့ အဓိကဟု ရမ်းရမ်းကားကား မကြွေးကြော်သော်လည်း လက်တွေ့လောကတွင် လုပ်ကိုင်ဆောင်ရွက်ရာ၌ မိမိတို့ ရည်မှန်းချက် အောင်မြင်ဖို့အတွက် မူဝါဒကို အလိုက်သင့် အလျားသင့် အလျှော့အတင်း ပြုတန်ပြုရမည်ဟု သဘောထားကြ သူတွေရှိသည်။

အမေရိကန် ထိပ်သီး သံတမန်တစ်ဦးဖြစ်သူ ဟင်နရီကစ်ဆင်းဂျား (Henry Kissinger ၁၉၂၃ – ) က နိုင်ငံရေး အနေအထားတစ်ရပ်ကို လွှမ်းမိုးထားနိုင်ဖို့ နည်းဗျူဟာပိုင်းမှာ အလျှော့အတင်း အပြောင်းအလဲ လုပ်နိုင်ရသည်။ သို့သော် ရည်မှန်းချက် (သို့မဟုတ် အခြေခံမူ)ကိုကား ထိန်းထားရမည်ဟုဆိုသည်။

သို့သော် နောက်တစ်နေရာကျတော့ သူကတစ်မျိုး ပြောပြန်သည်။

အခြေခံမူ (principle)တွေကို ဘယ်တော့မှ အလျှော့မပေးရဘူးဆိုပေမယ့် ကိုယ်မှ မရှင်သန် မကျန်ရစ်တော့ဘူး ဆိုရင် ကိုယ့်အခြေခံမူတွေ ဘယ်လို ထိန်းသိမ်း နိုင်မလဲဆိုတာလည်း ကျွန်တော်တို့ သဘောပေါက်ဖို့ လိုတယ်ဟု သူဆိုခဲ့ခြင်း ဖြစ်သည်။

မလျှော့နဲ့ ဆိုပေမယ့် မူသေမှတ်မထားနဲ့၊ အခြေအနေတော့ ကြည့်ရဦးမည် ဟူသောသဘော။

သို့သော် ဘယ်လောက်ဆိုးသည့် အခြေအနေမျိုးမှာ အလျှော့အတင်းပြု မည်လဲ၊ အဲဒါတော့ စဉ်းစားဖို့ လိုလိမ့်မည်။ တော်ရုံ အခက်အခဲကြုံတိုင်း လျှော့ပေါ့ပြောင်းလဲနေလျှင် နောက်ဆုံးတော့ ကိုယ့်မူဝါဒလမ်းစဉ် ဆိုတာ ဘယ်ရောက်သွားမှန်းမသိ ဖြစ်သွားတတ်သည်။

ပုဂ္ဂိုလ်တစ်ယောက်ကတော့ အတော်မှတ်လောက်သားလောက် စကားတစ်ခွန်း ပြောသည်။

'ယုံကြည်ချက် ဆိုတာ သိပ်တန်ဖိုးရှိတယ်ဗျ၊ အရေးကြုံလာတဲ့အခါ ထုတ်ရောင်းလို့ ရတယ်' ဟူ၍။

သူက ယုံကြည်ချက်စကား တွင်တွင်ပြောပြီး ယိမ်းယိုင်သွေဖည်သွားတတ်သူတွေကို လှောင်ပြောင်ပြောဆိုခြင်း ဖြစ်သည်။

ခရစ်ယာန်မှာတော့ သည်လိုလူမျိုးတွေအတွက် ပိုပြင်းထန်သော အသုံးအနှုန်း တစ်ခု ရှိသည်။ ဆာတန်နတ်ဆိုးထံမှာ မိမိဝိညာဉ်ကို ရောင်းစားထားသူ (the man who sold his soul to the devil) ဟူသော အသုံးအနှုန်း။

နတ်ဆိုးက သူ၏တန်ခိုးသတ္တိဖြင့် မိမိကို ချမ်းသာအောင်၊ ကျော်ကြားအောင်၊ ဩဇာအာဏာကြီးမားအောင်၊ လူတကာကို အနိုင်ယူနိုင်အောင် လုပ်ပေးပါ။ မိမိက မိမိ၏ ဝိညာဉ် သို့မဟုတ် နှလုံးသည်းပွတ် သို့မဟုတ် ယုံကြည်ကိုးကွယ်သည့်

ဘာသာတရားကို နုတ်ဆိုးအားပေးပါမည်။ မိမိအား မ,စသဖြင့် မိမိကလည်း နုတ်ဆိုးခိုင်းစေသည့် လောကပျက်စီးရာ ပျက်စီးကြောင်း၊ ဘာသာပျက်စီးရာ ပျက်စီးကြောင်း အလုပ်များကို ပြန်လုပ်ပေးပါမည်ဟု ကတိကဝတ်ပြုထားသော သဘော ဖြစ်ပါသည်။

တစ်နည်းပြောရသော် ကိုယ်ကျိုးစီးပွားအတွက် ယုံကြည်ချက်ကို အပေးအယူ ပြုလုပ်သူ။

သည်ပုဂ္ဂိုလ်မျိုးသည် အခိုက်အတန့်အဖို့မှာ လိုရာကိုရမည်။ သို့သော် နောက်ဆုံးသည်းပွတ် မပေါ်၊ အခွံအကာသက်သက်ဖြင့် အသက်ရှင်သန်ရသော သူ၏ ဘဝသည် အချည်းနှီး အလဟဿ ဘဝ၊ ကျက်သရေမင်္ဂလာကင်းမဲ့သော ဘဝသာ ဖြစ်နေပေမည်။

[ ၁၈ ဩဂုတ် ၂၀၁၀ ]

# လွတ်လပ်၍ တရားမျှတသော ရွေးကောက်ပွဲဖြစ်ဖို့

လူအများ စုဆောင်းနေထိုင်လာစကတည်းကပင် အများ၏ကိစ္စကို အများကိုယ်စား တာဝန်ယူ ဆောင်ရွက်ရန်အတွက် လူတစ်ဦး သို့မဟုတ် လူတစ်စုကို ရွေးချယ် လွှဲအပ်နိုင်းစေသော အလေ့အထ ရှိခဲ့သည်။

သို့သော် တာဝန်နှင့်အတူ လုပ်ပိုင်ခွင့်များပါ ပေးအပ်ရသည်ဖြစ်ရာ နိုင်ငံရေးဆိုင်ရာ ရွေးကောက်ပွဲများသည်မှ မိမိတို့အပေါ် အာဏာဖြင့် အုပ်စိုးမည့်သူကို မိမိတို့ ကိုယ်တိုင်က ရွေးချယ်တင်မြှောက်ကြရသော သဘောလည်း ဖြစ်သည်။

ကမ္ဘာဦးက မဟာသမ္မတမင်း ဟူသည်ကို ရွေးချယ်၍ ၎င်း၏အုပ်ချုပ်မှုကို ခံယူသော အလေ့အထရှိခဲ့ကြောင်း အရှေ့တိုင်းသားတို့ ယုံကြည်ကြသည်။ အနောက်တိုင်း အယူအဆတွင်လည်း အုပ်စိုးသူနှင့် အုပ်စိုးခံအကြား လူမှုပဋိညာဉ် (social contract) ခေါ် အပြန်အလှန် ကတိကဝတ် တစ်ခုရှိသည်ဟု ယုံကြည်ကြသည်။

သို့သော် ယခုခေတ် အများသိကြသည့် ရွေးကောက်ပွဲမျိုးတွေ သိသိသာသာ ရှိလာသည်ကတော့ ကိုယ်စားပြု ဒီမိုကရေစီ (representative democracy) စနစ်ထွန်းကားလာသည့် ၁၇ ရာစုလောက်ကစ၍ ဖြစ်သည်။ မြန်မာနိုင်ငံမှာလည်း နယ်ချဲ့အင်္ဂလိပ်တို့နှင့်အတူ ရွေးကောက်ပွဲ စနစ်ပါလာခဲ့၍ လွန်ခဲ့သော နှစ်ပေါင်း ၉၀ လောက်က စတင်ကာ နိုင်ငံရေးဆိုင်ရာ ရွေးကောက်ပွဲများကို မြန်မာတို့ သိကျွမ်းခဲ့ရသည်။

သို့သော်၊ မြန်မာရော နိုင်ငံတကာမှာပင် ရွေးကောက်ပွဲတွေ စရှိလာကတည်းက အဆိုပါ ရွေးကောက်ပွဲ တစ်ခုသည် တရားမျှတမှု ရှိမရှိ၊ ကျင်းပပုံ ကျင်းပနည်းသည် လက်ခံလောက်ဖွယ် အနေအထား ရှိမရှိ စစ်ကြော ဝေဖန်မှုများ ရှိခဲ့ကြသည်။ ထို့ကြောင့် ၎င်းနှင့် ဆက်စပ်ကာ လွတ်လပ်၍ တရားမျှတသော ရွေးကောက်ပွဲ (free and fair election)ဟူသော အသုံးအနှုန်းတစ်ခုလည်း ပေါ်ပေါက်ခဲ့သည်။

လွတ်လပ်၍ တရားမျှတသော ရွေးကောက်ပွဲမျိုးမှသာ ပြည်သူတို့ လိုလားသည့် ပြည်သူ့ကိုယ်စားလှယ် စစ်စစ်များကို ရွေးချယ်နိုင်မည်။ ထိုမှဆက်၍ ၎င်းကိုယ်စားလှယ်များက ပြည်သူတို့ သဘောဆန္ဒနှင့် လျော်ညီသော နိုင်ငံရေးမူဝါဒများအတိုင်း ဦးဆောင် အကောင်အထည်ဖော်နိုင်လိမ့်မည်ဟု ယုံကြည်ကြခြင်းဖြစ်သည်။

သို့သော်၊ အဲသည်အတွက် လိုအပ်ချက်တွေ အများကြီးရှိသည်။

၎င်းအထဲတွင် အရေးအကြီးဆုံးတစ်ခုက တရားဥပဒေစိုးမိုးရေးဖြစ်သည်။

သက်ဆိုင်ရာ တိုင်းပြည်၌ တရားဥပဒေသည် အုပ်ချုပ်သူ အုပ်ချုပ်ခံ ခွဲခြားခြင်းမရှိ တစ်ပြေးညီစွာ တန်ခိုးသြဇာ သက်ရောက်ဖို့ လိုသည်။

ထို့နောက်တွင် ရွေးကောက်ပွဲကို ကမကထပြု ကျင်းပပေးရမည့် သမာသမတ်ရှိသော ရွေးကောက်ပွဲကော်မရှင်တစ်ရပ် လိုအပ်သည်။ လွတ်လပ်၍ တရားမျှတသော ကော်မရှင်တစ်ရပ်ကသာ လွတ်လပ်၍ တရားမျှတသော ရွေးကောက်ပွဲတစ်ခု ကျင်းပပေးနိုင်မည် ဟူသောသဘော ဖြစ်သည်။

၎င်းကော်မရှင်သည် ဖွဲ့စည်းပုံ အခြေခံ ဥပဒေနှင့် ညီညွတ်သည့် ရွေးကောက်ပွဲဆိုင်ရာ နည်းဥပဒေများ လုပ်ထုံးလုပ်နည်းများ ရေးဆွဲထုတ်ပြန်ခြင်း၊ မဲဆန္ဒနယ်များ သတ်မှတ်ခြင်း၊ ကော်မရှင်အဖွဲ့ခွဲ အဆင့်ဆင့် ဖွဲ့စည်းခြင်း၊ မဲစာရင်းများ ပြုစုခြင်း၊ ရွေးကောက်ပွဲဝင်မည့် နိုင်ငံရေးပါတီများကို ဥပဒေနှင့်အညီ ကြီးကြပ်လမ်းညွှန်ခြင်း၊ ရွေးကောက်ပွဲ ကျင်းပပေးခြင်း၊ ရွေးကောက်ခံရသူများအား အသိအမှတ်ပြုပေးခြင်း အစရှိသည့် တာဝန် အရပ်ရပ်တို့ကို ထမ်းဆောင်နိုင်ရန်အတွက် နိုင်ငံတော်ဘဏ္ဍာမှ ကျခံသည့် ရန်ပုံငွေကို သုံးစွဲရသကဲ့သို့ လုပ်ငန်းများ ချောမွေ့စေရန်အတွက် အုပ်ချုပ်ရေး၊ လုံခြုံရေးနှင့် တရားဥပဒေ စိုးမိုးရေးဆိုင်ရာ အဖွဲ့အစည်းများ၏ အကူအညီကိုလည်း ရယူရသည်။

သို့သော်၊ နိုင်ငံတော်ဘဏ္ဍာနှင့် နိုင်ငံယန္တရားတို့ကို အမှီပြုရသည့်တိုင် အောက်တွင် သမာသမတ်ကျသော ရွေးကောက်ပွဲဖြစ်ရန်အတွက် တည်ဆဲအစိုးရ၏ ဩဇာမှ ကင်းလွတ်ဖို့လည်း လိုသည်။

တရားဥပဒေစိုးမိုးကာ လူထုအသိအမြင် ကြွယ်သော တိုင်းပြည်များတွင် အပြန်အလှန် ထိန်းကျောင်း စောင့်ကြပ်မှုများ ရှိသောကြောင့် အထက်ကနှင့် အနီးစပ်ဆုံး ဖြစ်နိုင်ကြသော်လည်း၊ တရားဥပဒေစိုးမိုးမှု နည်းပါးသော ဒေသများတွင်မူ ရွေးကောက်ပွဲများ၌ မသမာမှု၊ အဂတိလိုက်စားမှု၊ မလျော်ဩဇာသုံးမှုများကြောင့် လွတ်လပ်ခြင်း၊ တရားမျှတခြင်းဟူသော စံချိန်စံညွှန်း နှုန်းချုပ်နှင့် မကိုက်ညီဘဲ ရှိတတ်ကြသည်။

စံချိန်စံညွှန်း ပြည့်ဝသော ရွေးကောက်ပွဲများတွင်၊

တရားနည်းလမ်းကျသည့် ခြွင်းချက်အချို့မှအပ အရွယ်ရောက်သူတိုင်း မဲပေးခွင့်နှင့် ရွေးကောက်ပွဲတွင် ဝင်ရောက် ယှဉ်ပြိုင်ခွင့်များ ရရှိကြသည်။

ရွေးကောက်ပွဲဝင်မည့် ပါတီများ၊ ကိုယ်စားလှယ်လောင်းများသည် အများပြည်သူတို့အား သင့်တင့် လျောက်ပတ်သော စည်းကမ်းများနှင့်အညီ လွတ်လပ်စွာ မဲဆွယ်စည်းရုံးခွင့်ရကြသည်။

ဆန္ဒမဲပေးမည့် လူထုကလည်း ရွေးကောက်ပွဲနှင့် စပ်လျဉ်းသည့် သတင်းအချက်အလက်များ၊ ပါတီများနှင့် ကိုယ်စားလှယ်လောင်းများ၏

ဝါဒလမ်းစဉ်များ၊ လုပ်ရပ်များ၊ ၎င်းတို့၏ ပြောဆိုချက်၊ ၎င်းတို့၏ လူ့ရည်လူ့သွေး၊ ၎င်းတို့အပေါ် အခြားသူတို့၏ ဝေဖန်သုံးသပ်မှု စသည်တို့ကို စာနယ်ဇင်းမီဒီယာစုံတို့မှ ပြည့်ပြည့်ဝဝ သိရှိခွင့်ရကာ မိမိဆန္ဒနှင့် ညီညွတ်မည့်သူကို စဉ်းစားရွေးချယ်နိုင်ကြသည်။

တစ်ဖန်၊ လူတစ်ဦးချင်းတို့၏ ဆန္ဒမဲ ပေးပိုင်ခွင့်နှင့် ရွေးကောက်တင်မြှောက်ခံပိုင်ခွင့်များ ထိခိုက် ဆုံးရှုံးစေမည့် နှောင့်ယှက်ဟန့်တားမှုများ မပြုလုပ်နိုင်ရန်လည်း ရွေးကောက်ပွဲ ဥပဒေနှင့် အခြား တည်ဆဲ ဥပဒေများက အကာအကွယ်ပေးသည်။

ထို့ပြင် မဲရုံများတွင် ခြိမ်းခြောက်နှောင့်ယှက်မှုများ ကင်းစင်၍ လျှို့ဝှက်မဲပေးစနစ်ကို အမှန်တကယ် ကျင့်သုံးခွင့်၊ မဲရေတွက်ရာ၌ ပါဝင်ကြည့်ရှုခွင့်၊ ရွေးကောက်ပွဲရလဒ်နှင့် ပတ်သက်၍ ကျေနပ်မှုမရှိပါက ရွေးကောက်ပွဲဥပဒေများနှင့်အညီ ကန့်ကွက်ခွင့် စသည့် အခွင့်အရေးများကိုလည်း ရွေးကောက်ပွဲကော်မရှင်နှင့် အုပ်ချုပ်ရေး တရားဥပဒေစိုးမိုးရေး အဖွဲ့အစည်းများက ထိန်းသိမ်းကာကွယ်ပေးသည်။

အဲသည် အနေအထားတွင်၊

အများပြည်သူတို့သည် မိမိတို့နှင့် သဘောချင်း ကိုက်ညီသူတို့ကို လွတ်လပ်၍ တရားမျှတစွာ ဆန္ဒမဲပေး ရွေးချယ်နိုင်ကြလိမ့်မည်။

ထို့နောက်တွင်၊

အဲသည် ပုဂ္ဂိုလ်တွေ မိမိတို့ ကိုယ်စားဟူ၍ ဆောင်ရွက်ကြသည့်အခါ ကျေနပ်ဖွယ် ရှိမရှိ စောင့်ကြည့်ခွင့် ရကြလိမ့်မည်။ ကျေနပ်ဖွယ်ရှိလျှင် နောက်တစ်ကြိမ် ရွေးကောက်ပွဲတွင် ဆက်လက် မဲပေးကာ အာဏာ ဆက်လက်အပ်နှင်းကြမည်။ ကျေနပ်ဖွယ်မရှိသော် ၎င်းတို့ထက် ကောင်းအောင်၊ မှန်အောင် ဆောင်ရွက်နိုင်မည် ယူဆရသည့် လူသစ်များကို ပြောင်းလဲ မဲပေးလိမ့်မည်။ ထိုအခါ လူထုထောက်ခံမှု မရတော့သည့် လူဟောင်းများက ထောက်ခံမှုရလာသည့် လူသစ်များကို လုပ်ပိုင်ခွင့် အာဏာများ လွှဲပြောင်းပေးအပ်ရလိမ့်မည်။ ထိုလူသစ်များကလည်း ...။

အဲသည်လို တရားဥပဒေနှင့် ညီညွတ်စွာ ဆောင်ရွက်သည့် နိုင်ငံရေးယဉ်ကျေးမှု ပြည့်ဝသော အလေ့အထများ တည်ရှိလာသည့်အခါမှသာ ပြည်သူတို့ ရွေးကောက်သော ကိုယ်စားလှယ်များက ပြည်သူတို့ အကျိုးစီးပွား အလို့ငှာ ပြည်သူ့ဆန္ဒနှင့်အညီ စီမံအုပ်ချုပ်သည့် ပြည်သူ့အစိုးရစနစ် ပေါ်ထွန်းလာမည် ဖြစ်ပေသည်။

[ ၂၄ ဩဂုတ် ၂၀၁၀ ]

# လူ့ပြဿနာ

ကမ္ဘာမှာ လူနည်းတုန်းက လူတွေ လွတ်လပ်ကြ၏။

တောထဲ တောင်ထဲမှာ လွတ်လပ်စွာ သစ်ဥ သစ်ဖုရှာ၊ အသီးသီးနေသည့် အပင် တွေ့လျှင် ခူးဆွတ်စား။ တောသတ္တဝါ သေးသေး တွေ့လျှင် ဖမ်းစား သတ်စား။ အကောင်ကြီးကြီး တွေ့လျှင် လွတ်အောင် ပြေး။ မပြေးနိုင်လျှင် သေ၊

အဲသည်လို ကိုယ့်အသက် ကိုယ်မွေးပြီး လွတ်လပ်စွာ နေခဲ့ကြ၏။

သို့သော်၊

တဖြည်းဖြည်း လူတွေ များလာပြီ ဆိုသည့်အခါ ပြဿနာ ရှိလာသည်။

ကိုယ်ခူးဆွတ်စားနေသည့် အပင်ကို ဘယ်ကမှန်း မသိသည့် အကောင် တစ်ကောင် ရောက်လာကာ၊ ဒါ သူ့အပင်ဆိုပြီး အတင်းဆွဲချတော့ ထိုးရကြိတ်ရ သည်။ သတ္တဝါလေးတစ်ကောင် အသည်းအသန် ပစ်ခတ်ဖမ်း၍ အသေမိပြီ ဆိုတော့မှ ခြုံထဲက လူတစ်ယောက် ထွက်လာကာ ဒါ သူ ပစ်ထား၍ ခြေနာ နေသည့် အကောင်၊ သူ လိုက်ဖမ်းနေတာဆိုပြီး အတင်းဝင်လုတော့ ထွေးလုံး သတ်ပုတ်ရပြန်သည်။

အတော်ကြာတော့ တုတ်ကြီးကြီး ရထားသူက သူတစ်ပါးကို အတင်း ခြိမ်းခြောက် ရိုက်နှက် လုယက်သွား။ အဲသည်ကောင် တုတ်ဘေးချပြီး အိပ် ပျော်နေတော့ တစ်ယောက်က ကျောက်တုံးကြီးကြီးနှင့် ခေါင်းထုသတ်ပြီး ဆုတ်ယူသွား။

တစ်ယောက်နှင့်တစ်ယောက် ခွန်အားဗလချင်း မတူညီတာတွေ ရှိသော် လည်း သည်လူက အမြဲနိုင်၊ သည်လူက အမြဲရှုံးဆိုသော အနေအထား မရှိ။ အကောင်ကြီးသည့် အကောင်ကိုလည်း သေးသည့် အကောင်က ချောင်းမြောင်း စောင့်ဆိုင်းကာ ချောက်ကောင်းကောင်းထဲ တွန်းချ သတ်နိုင်သည်။

အဲသည်တော့ ဘယ်သူမှ အသက်နှင့် ခန္ဓာ ကြာကြာ မြဲမည်ဟု မသေချာ။ အမြဲ ကျိုးလန့်တစား။ လူတိုင်းက လူတိုင်းနှင့် စစ်ဖြစ်နေသည့် အနေအထား ဒါကို၊ အုပ်စိုးသူ ကင်းမဲ့သော ကာလက၊ မိမိ လွတ်လပ်ခွင့်တို့ ဒီ ကြိုက်သလို သုံးစွဲ ခံစားကြသည့် လူအများကြား၊ လွတ်လပ်မှုတွေ တိုးတိုက်မိကာ ပေါ်လာသည့် ငရဲပြည် အနေအထား ဟုဆိုကြသည်။

တစ်နည်းဆိုသော်၊ မင်းမဲ့ ငရဲ။



မင်းမဲ့တိုင်းပြည်ဟူသည် ငရဲပြည် ဖြစ်သည်၊ ထို့ကြောင့် အေးချမ်းသာယာ
လုံခြုံမှု ရှိသည့် တိုင်းပြည် ထူထောင်ရမည်၊ လုံခြုံမှုနှင့် အေးချမ်းမှုကို တာဝန်
ထိန်းသိမ်းပေးမည့် မင်းတစ်ပါး တင်မြှောက်ရမည်၊ ဟူသော အယူအဆဖြ
လူအများကြား အုပ်စိုးသူ ဆိုတာ ပေါ်လာခဲ့သည် ဟုဆိုသည်။

သို့သော် အုပ်စိုးသူ ဆိုတာကလည်း လူသားပဲ ဖြစ်ရာ၊ သူတစ်ဦးတည်
အုပ်စိုးခွင့် အာဏာရသည့်အခါ ထင်ရာစိုင်းပြီး အများသူငါကို နှိပ်စက်ကလူပြ
ဘာတွေ ရှိလာသည်။ အဲသည်အခါ 'မင်း' ဆိုတာကို ရန်သူမျိုးငါးပါး စာရင်းထဲ
ထည့်ရသည့် ကိန်းမျိုး ဆိုက်လာပြန်သည်။

နှိပ်စက်သော မင်းတို့နှင့် စပ်လျဉ်း၍ တရုတ်ပညာရှိကြီး ကွန်ဖျူးရှပ်(စ)
ပြောခဲ့သည့် ထင်ရှားသော စကားတစ်ခွန်း ရှိသည်။

တစ်ခါ၌ ကွန်ဖျူးရှပ်(စ)နှင့် တပည့်များ တောလမ်းတစ်ခုမှ ခရီးသွားစဉ်
သင်္ချိုင်း မြေပုံတစ်ခု နံဘေးမှာ သည်းထန်စွာ ငိုကြွေးနေသော မိန်းမတစ်ယောက်
တွေ့ရသည်။ အကျိုးအကြောင်းကို တပည့်တစ်ဦးအား မေးခိုင်းသည့်အခါ
သူ့သား ကျားကိုက်၍ သေဆုံးကြောင်း၊ သူ့သား အရင် သူ့ခင်ပွန်းသည်ရော
ခင်ပွန်းသည်၏ ဖခင်ပါ ကျားကိုက်၍ပင် သေဆုံးသွားခဲ့ကြကြောင်း ရင်ကွဲ
ပက်လက် ငိုကြွေးရင်း ပြောပြသည်။ ဒါဖြင့် မြို့နား ရွာနား သွားမနေဘဲ
ဘာကြောင့် ဒီလောက် ကျားဆိုးပေါတဲ့ တောမှာ နေရသလဲ မေးသည့်အခါ
မြို့မှာ ဘုရင်မင်းဆိုးကို ကြောက်ရသဖြင့် တောထဲလာနေကြောင်း ဖြေသည်။

သည်အခါ ကွန်ဖျူးရှပ်(စ)က တပည့်များဘက် လှည့်ကာ၊ 'ကဲ၊ တွေ့ပြီ
မဟုတ်လား၊ မင်းဆိုးမင်းညစ်ဆိုတာ ကျားဆိုး ကျားမိုက်ထက် ကြောက်စရာ
ကောင်းတယ် ဆိုတာ အမြဲ သတိရကြ' ဟူ၍ ဆိုသည်၊ တဲ့။



ထို့ကြောင့်၊

အထီးတည်းနေစရာ သီးသန့်တော တစ်ခုလည်း မရနိုင်၊ အများနှင့်
ရောစွာ နေရစရာရှိသည့် လူသားသည် မင်းဆိုးငရဲနှင့် မင်းမဲ့ငရဲ ကြားက
သက်သာရာကို ရှာရင်း၊ အများသဘောဆန္ဒဖြင့် ညှိနှိုင်းဆောင်ရွက်မည့်
လူထုအုပ်စိုးသော စနစ်ကို ရွေးချယ်လာကြခြင်း ဖြစ်သည်။

မင်းသဘောချည်းလည်း မရှိစေရ၊ ငါ့သဘောချည်းလည်း မရှိစေရ။
မင်းရောငါပါ အတူတကွ အပြန်အလှန် အုပ်စိုးကြမည် ဟူသော သဘော။

သို့သော်၊ သဘောတရား အရသာ လူထုအုပ်စိုးသော စနစ် ဟုဆိုရသော်လည်း
လူအားလုံးက လူအားလုံးကို အုပ်စိုးဖို့မှာ လက်တွေ့၌ မဖြစ်နိုင်။

ထို့ကြောင့်၊ အနီးစပ်ဆုံး အနေအထားအဖြစ် အားလုံး၏ ကိုယ်စား ဆောင်ရွက်မည့် သူများကို ရွေးချယ်ပြီး အုပ်ချုပ်ခွင့်အာဏာ အပ်နှင်းသော စနစ်ကို လက်ခံကြရသည်။

အဲသည်တော့ နောက်ဆုံး ဘာဖြစ်သွားသလဲ။

အုပ်စိုးသူထဲမှာ ပါစရာမရှိသည့် အများသူငါအဖို့ စဉ်းစားသော်၊ သည်စနစ်ထဲမှာ မိမိရနိုင်သည့် တစ်ခုတည်းသော အခွင့်အရေးမှာ မိမိကို ဘယ်သူ *ဘယ်ဝါ အုပ်စိုးပါဟု* ရွေးချယ်ပိုင်ခွင့် သာပဲ ဖြစ်သွားသည်။

သည်အခါ၊ အဲသည် အခွင့်အရေး အနှစ်သာရ ပြည့်ဝစွာ အကောင်အထည် ဖော်နိုင်ရေး သည်ပင် လူထုအုပ်စိုးမှု အမှန်တကယ် ပေါ်ပေါက်ရေးအတွက် အဆုံးအဖြတ်ပြုမည့် အရေးကြီးသောအချက် ဖြစ်သွားပေသည်။

[ ၁ စက်တင်ဘာ ၂၀၁၀ ]

# ပြဿနာကို ပိုင်းခြားဝေဖန်ရာ၌

လူဆိုသည်က ကိုယ့်အယူအဆနှင့်ကိုယ် ရှိကြသူတွေ များသည်။

အယူအဆ မတူတတူလူတွေ နီးစပ်ဆင်တူရာဟူ၍ စုဝေးကြသည့်အခါ မိမိတို့နှင့် သိသိသာသာ ဆန့်ကျင်ကွဲလွဲသည့်ကိစ္စများနှင့် ပတ်သက်လျှင် တစ်သဘောတည်း ညီညီညာညာ ရှိတတ်သော်လည်း၊ သည်ဘက်ကလည်း မြင်နိုင်၊ ဟိုဘက်ကလည်း ကြည့်နိုင်သည့် ကိစ္စမျိုး၊ အဖြူအမည်း မသဲကွဲ သည့် ကိစ္စမျိုး၊ ပစ်ရမှာလည်း အဆီနှင့်ဝင်းဝင်း၊ စားရမှာလည်း သဲနှင့်ရှုပ်ရှုပ်ဆိုသော ကိစ္စမျိုး၊ စတာတွေ ကြုံလာသည့်အခါ၊

သည်ဘက်က ကြည့်ချင်သူနှင့် ဟိုဘက်က ကြည့်ချင်သူ၊

အဖြူများသည်ဟု မြင်သူနှင့် အမည်းများသည်ဟု မြင်သူ၊

အဆီကြိုက်သော သူနှင့် သဲကြောက်သောသူ စသဖြင့် သဘောထားတွေ ကွဲပြားသွားတတ်ကြသည်။

အကြောင်းရင်းက ပိုင်းခြားဝေဖန်မှု (judgement) နှင့် သက်ဆိုင်သည်

ထုံးစံက၊ ကိစ္စတစ်ခုကို စဉ်းစား ဝေဖန်ပြီးနောက်၊ ဒါကတော့ 'ဘာ ပဲဟု ဖွင့်ဆိုသတ်မှတ်သည်၊ သို့မဟုတ် ကောက်ချက်ချသည်။ ထို့နောက် ယင်းမှ ဆက်ကာ ဒါကို 'ဘယ်လို' လုပ်ရမည်ဟု ဆုံးဖြတ်ပိုင်းခြားသည်။

ထို့ကြောင့် ကောက်ချက်မတူလျှင် ဆုံးဖြတ်ချက်တွေ ကွဲလွဲသည်။

ကောက်ချက်တွေ မတူခြင်းအကြောင်းသည် လူ၏ပင်ကိုစရိုက်နှင့်လည်း ဆိုင်သည်။ ဖြတ်သန်းကြီးပြင်းသည့် ကာလတစ်လျှောက် စုစည်းမိလာသည့် အယူအဆ အစွဲအလမ်းတွေနှင့် လည်း ဆိုင်သည်။ ထို့နောက် လက်ရှိ ပြဿနာနှင့်စပ်လျဉ်း၍ ဘယ်လောက် သိရှိနားလည်ထားသနည်း ဟူသည်နှင့်လည်း ဆိုင်သည်။

အဲသည်လို မတူသောသူတွေ ပြဿနာတစ်ရပ်ကို ဝေဖန်ပိုင်းခြားကြသည့် အခါ ...၊

စိတ်တို စိတ်ဆတ်သူက ပြဿနာကို ချက်ချင်းရှင်းပစ်ရမည် ဟုမြင်သည်၊ စိတ်ရှည် သည်းခံသူက တဖြည်းဖြည်း အရှိန်သေသွားအောင် ထိန်းပေးရမည်ဟု ယူဆသည်။

မိမိ အယူအဆ အစွဲအလမ်းနှင့် တိုက်ရိုက်လာထိသူက အပြင်းအထန် တုံ့ပြန်ချင်သည်။ သည်ကိစ္စနှင့် ပတ်သက်၍ အစွဲအလမ်း အခံမရှိသူအတွက် ကျတော့ ပြဿနာပင် မဟုတ်၊ သို့မဟုတ်၊ ထိန်းထိန်းသိမ်းသိမ်း အသင့်အတင့် လုပ်ရမည်ဟု သဘောထားသည်။

အဲသည်နောက် သိမှု။

သည်အကြောင်းကို နည်းနည်းလေး ပြည့်စုံအောင် ပြောချင်သည်။

လူတိုင်းက ကိုယ့်ကိုယ်ကိုယ် ငါ သိသည် ဟုထင်ကြသည်။ ငါသိသမျှသည် အတော်နဲ့ပဲ၊ သို့မဟုတ် ငါလည်း ဒီလောက်တော့သိတာပဲ၊ သို့မဟုတ် ငါလည်း ဒီကိစ္စမှာ သဘောထား မှတ်ချက်ပေးနိုင်ရုံလောက်တော့ သိတာပဲဟု မြင်ကြသည်။

ထို့ကြောင့်၊

ဘောလုံးပွဲ တစ်ပွဲ နှစ်ပွဲ ကြည့်ဖူးသူကလည်း ကမ္ဘာ့ဖလားပွဲမှာ ဘယ်သူနိုင်မည် ဟူ၍ ဟောကိန်း ထုတ်နေတတ်သည်။ သတင်းစာ တစ်ခါတစ်ရံ ဖတ်သူကလည်း ဘားရက်အိုဘားမားကတော့ 'ဘာ' ပါပဲ၊ အမာဒီနီဂျက်ကတော့ ဘာလုပ်လိမ့်မည်၊ စသဖြင့် သေချာပေါက် ပြောနေတတ်သည်။

အဲသည်လို သိတယ်ထင်မှုနှင့် စပ်လျဉ်း၍ စကားတစ်ခု ရှိသည်။

A little knowledge is dangerous. တစိုးတစိ အသိသည် ကြောက်စရာ ကောင်းသည် ဆိုသောစကား။

ကွမ်းယာဆိုင်မှာ ဆေးတစ်မျိုး၊ နှစ်မျိုး ရောင်းဖူးရုံနှင့် ကိုယ့်ကိုယ်ကိုယ် ဆရာဝန်အလုပ် လုပ်တတ်ပြီ ထင်သော သူသည် ပတ်ဝန်းကျင်အတွက် အန္တရာယ် ဖြစ်သည်။

ဥပမာတွေ ပြလျှင် ရှည်လျားနေမည်။ အဲသည်လို တစိုးတစိအသိကို အတတ်လုပ်ပြီထင်ပြီး ဇရာမကိစ္စကြီးတွေမှာ ဝင်ရောက်စီမံနေသူတွေ နေရာတကာမှာ အများအပြား ရှိသည်။

စင်စစ် ဗဟုသုတသည် တန်ဖိုးရှိတာ မှန်ပါသည်။

သို့သော် တစ်စွန်းတစ်စ ဗဟုသုတနှင့် ထင်တိုင်းကြံလျှင်တော့ ဒုက္ခရောက်ဖို့ များသည်။

တစ်ဖက်က စဉ်းစားပြန်လျှင်မူ လူတိုင်းမှာပင် ဗဟုသုတ(သိမှု)သည် နည်းနည်းကပဲ စရမည် ဖြစ်သည်။

နည်းနည်းမှ များများ။

ဟိုတစ်စ သည်တစ်စမှ ကျယ်ကျယ်ပြန့်ပြန့် စုံစုံလင်လင်။

အပေါ်ယံ ရုပ်သိမှုမှ နက်နက်ရှိုင်းရှိုင်း သိမှု။

အဲသလိုပဲ တိုးတက်သွားရလိမ့်မည်။

သိမှုကိစ္စမှာ နောက်တစ်ခု ရှိသေးသည်။ အသေးစိတ် (details) တွေကို သိတာနှင့် ခြုံငုံ၍ (overall) သိတာ။ အစိတ်အပိုင်း (parts) ကို သိတာနှင့် ပုံကားချပ်ကြီး (big picture) ကို မြင်တာ။

တစ်နည်းပြောသော်၊ သစ်ပင်ကိုသိတာနှင့် သစ်တောကိုသိတာ။

သိစရာ နှစ်ပိုင်းရှိသည့်အထဲမှာ တစ်ပိုင်းတည်းသိလျှင် မပြည့်စုံ။ သစ်တောကိုလည်း သိရမည်၊ သစ်ပင်ကိုလည်း သိရမည်။ ပုံကားချပ်ကြီး ကိုလည်း မြင်တတ်ရမည်။ အသေးစိတ်တွေ လည်း သိတန်သရွေ့ သိရမည်။ သည်အခါ သိမှုအပိုင်းသည် ပြည်စုံပြီ မဆိုနိုင်သော်လည်း ကျေနပ်လောက်ဖွယ် ရှိသည် ဟုဆိုနိုင်ပြီ။

ပြန်ချုပ်သော်၊

ပြဿနာတစ်ရပ်ကို ဝေဖန်သုံးသပ်သည့်အခါ စိတ်ရှည်ဖို့လည်း လိုသည်။ အစွဲကင်းဖို့လည်း လိုသည်။ ပြဿနာကို အသေးစိတ်သိသကဲ့သို့ ဆက်စပ်နေသော ပုံကားချပ်ကြီး တစ်ရပ်လုံးကိုလည်း မြင်ဖို့ လိုသည်။

အဲဒါမှသာ အနီးစပ် အမှန်ကန်ဆုံး ပိုင်းခြား ဝေဖန်မှု ပြုနိုင်မည်။ ယင်းမှ ဆက်၍ အကောင်းဆုံး ဆုံးဖြတ်ချက် သို့မဟုတ် လုပ်ငန်း အစီအစဉ် ချမှတ်နိုင်မည်။

အဲသည် အခါမှသာ အောင်မြင်မှု ရရှိနိုင်ပေမည်။

[ ၁၀ စက်တင်ဘာ ၂၀၁၀ ]

# ကွဲပြားခြင်းနှင့် ခွဲခြားခြင်း

လူမှာ ထူးခြားသော အချက်တစ်ခုက မိမိအမျိုးအနွယ်နှင့် မိမိယဉ်ကျေးမှု ထုံးဓလေ့များကို မြတ်နိုးတန်ဖိုးထားတတ်ခြင်း ဖြစ်သည်။

အဲဒါသည် မိမိ အမျိုးအနွယ် တည်တံ့ရေးအတွက် လိုအပ်ချက်တစ်ရပ် ဖြစ်တာ မှန်သော်လည်း၊ သည်စိတ်ဓာတ်၏ ဘေးထွက် သက်ရောက်မှုအဖြစ် မိမိနှင့် မတူကွဲပြားသော တခြားမျိုးနွယ်များအပေါ် ခွဲခြားစိတ် ဖြစ်ပေါ်တတ်သည်။

မွန်ဂိုလီယံနွယ်ဖွားတွေက မိမိ အသားအရောင်ကို အနေတော်ဟု မှတ်ယူသည်။ ဥရောပ လူဖြူ၏ အသား အရောင်မျိုးကို ဖြူရော်ရော်ဟု သူ သဘောမကျ၊ အာဖရိကသားကျတော့ မည်းလိုက်တာ ဟုမြင်သည်။

သို့သော်၊ အာဖရိကသားတွေ သွားမေးလျှင်၊ အသားဆိုတာ မည်းမှဟု ဆိုလိမ့်မည်။ အာဖရိကသို့ ပထမဆုံး ရောက်သွားသည့် လူဖြူသည် နီဂရိုးများ အမြင်၌ အသားအရေ ပြည့်ပြည့်စုံစုံ ပါမလာသူ တစ်ဦးပမာ အံ့သြစရာ ဖြစ်လိမ့်မည်။

သို့သော်၊ 'အလှအပဟူသည် အရေပြား တစ်လွှာစာမျှသာ' ဟူသော စကားလို လူလူချင်း ကွဲပြားမှုကလည်း အပေါ်ယံ သွင်ပြင်လောက်မှာသာ ရှိသည်။ အဲဒါကလွဲလျှင် လူဟူသည် တစ်မျိုးတည်းသာပဲ ဖြစ်သည်။ သတ္တဗေဒသဘောအရ ပြောလျှင် သတ္တဝါမျိုးစိတ် (species) တစ်ခုတည်းမှာ ပါဝင်သူတွေ။ ဘယ်သူကမှ ဘယ်သူ့ထက်မသာ။

လူဖြူ–လူဝါ–လူမည်း ကလေးသုံးယောက်ကို မွေးစကတည်းက တစ်နေရာမှာ အတူနေ၊ အတူစား၊ အတူ သင်ကြားပေးလျှင် ဘယ်သူ့ထက် ဘယ်သူမှ ညံ့စရာ မရှိ။

သို့သော် လူတွေဆိုတာက နေရင်းဒေသ၊ ပတ်ဝန်းကျင် သဘာဝ၊ ပြောဆိုသည့် ဘာသာစကား၊ မှတ်သားခဲ့သည့် အစဉ်အလာ စတာတွေ အကြောင်းပြုကာ ကိုယ့်မျိုးနွယ်စုနှင့် ပတ်သက်လျှင် အစွဲအလမ်း သံယောဇဉ်တွေ၊ အကောင်းမြင်စိတ်တွေ များတတ်ကြသည်။ မိမိ လူမျိုး အမြင့်ဆုံးရောက်ခဲ့သည့် အနေအထားကို မှတ်သားကာ တို့က ရာဇဝင်ဂုဏ်ရောင် ဘယ်လို ပြောင်ခဲ့တာဟု ဂုဏ်ကြွားချင်တတ်သည်။ သူ့လူမျိုးမှာလည်း သူ့ရာဇဝင် အစဉ်အလာနှင့် ချီ ရှိတာကို မသိ၊ သူများ၏ ညံ့ကွက်ကိုသာ သတိထားမိနေတတ်သည်။

ထို့ကြောင့်လည်း လူမျိုးတိုင်းလိုလိုမှာ သူတစ်ပါး လူမျိုးနှင့် စပ်လျဉ်း၍ သောင်ပြောင် ပြောဆိုစရာ ဟာသ ပုံပြင်များ ရှိကြခြင်း ဖြစ်သည်။ ဘယ်လူမျိုးက သိပ်နုံတာ၊ ဘယ်လူမျိုးက ဘယ်လောက် ကပ်စေးနှဲတာ စသဖြင့်။

သည်ပုံပြင်တွေသည် ကိုယ်က အလှောင်ခံရသူနေရာက မဟုတ်လျှင် ရယ်ရသည်။ သို့သော် ပုံပြင်ထဲပါတာကို တစ်ဖက်လူမျိုး၏ စရိုက်သဘာဝ အမှန်ဟု မှတ်ယူလျှင် လွဲသွားဖို့ များသည်။

ဥပမာ တစ်ခု နားထောင်ကြည့်ပါ။

လမ်းထောင့် တစ်နေရာမှာ လူလေးယောက် ရပ်နေသည်။ လူလေးယောက်၊ လူမျိုးလေးမျိုး။ အမေရိကန်၊ ရုရှား၊ တရုတ်နှင့် အစ္စရေး။

သတင်းထောက် တစ်ယောက် သူတို့အနား ရောက်လာပြီး မေးသည်။

'ခွင့်ပြုပါ ခင်ဗျား...အသားပြတ်လပ်တဲ့ ကိစ္စနဲ့ ပတ်သက်ပြီး ခင်ဗျားတို့ သဘောထားအမြင်တွေ သိပါရစေ'

အမေရိကန်က ပြန်မေးသည်။ 'ပြတ်လပ်တယ်ဆိုတာ ဘာလဲဗျ'

ရုရှားက မေးသည်။ 'အသားဆိုတာ ဘာလဲဗျ'

တရုတ်က 'သဘောထားအမြင်ဆိုတာ ဘာကို ခေါ်သလဲ'

အစ္စရေးကတော့ 'ခွင့်ပြုပါခင်ဗျာ ဆိုတာ ဘာတုံးဗျ' တဲ့။

ပုံပြင်က ဒါပဲ ဖြစ်သည်။

သူ ဘာပြောသလဲ ထပ်ဖွင့်ရသော်၊

အမေရိကန်တွေသည် 'ပြတ်လပ်မှု' ဆိုတာ ဘာမှန်း မသိလောက်အောင် အလျှံပယ်ကြွယ်ဝသူတွေ ဖြစ်သည်။ ရုရှားတွေကတော့ မစားရတာကြာသဖြင့် 'အသား' ဆိုတာ မကြားဖူးသလို ဖြစ်နေသည်။ တရုတ်ကတော့ ကိုယ့်သဘော ကိုယ့်အယူအဆဆိုတာ တစ်ခါမှ ပြောခွင့်မရသဖြင့် ဘာမှန်း မသိကြ။ အစ္စရေးကတော့ ယဉ်ကျေးမှု မရှိ၊ 'ခွင့်ပြုပါ ခင်ဗျာ' ဆိုသော အသုံးအနှုန်းကို နားမလည်... ဟူ၍ ဖြစ်သည်။

သို့သော်၊ အဲဒါတွေ ဘယ်လောက်မှန်သလဲ။

အလျှံပယ်ကြွယ်ဝသည် ထင်ရသော အမေရိကန်တွေ ပြီးခဲ့သည့် နှစ်ပိုင်းများအတွင်း စီးပွားရေး ကျဆင်းသည့် ဒဏ်ကို အလူးအလဲ ခံနေရသည်။ ကွန်မြူနစ်စနစ် ခွဲတမ်းခေတ်က အသားငတ်ခဲ့သော ရုရှားပြည်မှာ ယနေ့ အသားမပြတ်တော့။ တစ်ချိန်က ဗဟိုဦးစီးစနစ် တင်းကျပ်လှသည့် တရုတ်ပြည် မှာလည်း ယခင်နှင့်စာတော့ အများကြီး ပြောခွင့်ဆိုခွင့်ရပြီ။

အဲ၊ အစ္စရေးတွေကော။ ရိုင်းတုန်းပဲလား။

သည်ပုံပြင်ကို ဖတ်ရသည်က အစ္စရေး၏ စီးပွားရေးတိုးတက်မှုအကြောင်း ဖော်ပြသည့် Start-Up Nation ဆိုသော စာအုပ်မှာ ဖြစ်သည်။ အစ္စရေး ကောင်းကြောင်း ရေးသည့်စာအုပ်မှာ အစ္စရေး မကောင်းကြောင်း ပြောသည့် ပုံပြင်ကို ဘာကြောင့် ဖော်ပြသလဲ။

ကောင်းသောဘက်က အခိုပွာယ်ယူပြီး ပြောချင်သောကြောင့် ဖြစ်သည်။

သူက၊ အစ္စရေးတွေသည် ရိုင်းတာ မဟုတ်၊ သူတို့မှာ ပဋိသန္ဓာရစကား ပြောနေဖို့ အချိန်မရှိခြင်းသာ ဖြစ်သည်၊ အစ္စရေးသည် တိုင်းပြည် သေးသည်၊ လူနည်းသည်၊ ထို့ကြောင့် တိုင်းပြည်ကို ကာကွယ်ဖို့၊ တိုင်းပြည် အင်အားရှိဖို့၊ တစ်ဦးချင်း တိုးတက်ဖို့၊ တစ်ဦးချင်း ကြီးပွားချမ်းသာဖို့ မပြတ်လှုပ်ရှားနေရသည်၊ နိုင်ငံတကာ စီးပွားရေး နယ်ပယ်မှာ ယှဉ်ပြိုင်နိုင်ဖို့ မပြတ် တီထွင် ကြံဆ နေရသည်၊ ကြံဆ၍ ရသမျှကို ချက်ချင်းထ အကောင်အထည် ဖော်ရသည်၊ ထို့ကြောင့်လည်း ရန်သူတွေ ဝိုင်းဝိုင်းလည်ကာ စစ်ပွဲတွေ ခဏ ခဏ ဆင်နွှဲ နေရသော အစ္စရေးသည် စီးပွားရေးတွင် ကမ္ဘာ့ထိပ်တန်း၌ ရှိနေခြင်း ဖြစ်သည်၊ စသဖြင့် ရေးသည်။

အဲသည်တော့ 'ခွင့်ပြုပါ ခင်ဗျာ' သည် ခင်ဗျားတို့ ကျုပ်တို့မှာ အရေးကြီးသော ယဉ်ကျေးမှု ဖြစ်သော်လည်း အစ္စရေးအဖို့တော့ ယဉ်ကျေးမှုစာရင်းထဲတွင် မပါ ဟုဆိုလိုသော သဘောဖြစ်သည်။

သည်လိုပဲ၊ တစ်ဦးနှင့်တစ်ဦး ယဉ်ကျေးမှုတွေ မတူကြ။ ဒါကို အကြောင်းပြုပြီး သူ့လူမျိုးက ရိုင်းသည်၊ ငါ့လူမျိုးက ယဉ်ကျေးသည်၊ ငါ့အမျိုးက မြင့်မြတ်၍၊ သူ့အမျိုးက နိမ့်ကျသည် စသဖြင့် ခွဲခြား၍ မရ။

အဲဒါတွေသည် အမှန်ဟု မှုသေယူ၍ မရ။

သို့သော်၊ ခေတ်အဆက်ဆက်ပင် လူတွေ၏ အတ္တစွဲ၊ လူမျိုးစွဲ၊ ဘာသာစွဲ တွေကို အသုံးချကာ အစွဲကြီးသော ပုဂ္ဂိုလ်တို့က ခွဲခြားမှု၊ နှိပ်ကွပ်မှုတွေ ပြုလုပ်ခဲ့ကြသည်။

ဟစ်တလာခေတ် ဂျာမနီမှာ ဂျူးလူမျိုးများကို သန်းချီ သတ်ဖြတ်သည်အထိ ခွဲခြားနှိပ်ကွပ်မှု လွန်ကဲခဲ့သည်။ တောင်အာဖရိကမှာ အပါးသိုက်(ထ)ခေါ် အသားအရောင်ခွဲခြားမှု စနစ်ကို ကာလရှည်ကြာ ကျင့်သုံးခဲ့သည်။ အမေရိကန် ပြည်တွင် လူမည်းများကို ကျေးကျွန်အဖြစ် ခိုင်းစေခဲ့သည်။

လွဲမှားသော အစွဲအလမ်းများပေါ်တွင် အခြေခံသည့် အဲသည် မတရားသော ထင်ရှမ်းများ အားလုံးပင် နောက်ဆုံး၌ အရှုံးနှင့် အဆုံးသတ်ခဲ့သည်။

ကမ္ဘာ၌ လူမျိုးတစ်မျိုးနှင့်တစ်မျိုး မတူညီခြင်း၊ ကွဲပြားခြင်းသည် အရှိအရှန် အနေအထားဖြစ်သည်။ သို့သော် ခွဲခြားခြင်းကား မတရားမှု ဖြစ်ပါသည်။

[ ၁၅ စက်တင်ဘာ ၂၀၀၁ ]

# တိုင်းပြည်နှင့် လူမျိုး တိုးတက်ဖို့

လူတွေပဲဖြစ်စေ၊ တိုင်းပြည်တွေပဲဖြစ်စေ၊ ဖွံ့ဖြိုးတိုးတက်ဖို့အတွက် အရေးကြီးသည့် အချက်တစ်ခုက ကိုယ့်ကိုယ်ကိုယ် သိဖို့ ဖြစ်သည်။

ကိုယ့်ကိုယ်ကိုယ် သိဖို့ဆိုရာ၌ ကိုယ်တော်တာ တတ်တာတွေချည်း သိနေ၍ မပြီး၊ ကိုယ်ဘာညံ့သည်၊ ဘယ်နေရာတွေ လိုသည်၊ ဘာတွေ ပြုပြင်ဖြည့်ဆည်းရမည် စတာတွေလည်း သိဖို့ လိုသည်။

တချို့က ကိုယ့်ကိုယ်ကိုယ် သိပ်တော်သည်၊ တတ်သည်၊ ထင်ကြသည်။ အလုပ်ကျတော့မလုပ်။ အဲသည်ခါ သူများလောက် ဘယ်တော့မှ မဖြစ်မြောက်။

ဖွံ့ဖြိုးတိုးတက်သည့် တိုင်းပြည်များမှာ အလုပ်လုပ်သော စိတ်သည် အမျိုးအရိုး၏ အသွေးအသားထဲမှာပင် ပါနေသလား ထင်ရသည်။ အလုပ်ကို ဝန်ထုပ်ဝန်ပိုးဟု သူတို့ သဘောမထားကြ။ အနုပညာရှင်၊ အတတ်ပညာရှင်များရော လုပ်ငန်းသမားများပါ ပညာအလုပ်၊ စီးပွားအလုပ်ကို ထက်သန်မှု အပြည့်နှင့် ကျားကုတ်ကျားခဲ လုပ်ကြသည်။

တချို့လူမျိုးကတော့ အလုပ်လုပ်ရသည်ကို ဒုက္ခတစ်ခု ခံစားနေရသည့်ပမာ သဘောထားကြသည်။ အလုပ်လုပ်မှ ရမည်ဆိုလျှင် နေပါစေ၊ မရလျှင်လည်း ကိစ္စမရှိဟု ဆိုချင်ကြသည်။ အဲသည်တော့ တကယ်လည်း မရကြ။

တစ်ခါက ကော်စတာရီကာနိုင်ငံတွင် တရုတ်တိုင်ပေမှ စိုက်ပျိုးရေးပညာရှင်အဖွဲ့တစ်ဖွဲ့ ရောက်လာပြီး စံပြစပါးခင်းတစ်ခု စိုက်ပျိုးသည်။ သူတို့စိုက်ခင်းက စပါးနှံတွေ ခိုင်ဖြိုး လှပပြီး အထွက်နှုန်းကလည်း ကော်စတာရီကာ ထုံးစံထက် အဆမတန် သာလွန်နေရာ သက်ဆိုင်ရာ ပုဂ္ဂိုလ်များက လယ်သမားတွေ ဖိတ်ခေါ်၍ စိုက်ခင်းကို ပြကြသည်။ လာကြည့်သူများကလည်း စိုက်ခင်းက တရုတ်တိုင်ပေ လယ်လုပ်သားတွေ လုပ်ငန်းကျွမ်းကျင်တာရော၊ အထွက်နှုန်းကောင်းတာကိုပါ သဘောကျကာ ချီးမွမ်းစကား ဆိုကြသည်။

သို့သော်၊ ကော်စတာရီကာသား စစ်စစ် ဟုဆိုရမည့် ပုဂ္ဂိုလ်တစ်ယောက်ကတော့ တရုတ်တိုင်ပေ လယ်သမားတစ်ယောက်ကို မေးသည်။ 'ခင်ဗျားတစ်ရက်မှာ ဘယ်နှနာရီ အလုပ်လုပ်ရသလဲ'

'၁၂ နာရီ' ဟု တရုတ်တိုင်ပေသားက ဖြေသည့်အခါ ကော်စတာရီကန်က ပြုံး၍ မှတ်ချက်ချသည်။ 'အဲသလောက် လုပ်မှတော့ ဘယ်သူမဆို ဖြစ်တာပေါ့ဗျာ' ဟူ၍။

အလုပ်မလုပ်ဘဲ အောင်မြင်သည့် နည်းလမ်းဆိုလျှင်တော့ သူ စိတ်ဝင်စားမည်၊ သို့မဟုတ်လျှင်တော့ ဘာလုပ်မည်လဲ ဟူသော သဘော။

တချို့လူမျိုးကတော့ မလုပ်တာ မဟုတ်။ သို့သော် ဝတ္တရားကျေလုပ်သည်။ မအောင်မြင်သည့်အခါကျတော့ ဟိုလူ့အပြစ်ပုံချ၊ သည်လူ့အပြစ်ပုံချ။

ကိုယ့်အပြစ်ကို သူများ ပုံချရာ၌ ဗိုလ်စွဲသွားသည့် ကိုလံဘီယာပြည်က ဇာတ်လမ်းတစ်ပုဒ် ရှိသည်။

ကိုလံဘီယာမှာ နွားပေါသည်။ ထို့ကြောင့် သားရေထွက်သည်။ သို့သော် သူတို့ သားရေပစ္စည်းလုပ်ငန်းက ပြည်ပသို့ တိုးမပေါက်။

ကိုလံဘီယာသည် တောင်အမေရိက မြောက်ဖျားမှာ ရှိသည်။ သူ့အထက်ဘက် သိပ်မဝေးသော နေရာမှာ ရောမ သားရေပစ္စည်း ဈေးကွက်ကြီး ရှိသည်။ အမေရိကန်ပြည်။

သည်ဈေးကွက်ကြီးထဲ ဝင်တိုးနိုင်လျှင် ချမ်းသာပြီ။

ထို့ကြောင့် အစိုးရနှင့် သားရေလုပ်ငန်းသမားများက သူတို့ပစ္စည်း ဘာကြောင့် တိုးမပေါက်ဖြစ်နေရသလဲ စူးစမ်း လေ့လာပြီး တိုးပေါက်အောင် လုပ်နိုင်မည့် နည်းလမ်းများ ရှာဖွေတင်ပြပေးရန် ကုမ္ပဏီတစ်ခုကို ငှားရမ်းခိုင်းသည်။

ကုမ္ပဏီသည် နယူးယောက်မြို့မှာရှိသည့် နိုင်ငံတကာမှ သားရေပစ္စည်းအဝယ်တော်များနှင့် အမေရိကန်ပြည်အနှံ့အပြားရှိ သားရေအိတ် အရောင်းဆိုင်များမှ ပုဂ္ဂိုလ်ပေါင်း ထောင်ချီ၍ တွေ့ဆုံမေးမြန်းသည်။

ထိုမေးမြန်းချက်များမှ ရရှိသည့် အချက်အလက်အားလုံးကို အနှစ်ချုပ်ကြည့်လိုက်သည့်အခါ အဖြေတစ်ခု ရှင်းရှင်းလင်းလင်း ထွက်လာသည်။ အင်းက ကိုလံဘီယာနိုင်ငံလုပ် သားရေအိတ်များသည် အရည်အသွေး ညံ့ဖျင်းပြီး ဈေးအလွန်ကြီးနေသည် ဟူ၍ ဖြစ်သည်။

သို့နှင့်၊ ကုမ္ပဏီက သည်ချို့ယွင်းချက်ကို ကုစားနိုင်မည့်နည်းလမ်း ရှာဖွေရန် ကိုလံဘီယာပြည်ဘက်သို့ ပြန်လှည့်ပြီး စုံစမ်းရေး လုပ်ရသည်။

သားရေအိတ် လုပ်ငန်းရှင်များအား 'ခင်ဗျားတို့ပစ္စည်းက ကောင်းမေ့ဘူးဗျာ၊ ဈေးကျတော့ များနေတယ်၊ အဲဒါ ဘာကြောင့်လဲ' မေးသည့်အခါ

'အဲဒါ ကျွန်တော်တို့ အပြစ်မဟုတ်ဘူးဗျ' ဟု ဖြေကြသည်။ အဲဒါ သားရေလုပ်ငန်းရှင်တွေကြောင့် ဖြစ်တာဗျ။ သူတို့ သားရေတွေက ညံ့တယ်။ အကျင့်တီးနား သားရေဆိုရင် သိပ်ကောင်းတာ။ ဒါပေမဲ့ အဲဒီ့နွား

ပြည်တွင်းသားရေလုပ်ငန်းကို အကာအကွယ်ပေးတဲ့အနေနဲ့ ပြည်ပသားရေကို သွင်းကုန်ခွန် အများကြီး ကောက်တော့ ကျွန်တော်တို့ မဝယ်နိုင်ဘူး။ ပြည်တွင်းဖြစ် သားရေအညံ့ကိုပဲ မတန်တဲ့ဈေးပေးပြီး သုံးနေရတယ် စသဖြင့် သူတို့က ထောက်ပြကြသည်။

သို့နှင့် သားရေလုပ်ငန်းရှင်များထံ သွားကြပြန်သည်။ သူတို့ကို မေးတော့ သူတို့ကလည်း မဆိုင်းမတွပင်။ 'ကျွန်တော်တို့ အပြစ် မဟုတ်ဘူးဗျ' ဟု ဆိုပြန်သည်။ ဘယ်သူ့အပြစ်လဲ မေးတော့ သားသတ်ရုံများနှင့် ဆိုင်သည်တဲ့။ သားသတ်လုပ်ငန်းရှင်တွေက အသားက ရသော အမြတ်ကို အဓိကထားပြီး လုပ်ကိုင်ကြသူများဖြစ်ရာ သားရေခွာသည့်အခါ ဂရုမစိုက်ကြ။ အဲသည်တော့ အနာအဆာ အပွန်းအပဲ့များသည်။ သားရေနယ်သမားက ရသည့် သားရေနှင့်ပဲ အလုပ်လုပ်ရတာ ဖြစ်သည် ဟုရှင်းပြသည်။

ကိုင်း၊ ဒါဖြင့် သားသတ်ရုံတွေဆီ သွားကြစို့ဆိုပြီး သားသတ်သမားများကို မေးတော့၊ သားရေခွာတဲ့ အလုပ်တော့ ကျုပ်တို့လည်း ကောင်းကောင်း လုပ်တတ်တာပေါ့ဗျာ၊ အခုကိစ္စက ကျုပ်တို့ အပြစ်မဟုတ်၊ ခြံပိုင်ရှင်တွေကြောင့် ဖြစ်တာဟု ဆိုကြပြန်သည်။

ခြံပိုင်ရှင်တွေက နွားသူခိုးကို ကြောက်တော့ သူတို့ နွားတွေမှာ ခြံတံဆိပ် နှိပ်ကြသည်။

သံနဲ့လုပ်တဲ့ ခြံတံဆိပ်တုံးကို မီးရဲရဲဖုတ်ပြီး နွားအရေပြားမှာ ကပ်တာပေါ့ဗျာ။ နွားသူခိုးတွေက နွားမှာပါတဲ့ အသားတံဆိပ်ကို ဆင်တူယိုးမှား နောက်တံဆိပ်တစ်မျိုးနဲ့ ထပ်နှိပ်ပြီး ပုံဖျက်တတ်တယ်။ အဲဒီတော့ အလွယ်တကူ မလုပ်နိုင်အောင် ခြံရှင်က သူ့နွားတွေမှာ အသားတံဆိပ်ကို တစ်ခုထက်မက နှိပ်ကြတော့ အရေပြားတွေ ပျက်စီးတာပေါ့ဗျာ ဟုရှင်းပြကြသည်။

သို့နှင့်၊ စုံစမ်းသူတွေ နွားခြံရှင်များထံ သွားကြပြန်သည်။ ပြဿနာက သူတို့ဆီမှာ လက်စသတ်လိမ့်မည် ဟုမှတ်ယူကြသည်။ သူတို့မှာတော့ နောက်ထပ် လွှဲချစရာ လူမကျန်တော့ဘူး မဟုတ်လား။

သို့သော်၊ ခြံပိုင်ရှင်များကလည်း ကျွန်တော်တို့ အပြစ် မဟုတ်ပါဘူးဗျာ ဟုဆိုပြန်သည်။

ဒါဖြင့် ဘယ်သူ့အပြစ်တုံးဆိုတော့ 'နွားတွေဗျာ' တဲ့။ နွားတွေက စဉ်းစား ဉာဏ် မရှိ၊ ကိုယ့်အရေပြား ပျက်စီးမှာ၊ အဲဒီက ဆက်ပြီး ကိုလံဘီယာ

သားရေထည်လုပ်ငန်းကြီး ထိခိုက်မှာတွေ သူတို့ မသိ။ အဲသည်တော့ ကြော်ကိုက်၍ ယားသည့်အခါတိုင်း နွားခြံ သံဆူးကြိုးကို နာနာတိုးကြသည်၊ အဲသည့်ခါ အရေပြားမှာ အနာအဆာတွေ ဖြစ်ကြသည်ပေါ့။ ဒါကို သူတို့လည်း သာမှမတတ်နိုင် ဟုဆိုကြသည်။

သုတေသနလုပ်သည့် ကုမ္ပဏီကတော့ တိတိကျကျ ဖော်ပြစရာ အကြောင်းရင်းကို သိသွားပြီ။ ကိုလံဘီယာက သားရေပစ္စည်း လုပ်ငန်းကြီး အောင်မြင်ရခြင်းသည် ကိုလံဘီယာက နွားတွေ ဉာဏ်နည်းသောကြောင့် ဖြစ်သည်။

သို့သော် နွားတွေ ဉာဏ်ရှိလာအောင် လုပ်ဆောင်ရန် နည်းလမ်းကိုကား မည်းဘို့ ရှာမပေးနိုင်ခဲ့။

စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုနှင့် လူမျိုးတို့၏ ဓလေ့စရိုက်များကို ဆက်စပ် လေ့လာသော ပညာရှင်တို့ကမူ၊ မိမိ အလုပ်ကို အကောင်းဆုံး လုပ်မည်ဟု သဘောမထား၊ အပြစ်တင်စရာ လူရှာမရလျှင် နွားကို ပုံချသော စိတ်ဓာတ်မျိုး နှင့်ကား ဘယ်တိုင်းပြည် ဘယ်လူမျိုးမှ တိုးတက်လာစရာ အကြောင်းမရှိဟု ကောက်ချက်ချကြပါသည်။

[ ၂၂ စက်တင်ဘာ ၂၀၁၀ ]

# ပြည်သူ ဘာကိုအလိုရှိသနည်း

၂၀၁၀ ရွေးကောက်ပွဲ ဝင်မည့် ပါတီတွေ၊ ကိုယ်စားလှယ်လောင်းတွေ အကြီးအကျယ် အလုပ်ရှုပ်နေကြသည်။

ရွေးကောက်ပွဲ အောင်နိုင်ရေးအတွက် နည်းလမ်းတွေ အစီအစဉ်တွေ ချကြ၊ ညှိနှိုင်းကြ၊ လှုပ်ရှားကြ။ တစ်ဖက်က ရန်ပုံငွေရှာဖွေရေး၊ ဆန္ဒမဲပေးမည့်နေ့မှာ ကူညီမည့် အမာခံ အင်အား ရရှိရေး၊ ထို့နောက် ကော်မရှင်နှင့် ဆက်စပ်ရသည့် ရုံးလုပ်ငန်းများ အဆင်ပြေ ချောမွေ့ရေး ... အဲဒါတွေဖြင့် လက်မလည်နိုင်ကြ။

သို့ပေမဲ့ နိုင်ငံရေးသမား၏ အလုပ်သည် ဒါပဲလား။

နိုင်ငံရေးသမားသည် မိမိ ပါတီ၊ သို့မဟုတ် မိမိကိုယ်တိုင် လုပ်ပိုင်ခွင့်အာဏာ ရရှိရေးအတွက် တစ်စုံတစ်ရာ အထောက်အကူပြုမည် ထင်ရသည့် အလုပ်များကိုလည်း လုပ်ပါလိမ့်မည်။

အဲဒါသည် သူ့ဖြစ်တည်မှုအတွက် အခြေခံအလုပ် ဖြစ်သည်။

သို့သော် ကြီးထွားရှင်သန်ရေး၊ အစွန့်ရှည် တည်တံ့ရေးတို့အတွက် မမိုတ်မသုံ အာရုံပြုရမည့် အရာတစ်ခု ရှိသည်။

တိုင်းပြည်ကိစ္စ။

တိုင်းပြည် အကျိုးစီးပွားအတွက် ဘာတွေ လုပ်မည်လဲ။

လူထု အတွက်ကတော့ အဲဒါသည် အရေးကြီးသည်။

နိုင်ငံရေးသမားတွေ တိုင်းပြည်အရေး ဆွေးနွေးပြောဆိုလာလျှင်၊ တစ်စုံတစ်ရာ လုပ်ကြကိုင်ကြတာတွေ မြင်လာလျှင်၊ လုပ်လက်စ ကိုင်လက်စများနှင့် စပ်လျဉ်း၍ ဝေဖန်ကြ ထောက်ပြကြ ပြုပြင်ရန်နည်းလမ်း ရှာဖွေကြ လုပ်လာလျှင် နိုင်ငံရေးသမားကို လူထုက စိတ်ဝင်စားလိမ့်မည်။ ဒါ တို့အရေး ကိစ္စကို လုပ်ကိုင်တာပဲ။

သည်လိုမဟုတ်ဘဲ သူ့ကိစ္စချည်းသာ လုံးပန်းနေမည် ဆိုလျှင်တော့ လူအများ၏ စိတ်ဝင်စားမှု ခံယူရလိမ့်မည် မဟုတ်။

လူထုက နိုင်ငံရေး စိတ်ဝင်စားသလား၊ မဝင်စားဘူးလား ဟူသည် အဲသည်အပေါ်မှာ မူတည်သည်။

စောစောပိုင်းတစ်လျှောက်လုံး နိုင်ငံရေးပါတီ(သစ်)နှင့် နိုင်ငံရေးသမား

(သစ်)တွေ ကိုယ့်အလုပ်ကိုယ်ပဲ အများဆုံး အချိန်ပေးခဲ့ကြတာ တွေ့ရသည်။ လူထုနှင့် ဆက်ဆံသည့်အပိုင်းမှာ တချို့ပုဂ္ဂိုလ်တွေ စာနယ်ဇင်း အင်တာဗျူး နည်းနည်းပါးပါး လုပ်နိုင်ကြတာ လောက်ပဲ ရှိခဲ့သည်။

အဲ၊ များမကြာမီက စတင်ကာ လူထုကြားထဲ တိုးနိုင်သမျှ တိုးဝင်လာကြတာတွေ တွေ့လာရသည်။ အင်တာဗျူးတွေ ယခင်ကထက် များများစားစား ပြည်ပြည့်စုံစုံ ဖတ်ရှုလာရသည်။ စာစောင်တွေ၊ လက်ကမ်းစာရွက်တွေ ဖြန့်ကြသည်။ လူထု နှင့် တိုက်ရိုက်ထိတွေ့သည့် ပွဲများမှာ စကားပြောကြသည်။ ရေဒီယို နှင့် ရုပ်မြင်သံကြားက ဟောပြောသူတွေလည်း ရှိလာကြသည်။

သို့သော် ရသမျှအချိန်မှာ ရသလောက် လုပ်ရသဖြင့် နိုင်ငံရေးသမားများနှင့် လူထုကြား ထိတွေ့မှုတွေက အလွန်နည်းပါးနေသေးသည်။ ပါတီတွေနှင့် အများပြည်သူအကြား ရင်းနှီးပွင့်လင်းသော ဆက်ဆံမှုတွေ ဖြစ်ပေါ်လာဖို့ အချိန်ပေးရပါလိမ့်ဦးမည်။

သို့သော် ရှိသည့်အချိန်မှာ နိုင်ငံရေးသမားတို့ အာရုံစူးစိုက်သင့်သည့် အရာတစ်ခု ရှိသည်။

အဲဒါက မိမိတို့ ပြောစရာရှိတာတွေ ပြောသလို လူထုအသံကိုလည်း နားစွင့်ဖို့ ဖြစ်သည်။

ပြည်သူတွေ ဘာကို အလိုရှိသလဲ။

ပြည်သူ့အလိုဆန္ဒ ဆိုတာထဲမှာ ကြီးကြီးကျယ်ကျယ် ဆန်းဆန်းပြားပြား တွေ ပါလေ့မရှိ။ မပြည့်စုံတာ၊ ချို့တဲ့အားနည်းတာ၊ မရှိ မဖြစ် လိုအပ်နေတာ တွေကို ဖြည့်ဆည်းပေးစေချင်ကြတာပဲ ရှိသည်။

မငြိမ်းချမ်းသောအရပ်မှာ နေရသူတွေ က ပစ်သံခတ်သံတွေ မကြားချင်။ အသက် အိုးအိမ် ဆုံးရှုံးရတာတွေ ပြီးဆုံးချင်ပြီ။ ပဋိပက္ခ၏ ရင်းမြစ်တွေကို ဖြေရှင်းနိုင်မည့် နည်းလမ်းများ ရှာပေးစေချင်သည်။ ပြီး ရေရှည် ငြိမ်းချမ်းရေး တည်ဆောက်ပေးကြပါ။

လမ်းပန်းဆက်သွယ်ရေး ခက်ခဲခြင်းကြောင့် ဖြစ်သည့် နစ်နာဆုံးရှုံးမှုတွေ အမြဲ ခံစားနေရသူတွေက ဆက်သွယ်ရေးကောင်းအောင် လုပ်မပေးနိုင်သူတွေကို အားမြန်းကြမည်။ သည်ဒုက္ခတွေက ကင်းဝေးချင်လှပြီ။

ကိုယ့်ခြေထောက်ပေါ် ကိုယ်ရပ်ရမည့်အရွယ်မှာ အလုပ်လုပ်ချင်ပါလျက် တစ်ကိုယ်စာ ထမင်းဝသည့် အလုပ်တစ်ခုပင် မရနိုင်ကြသူတွေက အလုပ် အကိုင် အခွင့်အလမ်းတွေ မျှော်လင့်ကြသည်။ သူတစ်ပါးအလုပ်မှာ ခစားခဲ

ပင်ပန်းသော အလုပ်တွေ သွားရောက် လုပ်ကိုင်နေသူတွေ၊ အဲသည် ခက်ခဲသော အလုပ်ကိုပင် သွားရောက် လုပ်ကိုင်ရန် မတတ်နိုင်သူတွေအတွက် ကိုယ့်အရပ်မှာ အလုပ်အကိုင် ရရှိဖို့ ခင်ဗျားတို့ ဘယ်လို ဆောက်ရွက်ပေးနိုင်ကြမည်လဲ၊ မေးကြလိမ့်မည်။

မိမိလယ်ယာကို ကိုယ်ရောစိတ်ပါ စိုက်ထုတ် လုပ်ကိုင်နေကြသည့်ကြားက ထုထုဆောင်ထောင် မဖြစ်နိုင်ကြသည့် တောင်သူလယ်သမားတွေကလည်း သူတို့အတွက် အခက်အခဲ အတားအဆီးတွေ ဘယ်လို ဘယ်ပုံ ရှိနေတာ ခံပြာကြလိမ့်မည်။ အဲဒါတွေကို ဖြေရှင်းပေးနိုင်ကြမည်လား ...။

ကာယ၊ ဉာဏ လုပ်အားများကို အရင်းတည်ကာ ဘဝရပ်တည်မှုနှင့် တိုးတက်မှုအတွက် ရုန်းကန်လှုပ်ရှားကြရသည့်၊ အခြေအနေ အဆင့်အတန်းအမျိုးမျိုးမှ အလုပ်လုပ်သူတို့ကလည်း မိမိတို့ ရပိုင်ခွင့်တွေ ပြည့်ပြည့်ဝဝ ရဖို့နှင့် အလားအလာ အခွင့်အလမ်းတွေ တိုးပွားလာစေဖို့ ဘယ်မူဝါဒ ဘယ်ပေါ်လစီများ စဉ်းစားကြံဆထားတာ ရှိသလဲ၊ သိလိုကြလိမ့်မည်။

အလားတူ ... ... တွေကလည်း။

သည်ဆန္ဒတွေသည် အုပ်စိုးခံ လူထု၏ တရားနည်းလမ်းကျသောဆန္ဒတွေ ဖြစ်သည်။

သည်ဆန္ဒတွေကို စာနာတတ်၊ ထပ်တူ ခံစားတတ်ပြီး သည်ဆန္ဒများ ပြည့်မြောက်အောင် အားထုတ် ကြိုးပမ်းတတ်သူတို့သည် ပြည်သူ အသိအမှတ်ပြုသည့် ပြည်သူ့ကိုယ်စားလှယ်စစ်စစ်များ ဖြစ်လာလိမ့်မည်။

ရေရှည်၌ တိုင်းပြည်လူထုနှင့် တစ်သားတည်းကျသော ပါတီများ နိုင်ငံရေးသမား များသာ အောင်မြင်မြဲ အခွန့်ရှည်တည်တံ့မြဲ ဖြစ်သည်။

[ ၁ အောက်တိုဘာ ၂၀၁၀ ]

## လယ်သမားတို့အတွက် လိုအပ်ချက်

ရွေးကောက်ပွဲဝင်ကြမည့် နိုင်ငံရေးပါတီတို့မှ ခေါင်းဆောင်များ ရေဒီယို ရုပ်မြင်သံကြားတို့မှ မိန့်ခွန်းပြောကြသည့်အခါ ၎င်းတို့ တင်ပြသည့် မူဝါဒ လမ်းစဉ်များထဲတွင် လယ်သမားအရေးသည်လည်း အဓိက ကဏ္ဍတစ်ခုအဖြစ် ပါဝင်လာတာ တွေ့ရသည်။

ယနေ့ လယ်သမားတို့အတွက် လိုအပ်ချက်ဟု ၎င်းတို့ ရှုမြင်သော အရာများကို ထောက်ပြကာ ပြုပြင်ပြောင်းလဲရန် နည်းလမ်းများကိုလည်း ယေဘုယျသဘော ပြောခဲ့ကြသည်။

၎င်းတို့ ပြောဆိုသည့်အထဲတွင် လယ်လုပ်သူ လယ်ပိုင်ခွင့် ဟူသော စကားတစ်ရပ်လည်း ပါရှိသည်။ ယင်းနှင့်ဆက်စပ်၍ ကိုယ်ပိုင်လယ်ယာကို ရောင်းဝယ်ခွင့်၊ ပေါင်နှံခွင့်၊ အမွေပေးခွင့် စတာတွေလည်း ပါဝင်လာသည်။ သည်စကားများ၏ နောက်ကွယ်တွင် ကြီးကျယ်သော အနက်အဓိပ္ပာယ်များ ပါရှိနေသည်။ ၎င်းစကားများအတိုင်း ဖြစ်ခဲ့သော် လယ်ယာကျေးလက်၌ အပြောင်းအလဲများ ကြီးမားစွာ ပေါ်ပေါက်လိမ့်မည် ဖြစ်သည်။ သို့သော်၊ ဟောပြောသူတို့က လယ်လုပ်သူများ လယ်ပိုင်ခွင့်ရရှိရေးကို ဘယ်နည်းဘယ်ပုံ ဆောင်ရွက်မည်ဟူ၍ကား တိတိကျကျ ဖော်ပြကြတာ မတွေ့ရ။ ကျယ်ပြန့်သော အကြောင်းအရာတစ်ရပ်ဖြစ်ရာ အချိန်တိုအတွင်း ရှင်းလင်းအောင် ပြောဆိုဖို့ လွယ်ကူသောကြောင့်လည်း ဖြစ်နိုင်ပါသည်။

သို့သော်၊ အတော်များများပင် လယ်သမားများအား လယ်ပိုင်ခွင့် ပေးလိုသောဆန္ဒ ရှိကြတာကိုကား သတိပြုမိသည်။

ပိုင်ဆိုင်မှုကိစ္စလောက် အခက်အခဲ မကြီးမားဘဲ ဆောင်ရွက်နိုင်ဖွယ်ရှိသည့် ဆန္ဒတစ်ရပ်လည်း ၎င်းတို့တင်ပြကြတာ ရှိသည်။

အဲဒါက လယ်လုပ်သူများအနေနှင့် မိမိလယ်ယာတွင် မိမိ နှစ်သက်ရာ သီးနှံအမျိုးအစားကို လွတ်လပ်စွာ စိုက်ပျိုးခွင့်နှင့် ထွက်ရှိလာသောသီးနှံကို သိုလှောင်ခြင်း၊ ကြိတ်ခွဲခြင်း၊ ပို့ဆောင်ရောင်းချခြင်းများ လွတ်လပ်စွာ ဆောင်ခွင့်ရရှိဖို့ ဖြစ်သည်။

ဒါသည်လည်း စင်စစ်တော့ အခြေခံ လွတ်လပ်ခွင့်များပဲ ဖြစ်သည်။

လယ်သမားသည် သူ့အလုပ်ကိုသူ နားလည်၍ လုပ်နေခြင်း ဖြစ်ရာ

သူ့မြေယာ၌ အကျိုးရှိမည့် သီးနှံကိုသာ သူစိုက်ပျိုးမည် ဖြစ်၏။ ဘယ်သီးနှံ ပိုကောင်းသည်ဟု အတင်းစိုက်ခိုင်းနေစရာ မလို။ အဲသည် သီးနှံကိုစိုက် အခြားသူများ ပိုမို အကျိုးရှိတာမြင်လျှင် သူလည်း ပြောင်းလဲစိုက်ပျိုးမ ဖြစ်သည်။ သီးနှံမျိုးစေ့၊ မြေဩဇာ၊ လယ်လုပ်ကိရိယာ၊ စိုက်ပျိုးနည်းစန ခတာတွေမှာလည်း ထိုနည်းငှင်း ဖြစ်သည်။

ထို့ပြင် သိုလှောင်ခွင့်၊ ကြိတ်ခွဲခွင့်၊ ရောင်းချခွင့်များသည်လည်း လွတ်လ သော ဈေးကွက်စီးပွားရေးစနစ်နှင့် ညီညွတ်သော အရာများသာ ဖြစ် ဆောင်ရွက်ခွင့် ရှိရပေမည်။

လယ်သမားတို့အား ကူညီစောင့်ရှောက်လိုသော နိုင်ငံရေးသမားမျ အလေးထားသင့်သည်က လွတ်လပ်ခွင့်များကြားတွင် ကြီးနိုင်ငယ်ညှဉ်းဝ ထွန်းကားမလာစေဖို့ ဖြစ်သည်။

စင်စစ်၊ လယ်သမား ဆိုသည်က စီးပွားရေးလုပ်ငန်းရှင် အသေးစားမျ ဖြစ်သည်။ လုပ်ငန်းရှင်ဆိုသော်လည်း ပြည့်စုံသူကနည်း၍ လုံးချာလည် သူတွေ များသည်။ သို့သော်၊ လုပ်ငန်းရှင်ဖြစ်သည့်အလျောက် လုပ်ငန်းအတွ အရင်းအနှီး စိုက်ထုတ်ရသည်။ သူ့အလုပ်ကလည်း အချိန်ရာသီနှင့်လုပ်ရသေ အလုပ်မျိုးဖြစ်ရာ ဆိုင်းငံ့၍ မရ။ လတ်တလော လက်ထဲမရှိလျှင် ပေါ ချေးငှားပြီး လုပ်ရသည်။

ထို့ကြောင့် လယ်သမား ဟူသော လုပ်ငန်းရှင် အသေးစား၏ အားနည်းချ တို့ကို အခွင့်ကောင်းယူကာ ၎င်းအပေါ် အမြတ်ထုတ်သူတို့ အစဉ်အဆ ရှိခဲ့သည်။

မြန်မာနိုင်ငံတွင် ချစ်တီးငွေချေးသမားတို့က မြောက်မြားလှစွာသေ မြန်မာ့လယ်ယာမြေတို့ကို ငွေတိုးချစနစ်ဖြင့် သိမ်းယူခဲ့ဖူးကြသည်။ ၎င်းကိစ္စ ဆက်စပ်၍ တောင်သူလယ်သမား အရေးတော်ပုံနှင့် လူမျိုးရေးအဓိကရုဏ်းမျ ပေါ်ပေါက်ခဲ့တာ အများ သိကြသည်။

နောင်တွင် ချစ်တီးများ မရှိတော့သော်လည်း လယ်သမားတို့၏ အရင်းအ လိုအပ်ချက်မှာ ဆုံးခန်းတိုင်ခြင်းမရှိရာ တိုင်းရင်းသားနှင့် အခြားတိုင်းတစ်ပါးသ ငွေရှင်များ အစားထိုးဝင်ရောက်ကာ လယ်ယာ ကျေးလက်၌ အတိုးကြီးစ လုပ်ငန်း ဆက်လက် တည်ရှိခဲ့သည်။

လယ်သမားတို့၏ အခက်အခဲကို ကူညီရန်အတွက် အစိုးရတို့ အမတော်ကြေး ဟူသော စိုက်ပျိုးစရိတ်ချေးငွေ စနစ်တစ်ရပ်ကို ဗြိတိသျှခေ

ောင်းပိုင်းလောက်ကစ၍ ကျင့်သုံးလုပ်ဆောင်ခဲ့ရာ အတိုင်းအတာတစ်ခုအထိ ျိုးပြုသည် ဟုဆိုရပါမည်။ သို့သော် ဖြတ်စားလျှပ်စားလုပ်ခြင်း၊ နီးစပ်ရာ ကို ဦးစားပေးခြင်း၊ တစ်ဦးချင်း လိုအပ်ချက်နှင့်လျော်ညီစွာ မလုပ်ဆောင် င်ခြင်း စသည့် ချို့ယွင်းချက်များကြောင့် ၎င်းရွေးချွေ အစီအမံများသည် ထ်ယာ ကျေးလက်များ ဖွံ့ဖြိုးတိုးတက်အောင် ထောက်ကူနိုင်သော နေအထားထိ မရောက်ရှိခဲ့။

လယ်သမားများအနေနှင့် မိမိတို့အရေးကို ဆောင်ရွက်ရာ၌ စုပေါင်းအား ပေါင်းဉာဏ် အမြော်အမြင်တို့ဖြင့် ဆောင်ရွက်နိုင်ကြရန်အတွက် အသင်းအဖွဲ့များ ဖွဲ့ လိုအပ်ကြောင်းကိုလည်း နိုင်ငံရေးပါတီတို့ ပြောဆိုတင်ပြခဲ့ကြရာ တန်ဖိုး ရှိသော အချက်တစ်ခု ဖြစ်သည် ဟုဆိုရပါမည်။

မြန်မာနိုင်ငံ၌ ဖဆပလခေတ်တွင် နိုင်ငံရေးပါတီကြီးများက စည်းရုံး ဆောင်သည့် လယ်သမားအစည်းအရုံးကြီးများ အပြိုင်ရှိခဲ့ပြီး မြန်မာ့ဆိုရှယ်လစ် ခေတ်တွင်လည်း တစ်ပါတီစနစ်အောက်၌ တစ်ခုတည်းသော လယ်သမား စည်းအရုံးကြီး ရှိခဲ့ဖူးသည်။ သို့သော် နိုင်ငံရေးကို အခြေခံစဉ်းစားကာ ထက်မှအောက်သို့ ဖြန့်ကြက် ဖွဲ့စည်းခဲ့သည့် ၎င်းအသင်းအဖွဲ့များသည် င်အားကြီးမားတာ မှန်သော်လည်း လယ်သမား အကျိုးစီးပွားကိုလည်းကောင်း၊ ယ်ယာမြေ ဖွံ့ဖြိုးတိုးတက်ရေးကို လည်းကောင်း ထိရောက်စွာ ဆောင်ရွက် နိုင်ခြင်း မရှိခဲ့တာ အများအသိ ဖြစ်သည်။

အစဉ်အဆက်ရှိခဲ့သည့် အဓိက ပြဿနာက လယ်သမားများအနေနှင့် မိတို့ ပြဿနာကို လွတ်လပ်စွာ တီထွင်ကြံဆ အဖြေရှာနိုင်ခွင့် မရခြင်း ဖြစ်သည်။ အကျိုးတူ ဆန္ဒတူ ဘဝတူများ လွတ်လပ်စွာ စုဝေးတိုင်ပင်ခွင့်၊ မ်းလေ့လာခွင့်၊ စမ်းသပ် လုပ်ဆောင်ခွင့်များရမှသာ မိမိတို့ အလုပ်ကို တိုးတက်အောင် လုပ်ဆောင်နိုင်ကြမည် ဖြစ်သည်။

ဖွံ့ဖြိုးသော တိုင်းပြည်များတွင် လယ်သမားတို့သည် ဒေသအရ နီးစပ်မှုကို အခြေခံသည့် အသင်းအဖွဲ့၊ စိုက်ပျိုးသီးနှံအလိုက် အသင်းအဖွဲ့၊ စိုက်ပျိုးနည်းများ ိုက်ပျိုးကိရိယာ၊ အရင်းအနှီး ရရှိမှု၊ ဈေးကွက်တင်ပို့မှု စသည်တို့ကို အထူးပြုသည့် အသင်းအဖွဲ့၊ လယ်ယာ အကျိုးစီးပွား ကာကွယ်မှု၊ သင်ကြား ကျေးလက် အသိပညာ မြင့်မားမှု တို့ကို အာရုံပြုသည့် အသင်းအဖွဲ့ အသင်းအဖွဲ့မျိုးစုံတို့တွင် ဆက်စပ်ပါဝင်ကာ မိမိအလုပ်ကို အကောင်းဆုံး ဆောင်ရွက် ပ်ကိုင်နိုင်ကြသည်။

လာမည့် စိုက်ပျိုးရာသီတွင် မိမိမြေယာ၌ ဂျုံ စိုက်မည်လား၊ ပြောင်း စိုက်မည်လား စသည့် စိုက်ပျိုးသီးနှံ ရွေးချယ်မှုကို ရာသီဥတု အခြေအနေ ပြည်တွင်းဈေးကွက် နိုင်ငံတကာ ဈေးကွက်တို့ရှိ ၎င်းသီးနှံ၏ အခြေအနေတို့နှင့် ချိန်ဆတွက်ချက်ကာ ဆုံးဖြတ်ရွေးချယ်သည်။ သည်လို ဆုံးဖြတ်ရွေးချယ် နိုင်ရန်အတွက် သူ ဆက်စပ်ပါဝင်သည့် အသင်းအဖွဲ့များထံမှ သတင်း အချက် အလက်နှင့် အကြံဉာဏ်များ ရရှိသည်။ အလားတူ စိုက်ပျိုးပြီးချိန်ကျမှ ဆောင်ကြောက် အနေအထား ပြောင်းသွားခဲ့သော် လယ်ယာထွက် သီးနှံကို သီးနှံ အတိုင်း ရောင်းမည်လား၊ ၎င်းသီးနှံအား စိုက်ပျိုးရေးနှင့်အတူ မိမိ တွဲဖက် လုပ်ကိုင်နေသည့် မွေးမြူရေးလုပ်ငန်းအတွက် တိရစ္ဆာန် အစားအစာအဖြစ် ဆက်လက် ရင်းနှီးမြှုပ်နှံကာ မွေးမြူရေးက ရလာမည့် အကျိုးအမြတ်ကျမှ ခံစားမည်လား။ သည်အတွက် နောက်ထပ် လုပ်ငန်းအရင်းအနှီးနှင့် ရွှေ့ဆိုင်း ကာလ အသုံးစရိတ်များ လိုအပ်ခဲ့သည်ရှိသော်၊ မိမိကိုယ်တိုင် အစုရှယ်ယာ ဝင်ထားသည့် ကျေးလက်ဘဏ်က ချေးမည်လား၊ မွေးမြူရေး အရင်းအနှီး ထုတ်ပေးသည့် ဘဏ်က ချေးမည်လား၊ ဘယ်ဟာက ပိုတွက်ချေကိုက်မည်လဲ အစရှိတာတွေကို နားလည် ပါးလည် လုပ်တတ်ကိုင်တတ်အောင် မိတ်ဆွေ အသင်းအဖွဲ့များက အသိပေး လမ်းညွှန်လိမ့်မည်။ ဒါတင်မက မိမိတို့ စိုက်ပျိုးသီးနှံတွေ ပြည်တွင်း သို့မဟုတ် ပြည်ပ ဈေးကွက်တွင် အခက်အခဲကြုံ မိမိတို့ စီးပွားရေး ထိခိုက်နစ်နာမည့် အနေအထားမျိုးတွင် အစိုးရက မည်သို့သော ဥပဒေများ၊ အစီအစဉ်များ ထုတ်ပြန်ချမှတ်ကာ အကူအညီပေးနိုင်မည်လဲ အဲသည် အကူအညီ ရအောင် အစိုးရကို ဘယ်လို ဆွဲဆောင် စည်းရုံးမည်လဲ အဲသည်အတွက် ဘယ်ပုဂ္ဂိုလ်၊ ဘယ်အဖွဲ့အစည်းများနှင့် ပူးပေါင်းဆောင်ရွက် မည်လဲ၊ စသည်အားဖြင့် လယ်သမားတို့သည် မိမိတို့ အကျိုးစီးပွားကို အခြေခံ၍ ဖွဲ့စည်းထားသည့် အသင်းအဖွဲ့များအားဖြင့် တစ်ဦးချင်း အရေး သာမက လယ်ယာ လုပ်ငန်းကြီးတစ်ရပ်လုံး၏ အကျိုးစီးပွားကို လည်းကောင်း မိမိတို့ နေထိုင်ရာ လယ်ယာ ကျေးလက်ဒေသ၏ ဖွံ့ဖြိုးတိုးတက်ရေးကို လည်းကောင်း ဆောင်ရွက်နိုင်စွမ်း ရှိကြရာ အားကျဖွယ် ဖြစ်သည်။

ယခုအခါ နိုင်ငံရေးပါတီ ခေါင်းဆောင်တို့က လယ်သမား အစည်းအရုံး ကျေးလက်ဘဏ်၊ ကျေးရွာပိုင်ဘဏ်၊ ကျေးလက်နေ ပြည်သူတို့၏ လူမှုစီးပွား ဘဝ မြှင့်တင်ရေးအသင်း စသည်များ ပေါ်ပေါက်လာဖို့ လိုအပ်ကြောင်း ပြောဆိုလာကြရာ ယေဘုယျအားဖြင့် ကြိုဆိုရမည့်အရာများ ဖြစ်သည်။

သို့သော် လယ်သမားတို့အတွက် အကျိုးကျေးဇူး တကယ် ဖြစ်၊ မဖြစ်မှုသည် ၎င်းကိစ္စများ၌ လယ်သမားများ ကိုယ်တိုင် မည်မျှ ပါဝင်လုပ်ဆောင်နိုင်ကြသလဲ ဟူသော အချက်ပေါ်တွင် အဓိက မူတည်နေပေမည်။

[ ၅ အောက်တိုဘာ ၂၀၁၀ ]

# နိုင်ငံရေးကို စိတ်ဝင်စားဖို့ 'အသိအမြင်' နှင့် 'စိတ်ဓာတ်' လိုပါသည်

ယခုတလော စာနယ်ဇင်း အင်တာဗျူးများတွင် ထင်ရှားသော ပုဂ္ဂိုလ်၊ မထင်ရှားသော ပုဂ္ဂိုလ်တို့အား နိုင်ငံရေးနှင့် စပ်လျဉ်းသည့် မေးခွန်းများ ထိုးခေါက် မေးမြန်းကြည့်ကြတာတွေ တွေ့မြင်နေရသည်။

အမေးခံရသူ အတော်များများက နိုင်ငံရေးကို မသိကြောင်း၊ နားမလည်ကြောင်း၊ စိတ်မဝင်စားကြောင်း၊ ကိုယ့်အလုပ်နှင့်လည်း မဆိုင်ကြောင်း ... စသဖြင့် ဖြေကြတာ တွေ့ရသည်။

သည်အဖြေတွေကို အကြောင်းပြု၍ အမျိုးမျိုး သုံးသပ်ကြတာတွေ ရှိသည်။ တစ်ပါတီ သို့မဟုတ် တစ်စုတစ်ဖွဲ့က နှစ်ပေါင်းများစွာ ကြီးစိုးခဲ့သဖြင့် လူတွေက နိုင်ငံရေးဆိုလျှင် အစိုးရဆန့်ကျင်ရေးလို့မြင်ကာ ပတ်သက်ရမှာ ကြောက်ရွံ့ကြောင်း၊ နိုင်ငံရေးစကား လူသိရှင်ကြား ပြောရမှာ ဝန်လေးကြောင်း၊ အဲဒါကြောင့် မသိပါ၊ နားမလည်ပါ စသဖြင့် ဆင်ဝှေ့ရန်ရှောင် ပြောကြခြင်း ဖြစ်ကြောင်း တချို့က ကောက်ချက်ချကြသည်။

တချို့ကလည်း နိုင်ငံရေးစိတ်မဝင်စား ဟူသောစကားကို ရဲရဲတင်းတင်း ပြောသူများထဲမှာ တကယ် ရိုးရိုးရှင်းရှင်း ပြောသူတွေပါသလို၊ တချို့ကတော့ နိုင်ငံရေးဆိုတာကို ဆန့်ကျင်သောသဘော၊ နိုင်ငံရေးသမားဆိုတာကို ကဲ့ရဲ့ချင် သော သဘောတွေပင် ပါဝင်နေသည် ဟူ၍ ရှုမြင်ကြတာလည်း ရှိသည်။

သည်ကောက်ချက်တွေ ကြားထဲမှာ ပိုထင်ရှားနေသော စကားတစ်ခု ရှိသည်။ နားလည်ပါးလည်လူတွေက စပြောပြီး တချို့လည်း သံယောင်လိုက် ပြောကြသဖြင့် တွင်ကျယ်နေသည့် စကား။ အဲဒါက လူတွေမှာ စားဝတ်နေရေး ပြဿနာတွေနှင့် လုံးချာပတ်ချာ လည်နေသဖြင့် နိုင်ငံရေးကို မတွေးနိုင်၊ စိတ်မဝင်စားနိုင် ဟူသောစကား ဖြစ်သည်။

အဲဒါ ဟုတ်သလား၊ ဖြစ်နိုင်သလား။

စားဝတ်နေရေး ကျပ်တည်းခြင်း သက်သက်သည်ပင် နိုင်ငံရေးပြဿနာများ ပေါ်ပေါက်စေသည့် အရေးကိစ္စတစ်ခု မဟုတ်လား။ စဉ်းစားကြစေချင်သည်။

တောင်အာဖရိကက ခေါင်းဆောင် နယ်(လ)ဆင်မင်ဒဲလား က သူ့၌ နိုင်ငံရေး စိတ်ဓာတ် ဖြစ်ပေါ်ပုံအကြောင်း ရှင်းပြဖူးတာ ရှိသည်။

မင်းဒဲလား လူငယ်ဘဝက ဂျိုဟန်နစ္စဘတ်မြို့မှာ လူဖြူအစိုးရ၏ ချုပ်ချယ် နှိပ်သတ်မှုများ အောက်တွင် နေရတော့ ငါ့လွတ်လပ်မှုတွေ ဆုံးရှုံးနေပါကလားဟု ခံစားမိကြောင်း၊ အဲသည်နောက်၌ လူဖြူလူမည်း ခွဲခြားသော စနစ်အောက်တွင် ဘဝ တိုးတက်ဖွံ့ဖြိုးဖို့ အခွင့်အလမ်းတွေလည်း ဆုံးရှုံးနေပါကလားဟု ဆင့်တက် ခံစားမိကြောင်း၊ သည့်နောက်တွင်မူ ဆုံးရှုံးနေတာ ငါတစ်ဦးတည်း ဟုတ်၊ ငါ့ညီနောင်သားချင်း အားလုံး၊ တောင်အာဖရိကရှိ လူမည်းထုတစ်ရပ်လုံး ပါလားဟု စဉ်းစားမိလာကြောင်း၊ အဲသည်အခါ အာဖရိက အမျိုးသား ကွန်ဂရက်သို့ မိမိ ဝင်ရောက်ဖြစ်ကြောင်း၊ သည်ကစတင်ကာ မိမိ လွတ်လပ်လို သော ဆန္ဒသည် နိုင်ငံရှိ လူမည်းထုတစ်ရပ်လုံး လွတ်လပ်စေလိုသောဆန္ဒနှင့် သားတည်း ဖြစ်သွားကြောင်း ပြောဆိုခဲ့သည်။

ဘတ်ဦးချင်းအရေးမှ နိုင်ငံ့အရေးသို့ တိုးတက်ပြောင်းလဲလာပုံ သဘောကို ရှင်းအောင် ပြသော စကားပေတည်း။

သည်ပြောင်းလဲမှုကို ခွဲခြားစိစစ်ကြည့်လျှင် အဲသည် အပြောင်းအလဲဖြစ်ဖို့ ကိုးနှစ်ရပ်လိုသည် ဆိုတာ တွေ့ရလိမ့်မည်။ နိုင်ငံရေးသိမြင်မှုနှင့် အများနှင့် တူတကွ ခံစားမှု။ အသိအမြင်နှင့် စိတ်ဓာတ်။

လူတွေသည် နိုင်ငံရေးကို သတင်းစာဂျာနယ် ရေဒီယို ရုပ်မြင်သံကြားတွေက သိနိုင်သည်။ တစ်ဦးချင်း ပြောဆိုသည့် နိုင်ငံရေးစကားတွေမှ တစ်ဆင့် ည်း သိရနိုင်သည်။ ထို့ပြင် မင်းဒဲလားလို တိုက်ရိုက် ထိတွေ့ခံစားရမှုမှ ည်လည်း နိုင်ငံရေး အသိအမြင် ဝင်လာနိုင်သည်။

အဲသည်လို တစ်ဆင့်ခံနည်း၊ ကိုယ်တွေ့နည်းများအားဖြင့် နိုင်ငံရေးအသိ သည့်အခါ နိုင်ငံရေးကို စိတ်ဝင်စားလာသည်။

အဲသည်နောက် စူးစမ်းလေ့လာမှု၊ အကဲခတ် မှတ်သားမှုများ ဆက်လက် လုပ်သော် တဖြည်းဖြည်း နိုင်ငံရေးဗဟုသုတ ပြည့်ဝသူ ဖြစ်လာနိုင်သည်။

သည်အခါ၊

တိုင်းပြည်၏ နိုင်ငံရေးစနစ်ကို ရှင်းရှင်းလင်းလင်း မြင်မည်၊

ဘယ်ပါတီ ဘယ်အဖွဲ့အစည်းတွေက ဘယ်မူဝါဒ လမ်းစဉ် များနေကြသည်ဆိုတာ သိမည်။

တိုင်းပြည်၏ လက်ငင်းနိုင်ငံရေး ပြဿနာတွေက ဘာ သည်ဆိုတာ သဘောပေါက်မည်။

အဲသည်က ဆက်ကာ နိုင်ငံရေးနှင့် စပ်လျဉ်း၍ ဘယ်သည်

ဘယ်ဟာက မှားသည်။ ဘယ်ဟာသည် ဖြစ်သင့်၍ ဘယ်ဟာက မဖြစ်သင့်
စသည့် ပိုင်းခြားဝေဖန်မှုများ သူ့၌ ဖြစ်ပေါ်မည်။

အဲသည်ခါ နိုင်ငံရေးကို သူ ပြည့်ပြည့်ဝဝ စိတ်ဝင်စား၍ ရလာပြီ။
ဘယ်ဟာကို ထောက်ခံ၍ ဘယ်ဟာကို ကန့်ကွက်ရမည် ဆိုတာတွေ သူ့မှာ
ရှင်းရှင်းလင်းလင်း တိတိကျကျ ရှိလာပြီ။

အဲသည် နောက်မှာမှ နိုင်ငံရေးကို ဘယ်လောက် ထဲထဲဝင်ဝင် ပါဝင်
ပတ်သက်သလဲ၊ မပတ်သက်ဘူးလဲ၊ တစ်နည်းပြောသော် ဘယ်လောက်
လုပ်သလဲ၊ မလုပ်ဘူးလဲ ဆိုသည့်အပိုင်း ရှိသည်။

တချို့ လူတွေ နိုင်ငံရေး လုပ်သည်၊ တချို့က မလုပ်။

လုပ်သူက ဘာကြောင့် လုပ်သလဲ၊ မလုပ်သူက ဘာကြောင့် မလုပ်သလဲ

လုပ်သူတွေကို ကြည့်လျှင်၊

မိမိ ဝင်ရောက်လုပ်ကိုင်ခြင်းကြောင့် ကမ္ဘာတစ်စုံတစ်ရာ၌ အတိုင်းအတာ
တစ်ခုအထိ မိမိ ဖြစ်စေချင်သော ဘက်သို့ ပြောင်းလဲသွားနိုင်လိမ့်မည်ဟု
ယုံကြည်သည်၊ ...

ပြီး၊ အဲသည် ကမ္ဘာ၊ အဲသည်ကိစ္စနှင့် စပ်လျဉ်း၍ မိမိ သိသည်
နားလည်သည်၊ လုပ်နိုင်ကိုင်နိုင်သည်ဟု ယုံကြည်သည်၊ ...

သည့်အပြင် သည်ကိစ္စ၌ မိမိတစ်ဦးတည်း မဟုတ်၊ မိမိနှင့် သဘောချင်
တူညီသည့် မိမိ လူစု သို့မဟုတ် လိုလားထောက်ခံသော အဖွဲ့အစည်းရှိသည်၊
အဲသည် လူစု၊ အဖွဲ့အစည်းမှာလည်း သည်ကိစ္စ အောင်မြင်အောင် ဆောင်ရွက်
နိုင်မည့် အစွမ်းသတ္တိရှိသည်ဟု ယုံကြည်သည်၊ စသည့် လက္ခဏာများ
တွေ့ရလိမ့်မည်။

နိုင်ငံရေး မလုပ်သူတွေက အဲသည် သုံးချက်လုံးမှာ အထက်က လူတွေနှင့်
ပြောင်းပြန်။

ကိုယ်ဝင်လုပ်လည်း အလကားပဲဟု သဘောထားသည်။

သည်ကိစ္စ ကိုယ်တတ်သိ နားလည်သည်၊ နိုင်နင်းစွာ ကိုယ်တွယ်နိုင်မည်ဟု
မယူဆ။

ကိုယ်တိုင် မယုံကြည်သည့်အခါ သူ့၌ သိမှတ် အားထားစရာ၊ သို့မဟုတ်
တွဲဖက် လုပ်ကိုင်စရာ ယုံကြည်ချက်တူ လူစု မရှိ။

သည်အတွက် နိုင်ငံရေးမှ ဘေးဖယ်နေသည့်အခါ ယုံကြည်မှု လျော့ပါး
သိမြင်နားလည်မှု လျော့ပါး၊ စိတ်ဝင်စားမှုလည်း လျော့ပါးသွားသည်။ နိုင်ငံ

ကလဲမှာ ကိုယ့်အရေးအတွေ ပါနေသည်ဆိုကာ ဖမ့်လေပွားသွားသည်၊ သို့မဟုတ် ချစ်လျှော့ထားလိုက်သည်။

သည်အခါ တစ်ဦးချင်းအတွက် တန်ဖိုး လျော့သွားသလို၊ တိုင်းပြည် အတွက်လည်း ဆုံးရှုံးသည်။

တိုင်းပြည်တစ်ပြည်မှာ ဒီမိုကရေစီစနစ် ဖြစ်ထွန်းရန်အတွက် နိုင်ငံရေးရာ၌ ရေးအများ ပါဝင်ပတ်သက်ဖို့ လိုသည်။

နိုင်ငံရေးကို စိတ်ဝင်စားသူ၊ စူးစမ်းလေ့လာသူ၊ ပါတီအဖွဲ့အစည်းများတွင် ပါဝင်သူ၊ နိုင်ငံရေးသမားဟု အခေါ်ခံရသူများမှသည် နိုင်ငံရေးကိစ္စရပ်များနှင့် ယှဉ်လျှင်း၍ ထောက်ခံအားပေးသူ၊ ဆန့်ကျင်ကန့်ကွက်သူ၊ ကိစ္စတိုင်းမှာ မဟုတ်သော်လည်း မိမိ အထူးအလေးထားသည့် ကိစ္စ တစ်ခုတစ်ရာမှာတော့ ဆက်သန်တက်ကြွကာ အများပါဝင်လာအောင် စည်းရုံးဆောင်ရွက်သူ၊ စသဖြင့် အထွေအမျိုးမျိုးမှာ အတိုင်းအတာ အမျိုးမျိုးအလျောက် လှုပ်ရှားပါဝင်သူတွေ များလာမှသာ လူထုအုပ်စိုးသော စနစ် သို့မဟုတ် လူထုဆန္ဒကို ကိုယ်စားပြုသည့် ကိုယ်စားလှယ်များ အုပ်စိုးသောစနစ် ပီပီသသ ဖြစ်ပေါ်နိုင်ပေမည်။

[ ၈ အောက်တိုဘာ ၂၀၁၀ ]

# ပါတီများ စုဖွဲ့ကြသည့်အခါ

ယနေ့ကာလတွင် နိုင်ငံရေးပါတီအချို့ မဟာမိတ်ဖွဲ့ခြင်း၊ သို့မဟုတ် မိတ်ဆွေ ပါတီများအဖြစ် စုစည်းခြင်းနှင့် ယင်း၏ နောက်ဆက်တွဲ အသံဗလံများကို ကြားနေရသည်။

တစ်ဦးချင်း မစွမ်းဆောင်နိုင်သည့် ကိစ္စရပ်များတွင် တူညီသော ရည်မှန်းချက်ဖြင့် စုပေါင်း လုပ်ဆောင်တတ်ခြင်းသည် လူ့သဘာဝတစ်ခုပင် ဖြစ်သည်။ အားနည်းသူတို့ စုပေါင်းသည့်အခါ တကွဲတပြားစီထက် အင်အား ပိုကောင်းတာလည်း အားလုံးအသိ ဖြစ်သည်။

အရေးကြီးသည်က ကြိုးခိုင်ခိုင် ချည်ထားသော ထင်းစည်းလို စုစည်းမိဖို့ ဖြစ်သည်။

အဲသည်လို စုစည်းနိုင်သဖြင့် အောင်မြင်ကြသည့်သာဓကတွေ ကမ္ဘာ့၌ အများအပြား ရှိသည်။

ဆားဗီးယားနိုင်ငံတွင် မီလိုဆီဗစ်(ချ)၏ ဆားဗီးယားဆိုရှယ်လစ်ပါတီ အစိုးရ ကြီးစိုးနေစဉ်က သူ့ကို ယှဉ်ပြိုင်နိုင်ရန်အတွက် ဒီမိုကရက်တစ်ပါတီ ၁၈ ခုတို့ မဟာမိတ်ဖွဲ့ကာ စုပေါင်းအားဖြင့် လှုပ်ရှားကြသည်။ ၂၀၀၀ ပြည့်နှစ် စက်တင်ဘာတွင် ကျင်းပသည့် သမ္မတရွေးပွဲ၌ ၎င်းတို့အုပ်စုက တင်သည့် သမ္မတလောင်း အနိုင်ရပြီး ဒီဇင်ဘာတွင် ကျင်းပသည့် ပါလီမန်ရွေးကောက်ပွဲ၌ မဟာမိတ် ကိုယ်စားလှယ်များ အမတ်နေရာ အများစုရသဖြင့် ညွန့်ပေါင်း အစိုးရ ဖွဲ့နိုင်ခဲ့ကြသည်။

ဆွီဒင်နိုင်ငံတွင် ဆွီဒင်ဒီမိုကရက်တစ်ပါတီကချည်း နှစ်ပေါင်း ၇၀ ကျော် ကြီးစိုးခဲ့ရာ သည်အနေအထားကို မနှစ်မြို့သူတွေ များလာသည်။ သို့သော် ၎င်းအဖွဲ့ကို ယှဉ်ပြိုင်နိုင်မည့် အင်အား မတိမ်းမယိမ်း ပါတီ တစ်ခုမှ မရှိ။ သို့နှင့် အတိုက်အခံပါတီ ၄ ခုတို့ တွေ့ဆုံညှိနှိုင်းကာ ဆွီဒင်မဟာမိတ်အဖွဲ့ဟူ၍ ဖွဲ့စည်းကြသည်။

၎င်းပါတီ အသီးသီးတွင် အများသိ ထုတ်ပြန်ကြေညာထားသည့် မူဝါဒ လမ်းစဉ် ကိုယ်စီရှိကြပြီး ဖြစ်သည်။ သို့သော် မဟာမိတ်ဖွဲ့သည့်အခါ ဦးစွာ မိမိတို့ မူဝါဒလမ်းစဉ်များထဲမှ တူညီသော အချက်များကို စုစည်းသည်။ ထို့နောက် လတ်တလော နိုင်ငံရေးအခြေအနေနှင့် ညီညွတ်ကာ အများပြည်သူ

ပါတီ၏ လိုအင်ဆန္ဒနှင့် တစ်သားတည်းကျမည့် အချက်များကို ညှိနှိုင်း ထည့်သွင်း ဖြည့်စွက်ဖြည့်သည်။ ယင်းသို့အားဖြင့် လေးပါတီ၏ မူဝါဒလမ်းစဉ်ကို ချမှတ် အတည်ပြုပြီး ကြေညာစာတမ်း ရေးသားထုတ်ပြန်သည်။

ရွေးကောက်ပွဲ အောင်နိုင်ရေးအတွက် အဲသည် စုပေါင်းလမ်းစဉ်ဖြင့် ညီညီညွတ်ညွတ် လှုပ်ရှားဆောင်ရွက်နိုင်ကြသဖြင့် ၂၀၀၆ ခုနှစ် ဆွီဒင်ပါလီမန် ရွေးကောက်ပွဲတွင် အမတ်နေရာ အများစုရကာ မဟာမိတ်အဖွဲ့တွင် အင်အား အကြီးဆုံးဖြစ်သည့် မောဒရိတ်ပါတီ ခေါင်းဆောင် ဖရက်ဒရစ်ရိုင်း(န)ဖဲလ်(ဒ) ဝန်ကြီးချုပ် ဖြစ်လာသည်။ ၂၀၁၀ ခုနှစ် ရွေးကောက်ပွဲတွင်မူ မဟာမိတ် အဖွဲ့သည် အများစုဖြစ်ရန် ၃ နေရာ လိုနေခဲ့သော်လည်း ပြိုင်ဘက်များထက် သာနေသေးသဖြင့် လောလောဆယ်တွင် ဆွီဒင်၌ ၎င်းတို့ပင် ဦးဆောင်၍ အစိုးရ ဖွဲ့ထားနိုင်ဆဲဖြစ်သည်။

လူဦးရေများ၊ ပါတီတွေများသလောက် မဟာမိတ်ဖွဲ့စည်းမှုလည်း များပြားသော တိုင်းပြည်တစ်ခုက အိန္ဒိယ ဖြစ်သည်။ အိန္ဒိယတွင် လက်ဝဲတပ်ဦး (Left Front)၊ အမျိုးသား ဒီမိုကရက်တစ်မဟာမိတ်အဖွဲ့ (NDA)၊ ယူနိုက်တက် ပရိုဂရက်ဆစ် မဟာမိတ်အဖွဲ့ (UPA)၊ ယူနိုက်တက် နေရှင်နယ် ပရိုဂရက်ဆစ် မဟာမိတ်အဖွဲ့ (UNPA) စသည့် အဖွဲ့စုများ အင်အားပြိုင်နေသည်။

လက်ဝဲပါတီများ စုပေါင်းထားသည့် လက်ဝဲတပ်ဦးသည် အနောက် ဘင်္ဂလားနှင့် ထရိပူရပြည်နယ်များတွင် လောလောဆယ် အုပ်စိုးခွင့်ရနေသည်။

NDA အဖွဲ့သည် ၁၉၉၉ ခုနှစ်တွင် အမတ်နေရာ အများစု အနိုင်ရ၍ ဝန်ကြီးချုပ် ဗာ့ဂျ်ပါယီ ဦးဆောင်သော အစိုးရဖွဲ့ ဖြစ်ခဲ့သည်။

၂၀၀၄ ခုနှစ်တွင် စတင်ဖွဲ့စည်းသည့် UPA မှာ လက်ရှိ ဝန်ကြီးချုပ် မန်မိုဟန်ဆင်းနှင့် ဆိုနီယာဂန္ဒီ တို့ပါဝင်သော အိန္ဒိယအမျိုးသား ကွန်ဂရက်က ဦးဆောင်သည့် ဗဟိုနှင့် လက်ဝဲယိမ်းဗဟိုပါတီများ၏ မဟာမိတ်အဖွဲ့ ဖြစ်သည်။

တတိယတပ်ဦးဟုလည်း ခေါ်ကြသည့် UNPA မှာ ၉ ပါတီ စုပေါင်း ပါဝင်ပြီး သူဌေးဦးစားပေး စီးပွားရေးပေါ်လစီများ တိုက်ဖျက်ရေး အပါအဝင် လယ်ယာကျေးလက်နှင့် မြို့ပြရှိ အောက်ခြေလူတန်းစားများ ဇာတ်နိမ့်များ အတွက် လှုပ်ရှားဆောင်ရွက်လျက်ရှိပြီး အင်အားကောင်းစဉ်က ၎င်း၌ လွှတ်တော် အမတ် ၁၀၀ ကျော်မျှ ပါဝင်ခဲ့သည်။

အစိုးရဖွဲ့နိုင်လောက်သော အနေအထား မရှိသော်လည်း အနိုင်ရပါတီ၏ အာဏာကို တစ်စိတ်တစ်ပိုင်း ထိန်းညှိနိုင်ရန် အားထုတ်နေကြသည့် [illegible]

အဖွဲ့များလည်း ရှိကြသည်။

ဟောင်ကောင်တွင် ဒီမိုကရက်တစ်ပါတီ၊ ဆစ်ဗစ် (ပြည်သူပြည်သား) ပါတီ၊ ဆိုရှယ် ဒီမိုကရက်အဖွဲ့ချုပ်တို့ အပါအဝင် ဒီမိုကရေစီပါတီ ဆယ်ခုခန့် နှောင်းထားသည့် အစုတစ်ခု ရှိသည်။ ၎င်းအုပ်စု၏ အဓိကရည်ရွယ်ချက်မှာ ဟောင်ကောင်၌ မူလရှိခဲ့သည့် လွတ်လပ်ခွင့်များ၊ နေထိုင်မှုပုံသဏ္ဍာန်နှင့် လူနေမှုအဆင့်အတန်းများကို ထိန်းသိမ်းထားနိုင်ရေး ဖြစ်သည်။ ရွေးကောက်ပွဲ ဝင်သည့်အခါ၌ အဆိုပါ ရပ်တည်ချက်ကို နှစ်သက်လက်ခံသူတို့၏ ဆန္ဒမဲဖြင့် ၎င်းပါတီအသီးသီးမှ ကိုယ်စားလှယ် အနည်းငယ်စီ ရွေးချယ်ခံခဲ့ရရာ စုပေါင်း လိုက်သော် အင်အားတစ်ခုဖြစ်လျက် ရှိသည်။

ရုရှားပြည်ရှိ The Other Russia အဖွဲ့သည်လည်း လစ်ဘရယ်များ၊ လက်ဝဲလယ်ယာ အတိုက်အခံအုပ်စုများနှင့် တစ်သီးပုဂ္ဂလများ စုပေါင်း ထားသည့် အုပ်စုတစ်ခု ဖြစ်သည်။ အသီးသီး ကိုင်စွဲသည့် နိုင်ငံရေးဝါဒ အခြေခံများ ကွဲပြားခြားနားကြသော်လည်း တိုင်းပြည်အနေအထားအရ ၎င်းတို့ အားလုံး၌ပင် တူညီသော လိုလားချက်များ ရှိကြသည် ဖြစ်ရာ ထိုအချက် များတွင် ညီညွတ်မှုရယူကာ နိုင်ငံလုံးဆိုင်ရာ အစုအစည်းတစ်ရပ်အဖြစ် ထူထောင်လှုပ်ရှားနေနိုင်ကြခြင်း ဖြစ်သည်။

သည်ကနေ့ မြန်မာနိုင်ငံ၌လည်း နိုင်ငံရေးပါတီအချို့နှင့် တစ်သီးပုဂ္ဂလအချို့ စုစည်းကြသည်ကို စတင် မြင်တွေ့နေရပြီ။ စုစည်းရသည့် ရည်ရွယ်ချက်သည် ရွေးကောက်ပွဲအောင်နိုင်ရေးအတွက် ပူးတွဲဆောင်ရွက်ရန်နှင့် ရွေးကောက်ပွဲလွန် ကာလတွင်လည်း ဥပဒေပြုရေး လုပ်ငန်းရပ်များတွင် ပူးပေါင်း ဆောင်ရွက်ရန် အတွက်ဖြစ်ကြောင်း ထုတ်ပြန်ပြောဆိုတာတွေလည်း ကြားသိနေရသည်။

သို့သော်၊ အောင်မြင်စွာ စုပေါင်းဖြစ်လျှင် အင်အားမည်မျှရှိကာ မြန်မာ နိုင်ငံရေးပုံကားချပ်ကြီးတွင် မည်သည့်နေရာတစ်ခုမှ ပါဝင်လာမည်လဲ မခန့်မှန်း နိုင်သေးမီမှာပင်၊ စုဖွဲ့သံနောက်က နုတ်ထွက်သံတွေ ကပ်ပါလာသည့်အခါ အုပ်စုဖွဲ့ပြီး၊ ကွဲကြခြင်းသည် မြန်မာ့နိုင်ငံရေးလောက၏ မကောင်းသော အစဉ်အလာ တစ်ခုလား၊ ယခုလည်း သည်အစဉ်အလာကို ဆက်ခံနေကြ ပြန်တာလား စသဖြင့် မေးခွန်းထုတ်သူများ ရှိလာသည်။

ရှေးက ကွဲခဲ့ကြသည့် အကြောင်းတွေသည် ကွဲစရာရှိ၍ ကွဲတာလား၊ သို့မဟုတ် ကွဲတတ်တာသည်ပင် မြန်မာ့ဓလေ့လားဆိုသည်ကို မြန်မာ့နိုင်ငံရေး

ဆောင့်ကျေးမှု လေ့လာသူတို့ သုတေသနပြုကာ လိုအပ်ပါက ပြုပြင်ရန် နည်းလမ်းအကြံပေးကြဖို့ ဖြစ်ပါသည်။

သို့သော်၊ ယခု လတ်တလော ပြဿနာကတော့ အလျင်စလို လုပ်ကိုင်ခြင်းတွင် အမိက အရင်းခံသည် ဟုဆိုချင်သည်။

ရွေးကောက်ပွဲအတွက် အခက်အခဲများကို အပြေးအလွှား ရင်ဆိုင်ကျော်လွှားရန် ကြိုးပမ်းရင်း နီးစပ်ရာ တူညီရာတို့ အပြန်အလှန် ကူညီနိုင်ဖို့ ပူးပေါင်းကြခြင်း ဖြစ်သည်ဟု မြင်ရသည်။ သို့သော် အချိန်လုပြီး လုပ်ရသဖြင့် တစ်ဦးကိုတစ်ဦး ပြည့်ပြည့်ဝဝ အကဲခတ်ခွင့် မရကြ။ ပေါင်းပြီးကာမှ သူတာထက် မတူတာတွေ များနေသည့်အခါ ဆက်ပေါင်းဖို့ ခက်သွားသည်။

တချို့ကလည်း မိမိ လိုအပ်ချက်ကို သည်နေရာမှာ ရနိုင်မည်ထင်၍ ပူးပေါင်းသည်၊ နောက်တစ်နေရာမှ လိုရာရသည့်အခါ ကနဦး ပူးပေါင်းသူတွေ အရေးမကြီးဘူး ဖြစ်သွားသည်။ အဲဒါကတော့ စိတ်ဓာတ်ရေးရာ ချို့တဲ့မှုဖြစ်သည်။

လောလောဆယ်တွင် ပါတီတွေရော လူတွေပါ အတော်များများက အသစ်တွေ ဖြစ်နေရာ လူထုကမသိသလို ၎င်းတို့ အချင်းချင်းလည်း ဘယ်သူဘာဆိုတာ သေသေချာချာ မသိကြ။ နိုင်ငံရေးအစဉ်အလာတွေ မသိ၊ ရာဇဝင်နောက်ကြောင်းတွေ မသိ။ အဲသည်တော့ အကဲဖြတ်ချက်တွေ လွဲနိုင်ကြသည်။

အထက်တွင် ဖော်ပြခဲ့သည့် ဆွီဒင်မဟာမိတ်အဖွဲ့ဆိုလျှင် တစ်ယောက်အကြောင်းတစ်ယောက် ကောင်းကောင်း သိပြီးသည့် ပါတီလေးခုတို့ နှစ်နှစ်မျှအချိန်ယူညှိနှိုင်းကြပြီး စုပေါင်းမူဝါဒကိုလည်း နိုင်ငံရေး၊ စီးပွားရေး စသည့်ကဏ္ဍအသီးသီးအတွက် အထူးပြုအဖွဲ့များက စနစ်တကျ ပြုစုကာ သဘောတူညီချက်ရပြီးမှ ပူးပေါင်း လှုပ်ရှားခဲ့ကြခြင်းဖြစ်ရာ စုဖွဲ့မှု ခိုင်မာသည်။

ထို့ကြောင့်၊

စုပေါင်းသူတို့ အောင်မြင်ဖို့အရေးတွင် တစ်ဦးကိုတစ်ဦး ကောင်းစွာသိရှိမှု၊ အမြော်အမြင်ရှိစွာ အပေးအယူ အလျှော့အတင်းပြုတတ်မှု၊ အလွယ်တကူကတိမပြုသကဲ့သို့ ပြုပြီးသည့် ကတိကဝတ်ကို လေးစားလိုက်နာတတ်မှုနှင့် ပေါင်းလုပ်ဆောင်မှု၏ စွမ်းအားအပေါ် လေးနက်ယုံကြည်မှုတို့ အရေးကြီးသည်ဟု ဆိုချင်ပါသည်။

[ ၁၆ အောက်တိုဘာ ၂၀၁၀ ]

# လူတော် ပေါ်လာမည်လား

ရွေးကောက်ပွဲနီးလာသည်နှင့်အမျှ ဘယ်ပါတီနိုင်မည်လဲ၊ ဘယ်နယ်မှာ ဘယ်သူ အနိုင်ရမည်လဲ မှန်းဆပြောဆိုသံတွေ ပို၍ များများ ကြားလာရသည်။

ဘယ်သူတွေက ပြိုင်ဘက်မရှိနိုင်မှာ သေချာသွားပြီ။ ဘယ်သူတွေကတော့ ဘာခြားပြိုင်ဘက်နှစ်ဖွဲ့ကြားမှာ ကော်ကောင် ဖြစ်သွားနိုင်သည်၊ စသဖြင့်။

ဘာပဲဖြစ်ဖြစ် ရွေးကောက်ပွဲအပြီးမှာတော့ လွှတ်တော်အသီးသီးအတွက် ကိုယ်စားလှယ်အသစ်စက်စက်တွေ ရာနှင့်ချီ၍ ထွက်ပေါ်လာမှာ သေချာနေပြီ။

သို့သော် အရေးကြီးသည်က အဲသည်အထဲမှာ တိုင်းပြည်အတွက် တန်ဖိုး ရှိမည့် လူတော် ဘယ်နှယောက် ပါလာမည်လဲ ဆိုတာပဲ ဖြစ်သည်။

လွှတ်တော် ကိုယ်စားလှယ်ဆိုတာ တိုင်းပြည်၏ နိုင်ငံရေးတွင် ဦးဆောင် ဦးရွက်ပြုရမည့်သူများဖြစ်ရာ ခေါင်းဆောင် အရည်အသွေး ပြည့်ဝသူတွေဖြစ်ဖို့ လိုသည်။ ကိုယ်ပိုင် နိုင်ငံရေးအမြင် မရှိသည့် ရောယောင်နောက်လိုက်တွေ၊ လွှတ်တော်ကိုယ်စားလှယ် ဆိုသော ဂုဏ်အရှိန်အဝါလေး ခံစားပြီး ကျေနပ်နေမည့် သူတွေ၊ တိုင်းပြည်အတွက် စေတနာမပါ သည်နေရာမှာ မိမိအကျိုးစီးပွားအတွက် ဘာတွေ စီမံဖန်တီးလို့ရမည်လဲ ဆိုတာလောက်သာ ကြံစည်အားထုတ်မည့်သူတွေ များနေမည်ဆိုလျှင်တော့ အများပြည်သူ၏ ဆန္ဒမဲတွေ နေရာလွဲသွားသောသဘော ဖြစ်လိမ့်မည်။

တိုင်းပြည်အတွက် တန်ဖိုးရှိသည့် လူတော်တွေဆိုသည်က အများပြည်သူ့ အကျိုးစီးပွားအတွက် ရှုပ်ရှုပ်ရှုံ့ရှုံ့ ဆောင်ရွက်မည့် သူများကို ဆိုခြင်းဖြစ်သည်။

တိုင်းပြည်များ လူမျိုးများမှာ အရေးကိစ္စကြီးတွေ ကြုံသည့်အခါ သာမန် မထင်မရှားထဲမှနေ၍ လူတော်လူကောင်းတွေ ပေါ်ထွက်လာတတ်ကြသည်။ တစ်နည်းပြောသော် အများအရေးအတွက် စွမ်းစွမ်းတမံ ဆောင်ရွက်ရင်း ထူးခြားသော အရည်အသွေးနှင့် လုပ်ရပ်များအတွက် အများကြားမှာ ထင်ရှား လာခြင်း၊ အများက လေးစားအားထားလာရခြင်း ဖြစ်သည်။

ကိုလိုနီနယ်ချဲ့ခေတ်က မြန်မာ့အတွက် အကြီးမားဆုံး အရေးကိစ္စသည် သူ့ကျွန်ဘဝမှ လွတ်မြောက်ရေး ဖြစ်သည်။ သည်အရေးကိစ္စကြီးအတွက် ကိုယ်ရောစိတ်ပါ ပေးအပ်လုပ်ဆောင်ရင်း ဆရာတော် ဦးဥတ္တမ၊ ဆရာတော် ဦးဝိစာရ၊ ဆရာစံ၊ အာဇာနည် သခင် ဘိုးလှကြီး၊ အာဇာနည်ခေါင်းဆောင်ကြီး ဗိုလ်ချုပ်အောင်ဆန်း အစရှိသည့် မြန်မာ့နိုင်ငံရေး ပုဂ္ဂိုလ်ကျော် အများအပြား

ပေါ်ထွန်းခဲ့သည်။ သည်ပုဂ္ဂိုလ်ကြီးများ၏ ဦးစီးခေါင်းဆောင်မှုဖြင့် မြန်မာတို့ လွတ်လပ်ရေးရခဲ့ခြင်း ဖြစ်သည်။

အမေရိကန်ပြည်တွင် လူလူချင်း အသားအရောင်နှင့် လူမျိုးနွယ်ကို အကြောင်းပြု၍ ခွဲခြားဖိနှိပ်နေသည့် ကိစ္စသည် လူမည်းထုကြီးအတွက် အစ်ဘဝလုံးဆိုင်ရာ အရေးကိစ္စကြီး ဖြစ်ခဲ့သည်။ သည်ကိစ္စကြီးအတွက် အသက်အန္တရာယ်ကို မငဲ့ဘဲ ရဲဝံ့ပြတ်သားစွာ ဆောင်ရွက်ရင်း ဒဗလျူအီးဘီဒူဗွား၊ နီကောလ်(စ)၊ မယ်လကမ်အိပ်(က)(စ)၊ မာတင်လူသာကင်း ဂျူနီယာ စသည့် လူမည်းခေါင်းဆောင်များ ပေါ်ထွန်းခဲ့သည်။ ၎င်းတို့ အဆက်ဆက်၏ ဆောင်ရွက်ချက်ဖြင့် လူမည်းတို့ဘဝ အဆင့်မြင့်တက်ကာ သည်ကနေ့ဆိုလျှင် လူမည်းတစ်ဦးပင် သမ္မတအထိ ဖြစ်လာခဲ့ပြီ။

အဲသည်လောက် ကြီးကျယ်သည့် ကိစ္စများတွင် ပါဝင်မှ မဟုတ်ပါ။ အစ်ဆောင့်တစ်ဌာနနှင့်သာ သက်ဆိုင်၍ သေးသေးငယ်ငယ် ဟုထင်ရသည့် အရေးကိစ္စတစ်ခုအတွက် အလေးအနက် ဆောင်ရွက်ရင်းလည်း မထင်မှတ်သော အကိုင်းအတာအထိ ကြီးကျယ်လာနိုင်ပါသည်။

အမေရိကန်ပြည်မှာ သမ္မတလောင်းအဖြစ် မကြာခဏ ရွေးကောက်ပွဲဝင် ယှဉ်ပြိုင်နေသည့် ရပ်(ဖ်)နေဒါသည် စားသုံးသူကာကွယ်ရေးဟူသော အရေး ကိစ္စကို ဆောင်ရွက်ရင်းက ထင်ရှားလာသူ ဖြစ်သည်။ မော်တော်ယာဉ်တို့၏ ချို့ယွင်းမှုကြောင့် အန္တရာယ်ဖြစ်ရသည့် ကိစ္စကို တားဆီးကာကွယ်နိုင်ရန်အတွက် မော်တော်ကား လုပ်ငန်းရှင်ကြီးများ အပြင်းအထန် ထိုးနှက် တိုက်ခိုက်သည့် ကြားက လွှတ်တော်တွင် ဥပဒေပြုနိုင်အောင် ကြိုးပမ်းရင်း ထင်ရှားလာကာ သူ့ကို သိုင်းဝိုင်းသူတွေ များလာသည်။ သူဆောင်ရွက်သည့် လုပ်ငန်းကလည်း တဖြည်းဖြည်း နယ်ပယ်ကျယ်ဝန်းကာ အစားအစာနှင့် ဆေးဝါးကိစ္စ၊ လေထုရေထု ညစ်ညမ်းမှု၊ ပတ်ဝန်းကျင်ပျက်စီးမှု၊ လုပ်ငန်းအန္တရာယ်ကာကွယ်မှု၊ သဘာဝ အတွက် ကြိုတင် ပြင်ဆင်မှု၊ ဌာနဆိုင်ရာများ အဂတိလိုက်စားမှု၊ ကော်ပိုရေးရှင်း ကြီးများ လက်ဝါးကြီးအုပ်မှုတို့မှသည် နိုင်ငံခြားရေးပေါ်လစီ၊ ကွန်ဂရက် လွှတ်တော် ပြဿနာ၊ တရားမျှတရေးနှင့် ဒီမိုကရေစီရေးရာ စသည်တို့အထိ ကျယ်ပြန့်လာသည်။

ပါတီကြီးနှစ်ခု ကြီးစိုးထားသည့် အမေရိကန်ပြည်တွင် တစ်သီးပုဂ္ဂလ အနေနှင့် သမ္မတဖြစ်နိုင်ခြေ မရှိသော်လည်း အုပ်စိုးသူဘက်က အားနည်းချက် များကို ဖြည့်တင်း ပြင်ဆင်လိုကြသည့် ပြည်သူပြည်သား အဖွဲ့အစည်းများ

အတွက်ကား အားကျ အတုယူဖွယ် ခေါင်းဆောင်တစ်ဦး ဖြစ်လျက်ရှိသည်။

မြန်မာပြည်၏ အရေးကိစ္စတွေအတွက်လည်း အဲသည်လို ခေါင်းဆောင်ကြီး ခေါင်းဆောင်ငယ်တွေ အများအပြား လိုအပ်နေသည်။

ဘယ်အရေးကိစ္စတွေအတွက်လဲ။

သည်ကနေ့ မြန်မာပြည်၏ အထွေထွေ အရပ်ရပ်သော အရေးကိစ္စတွေသည် ဘာတွေနည်း။

ဒီမိုကရေစီထွန်းကားရေး ဖြစ်သည်။

နိုင်ငံဖွံ့ဖြိုးတိုးတက်ရေး ဖြစ်သည်။

ငြိမ်းချမ်းသာယာရေးနှင့် စည်းလုံးညီညွတ်ရေး ဖြစ်သည်။

သည့်အပြင်၊ မြန်မာ့အရေးကိစ္စများသည် ...

လယ်ယာစီးပွားတိုးတက်ရေးကို လယ်သမားတို့ လွတ်လပ်စွာ လုပ်ကိုင်နိုင်ရေး ဖြစ်သည်။

အလုပ်အကိုင် အခွင့်အလမ်းပေါ်များပြီး အလုပ်သမားတို့ ဂုဏ်သိက္ခာရှိစွာ ဘဝရပ်တည်နိုင်ရေး ဖြစ်သည်။

ပညာရေးအဆင့်အတန်း မြင့်မား၍ အသိဉာဏ်အရာတွင် ကမ္ဘာနှင့် ရင်ပေါင်တန်းနိုင်သည့် မြန်မာလူငယ်များ ပေါ်ထွန်းရေး ဖြစ်သည်။

ကျန်းမာရေး အဆင့်အတန်း မြင့်မား၍ ပြည်သူအများအတွက် ထိရောက်စွာ စောင့်ရှောက်မှုပြုနိုင်မည့် ကာကွယ်ကုသရေး ဌာနများ ပေါ်များလာရေး ဖြစ်သည်။

အများပြည်သူတို့ အသိအမြင် ပွင့်လင်းကာ တိုင်းပြည်အတွက် နေရာဌာန မျိုးစုံမှ အထောက်အကူ ပေးနိုင်မည့် လူမှုအသိုက်အဝန်းများ ဖွံ့ဖြိုးလာရေး ဖြစ်သည်။

သည့်အပြင်၊ မြန်မာ့အရေးကိစ္စများသည် ...

ကုန်ဈေးနှုန်း ကျဆင်းရေး၊

လမ်းပန်းဆက်သွယ်မှု တိုးတက်ကောင်းမွန်ရေး၊

လျှပ်စစ်မီး၊ သန့်ရှင်းသော သောက်သုံးရေတို့ ဖူလုံစွာ ရရှိရေး၊

မြို့ပြ လူနေဝန်းကျင် သန့်စင်ရေး၊

သဘာဝပတ်ဝန်းကျင် မပျက်စီးရေး၊

....

.... ဖြစ်သည်။

အခုဝိုပါ ကိစ္စကြီးငယ်များစွာထဲက ဘယ်ကိစ္စတွင်တော့ မိမိ အောင်မြင်အောင် လုပ်ဆောင်မည်ဟူသော သန္နိဋ္ဌာန်ဖြင့် ရှုပ်ရှုပ်ချွံချွံ ဆောင်ရွက်ကြမည်ဆိုလျှင် ဒီးနယ်ပယ် သည်နယ်ပယ်တွေမှ နိုင်ငံရေး လူတော်တွေ ထွက်ပေါ်လာတာတွေ မြင်နိုင်စရာ ရှိသည်။

မြန်မာနိုင်ငံ၏ အရေးကိစ္စများသည် တိုင်းပြည်ထဲက ထွက်ပေါ်လာမည့် လူတော် လူကောင်းများကို ဖိတ်ခေါ်လျက် ရှိနေပါသည်။

[ ၂၃ အောက်တိုဘာ ၂၀၁၀ ]

# ခေါင်းဆောင်

အမှောင်ထဲမှာ လမ်းပြနိုင်သူကို လူအများ အားကိုးကြသည်။

မှန်သည်။ ကိုယ့်လမ်း ကိုယ်သိလျှင် သူတစ်ပါးနောက်က ဘယ်သူ လိုက်မည်လဲ။

သို့သော် တိုင်းပြည်တွေ၊ လူမျိုးတွေ၏ ဘဝမှာ အမှောင်ဖုံးသော ကာလတွေ ရှိတတ်သည်။ ကိုယ့်အဖြစ်ကိုကိုယ် ကောင်းစွာ ပုံဖော်ကြည့်နိုင်စွမ်း မရှိသည့် ကာလများ။

တို့အနေအထားဟာ ဘယ်လိုပါလားဟု ယေဘုယျ ခြုံငုံ၍လည်း မမြင်၊ ခွဲခြမ်းစိတ်ဖြာ ၍လည်း မကြည့်တတ်၊ လက်ရှိ အခြေအနေ မကောင်းမှန်း သိသော်လည်း ပြောင်းလဲရန် နည်းလမ်း မရှာတတ်။ အဲသည်လို စမ်းတဝါးဝါး အလွဲလွဲ အချော်ချော်တွေ ဖြစ်နေကြသူများကြားမှာ ပစ္စုပ္ပန်ကိုသာမက အနာဂတ်အထိ လှမ်းမြင်သူ၊ မိမိတို့အတွက် အကောင်းဆုံး ဖြစ်နိုင်စရာရှိသည့် အနာဂတ်အနေအထားကို ကိုယ်တိုင်မြင်ရုံမက သူတစ်ပါးကိုပါ ရှင်းလင်း ပီပြင်စွာ ပုံဖော်ပြတတ်သူ၊ ပုံဖော်ရုံမက အဲသည် အနာဂတ် ပန်းတိုင်သို့ အရောက်လှမ်းနိုင်မည့် လမ်းကြောင်းကိုပါ ညွှန်ပြတတ်သူ၊ အဲသည်လူသည် ခေါင်းဆောင်အရာ ရစမြဲ ဖြစ်သည်။

သူက အဘယ်ကြောင့် တစ်ပါးသူတွေ မျက်စိလည်နေသည့် လက်ရှိ အခြေအနေ အရပ်ရပ်ကို ဖောက်ထွက်ကာ အနာဂတ်ကို လှမ်းမြင်နိုင်ရသနည်း။

လွတ်မြောက်ရာ လမ်းစကို မပြတ်ရှာဖွေနေတတ်သည့် ထက်သန်သော စိတ်ဓာတ်ကြောင့် ဖြစ်သည်။

သို့သော် စိတ်အားထက်သန်ရုံ သက်သက်နှင့် မလုံလောက်၊ ဉာဏ်ပညာ အမြော်အမြင် ရှိဖို့လည်း လိုသေးသည်။

သို့သော် အဲသည် ဉာဏ်အမြော်အမြင်သည်လည်း ပင်ကိုဉာဏ်အပြင် ထက်သန် စိတ်ခွဲ ပေါ်မှာပါ အများအပြား မူတည်သည်။ မပြတ်လေ့လာ ရှာဖွေမှု၊ တီထွင်ကြံဆမှုနှင့် ပတ်ဝန်းကျင် အနေအထားကို ခွဲခြမ်းစိတ်ဖြာ အဖြေရှာနေမှုတို့ကြောင့် အမြော်အမြင် စုဝေးမိလာသည်။

အဲသည်အခါ လမ်းစကိုမြင်သည်။ သည်လမ်းစကို ဘယ်လို တိုးတက် ချဲ့ထွင်ရမည်၊ ဘယ်လို ဆက်လက် လျှောက်လှမ်းရမည်၊ ခလုတ်ကန်သင်း

အားအဆီးတွေကို ဘယ်လို ရှောင်ကွင်း ကျော်လွှားရမည် စသည့် နည်းလမ်း အကြံအစည်တွေလည်း သူ ရလာသည်။

သို့သော် အကြံအစည် ရှိရုံနှင့်လည်း မပြီးသေး။

သူ့အမြင်၊ သူ့လမ်းကြောင်းနှင့် သူ့နည်းလမ်း အကြံအစည်တို့ကို အားကိုးယုံကြည်၍ သူနှင့်အတူ လိုက်ပါဆောင်ရွက်မည့် သူတွေ စည်းရုံးခေါ်ဆောင်နိုင်းမည်။ စည်းရုံးသည် ဆိုရာ၌လည်း အပြောကောင်းရုံ သက်သက်မျှဆိုလျှင် နောက်ပါတစ်သိုက်ကို ကာလ အခိုက်အတန့်တစ်ခု စုစည်းထားနိုင်ရုံသာ ရှိသည်။ ရဲဝံ့မှု၊ စွန့်လွှတ်အနစ်နာခံမှု၊ မိမိ ပြောသောစကားနှင့် တစ်သားတည်း ဘူးစွာ ကျင့်ကြံနေထိုင်တတ်မှုတို့ဖြင့်သာ ရေရှည်စွဲမြဲသော အားကိုးယုံကြည်မှုကို တည်ဆောက်နိုင်လိမ့်မည်။

အိန္ဒိယ၏ ခေါင်းဆောင်ကြီး မဟတ္တမဂန္ဒီကို ကြည့်ပါ။

ဂန္ဒီသည် အကြမ်းမဖက်သောလမ်းစဉ်ဖြင့် တော်လှန်ရေးတစ်ရပ်ကို ဆောင်မြင်စွာ ဆင်နွှဲခဲ့သူ ဖြစ်သည်။ တစ်ဖက်က နည်းမျိုးစုံဖြင့် နှိုးဆွ ရန်စသည့်တိုင် မိမိရွေးချယ်ထားသည့် နည်းလမ်းကို မစွန့်လွှတ်ခဲ့။ လက်တုံ့မပြန်ဘဲ ခံဖိဆန်သည့်ကျင့်စဉ်ဖြင့် သူကိုယ်တိုင် စိတ်ဓာတ် ခွန်အား မြင့်မားအောင် ပြည့်ဆည်းခဲ့သလို နောက်လိုက် နောက်ပါများအားလည်း အလားတူ ကြံ့ခိုင်သန်စွမ်းစေခဲ့သည်။

ဂန္ဒီ၏ လမ်းစဉ်သည် နိုင်ငံတကာရှိ လွတ်မြောက်ရေး တိုက်ပွဲဝင်သူတို့အတွက် စံနမူနာပြ ဖြစ်ခဲ့သည်။

ဂန္ဒီသည် လွတ်လပ်ရေးပန်းတိုင်ကို မြင်သည်။

ပန်းတိုင်သို့ ချီတက်ရာလမ်းကို မြင်သည်။

ထိုလမ်းသည် အန္တရာယ်ပြွမ်းသည်ကိုလည်း မြင်သည်။ သို့သော် လွတ်လပ်ရေးအတွက် ချောင်ချိသောလမ်း မရှိ။ ထို့ကြောင့် ထိုလမ်းကိုသာ ရွေးသည်။ မိမိနှင့်အတူ လိုက်ပါကြရန် စည်းရုံးဆွဲဆောင်သည်။

သူ၏ ကိုယ်ကျင့်သီလ၊ ပြောစကားနှင့် တစ်သားတည်းကျသည့် လုပ်ရပ်တို့က သိန်းသန်းချီသော လူထုကို သူ့နောက်တွင် စုစည်း[illegible]

သူနှင့်အတူ ချီတက်ကြသည်။ သူနှင့်အတူ အကျဉ်းထောင်သို့ ဝင်ကြ[illegible] ဆက်အန္တရာယ်တွေကြားမှာ စွန့်စားလုပ်ဆောင်နေသော သူ့တို့ [illegible] နည်းတူ စွန့်စားရင်း သူ့ထက်အရင်ပင် အသက်ပေါင်းများစွာ [illegible] ကြသည်။

ဂန္ဒီသည် နှစ်ပေါင်း ၁၀၀ မျှ ကျွန်ဘဝ ကျရောက်နေခဲ့သော အိန္ဒိယကို လွတ်လပ်ရေး ရယူပေးခဲ့သည်။

ဂန္ဒီနည်းတူပင် စကားနှင့် တစ်သားတည်းကျသော လုပ်ရပ်များကြောင့် ဘန်းတူနိုင်ငံရေးသမားများအကြား ထူးခြား မြင့်မားသွားသော ပုဂ္ဂိုလ်တစ်ယောက် ပြခင်ပါသေးသည်။ အဲဒါက မြန်မာ့လွတ်လပ်ရေးဖခင်ကြီး ဗိုလ်ချုပ်အောင်ဆန်း ဖြစ်သည်။

နမူနာ တစ်ခုပဲ ကြည့်ပါ။

ဒုတိယကမ္ဘာစစ်ကြီး ဖြစ်စတွင် မြန်မာ့နိုင်ငံရေး လှုပ်ရှားသူများကြား၌ အင်္ဂလိပ် လက်အောက်မှ လွတ်မြောက်ရေးအတွက် လက်နက်ကိုင်၍ ပုန်ကန် ထကြွသော နည်းလမ်းကိုပါ အသုံးပြုရမည် ဟူသော အယူအဆတစ်ခု ပေါ်ပေါက်လာသည်။ သည်အယူအဆကို အဓိက ဖြန့်ချိ ပြောဆိုနေသူက ဗိုလ်ချုပ်အောင်ဆန်း၊ အဲသည်တုန်းက သခင်အောင်ဆန်းပင် ဖြစ်သည်။

သို့သော် ပုန်ကန်ရန်အတွက် လက်နက် ဘယ်ကရမည်လဲ၊ စဉ်းစားကြသည့် အခါ တိုင်းတစ်ပါးမှ အကူအညီတောင်းလျှင် ရနိုင်မည်ဟု အဖြေထွက်သည်။

သို့သော် တိုင်းတစ်ပါးသို့ ဘယ်သူသွားမည်လဲ။

ကမ္ဘာမှာ စစ်မီးကြီး စတင် တောက်လောင်နေသည့်ကာလ၊ တိုင်းတစ်ပါးသို့ အင်္ဂလိပ် အစိုးရမသိအောင် လျှို့ဝှက်သွားရောက်၍ အဆက်အသွယ်ရှာဖို့ ဆိုသည်မှာ အလွန်အန္တရာယ်များသည့် စွန့်စားမှုကြီးတစ်ရပ် ဖြစ်နေသည်။

ပြီး ရလဒ်ကလည်း သေချာသည်မဟုတ်။

သို့သော် ဘယ်သူမှ မသွားဘူးဆိုလျှင် သည်အကြံအစည်သည် အပြောစခန်းမှာပင် နိဂုံးချုပ်လိမ့်မည်။ ဗိုလ်ချုပ်အောင်ဆန်းသည် အပြောသမား မဟုတ်။

ထို့ကြောင့် နောက်ဆုံးတွင် သည်အစီအစဉ်ကို ဦးဆောင်တင်ပြနေသည့် မိမိကိုယ်တိုင်ပင် အကောင်အထည်ဖော်ရန် ဆုံးဖြတ်ခဲ့သည်။

သို့နှင့် ၁၉၄၀ ပြည့်နှစ်၊ ဩဂုတ်လ ၆ ရက်နေ့(ခန့်)တွင် သခင်အောင်ဆန်းနှင့် သခင်လှမြိုင်တို့၏ သမိုင်းဝင် အမွှိုင်းလျှို့ဝှက်ခရီး စတင်ဖြစ်ခဲ့သည်။

ထိုညက ရန်ကုန်မြစ်တွင်းရှိ ဟိုင်လီသင်္ဘောဆီသို့ တော်လှန်ရေးသမားနှစ်ဦး သမ္ဗာန်တစ်စီးနှင့် ထွက်ခွာသွားပုံ ရှုခင်းကို နိုင်ငံရေး လုပ်ဖော်ကိုင်ဖက်တစ်ဦး ဖြစ်သူ ဗိုလ်လက်ျာက လွမ်းစဖွယ် မှတ်တမ်းတင်ခဲ့သည်။

စဉ့်အိုးတန်း ဆိပ်ကမ်းမှ လှမ်းမျှော်ကြည့်ရင်း ကျန်ရစ်သည့် ဗိုလ်လက်ျာ၏

ခေတ်တွင် စွန့်စားသွားသူတို့ကိုကြည့်ကာ ဝမ်းနည်းစရာ လိပ်ပြာမလုံချင်စရာ ဖြစ်ခဲ့ပေလိမ့်မည်။ သို့သော် ကိုယ်တိုင် စည်းရုံးပြောဆိုနေသည့် စကားအတိုင်း ဆက်တွေ့လုပ်ဆောင်ပြသွားခဲ့သည့် မိုလ်ချုပ်အဖို့မူ ထိုခရီးစဉ်သည်ပင် သူ့အား အမျိုးသားခေါင်းဆောင်အဆင့်သို့ တိုးမြှင့် ရောက်ရှိစေမည့် နိဒါန်းအစ ဖြစ်သွားခဲ့ပေသည်။

[ ၂၉ အောက်တိုဘာ ၂၀၁၀ ]

# တိုင်းပြည်စီးပွားရေး တွေးတောစရာ

ရွေးကောက်ပွဲကို အကြောင်းပြု၍ ပါတီခေါင်းဆောင်များ၊ လွှတ်တော် ကိုယ်စားလှယ်လောင်းများက စီးပွားရေးဆိုင်ရာ အယူအဆတွေ၊ တိုင်းပြည်အတွက် ချမှတ်လိုသည့် မူဝါဒတွေ ပြောဆိုလာကြတာ တွေ့ရသည်။ အဲဒါတွေအပေါ် ဆဖန်သံအချို့လည်း ကြားနေရသည်။

မည်သို့ဖြစ်စေ၊ တိုင်းပြည် စီးပွားရေးအတွက် စဉ်းစားဝေဖန်ကြခြင်းသည် ကောင်းသော လက္ခဏာတစ်ခုဟု ဆိုချင်သည်။

မြန်မာနိုင်ငံတွင် ဆိုရှယ်လစ် စီးပွားရေးစနစ်ဖြင့် နှစ်နှစ်ဆယ်ကျော်ကြာ တိုင်းပြည် ထူထောင်လိုက်သည့်အခါ၊ ဒေသတွင်း အတော်အတန် ချမ်းသာခဲ့သော တိုင်းပြည်သည် အမွဲဆုံးအတန်းသို့ ရောက်ရှိသွားခဲ့သည်။ ထို့ကြောင့် အချို့က ထိုစနစ်ကို 'ဆင်းရဲခြင်းသို့ သွားရာလမ်း' ဟု ကင်ပွန်းတပ်ကြသည်။

ထိုသို့ ကြီးကြီးကျယ်ကျယ် မပြောသော်လည်း လူအများစုစိတ်၌ ဆိုရှယ်လစ် စီးပွားရေးဆိုလျှင် အားလုံး ဆင်းရဲကြလိမ့်မည်ဟု သဘောပေါက်ထားကြသည်။

သို့ဆိုလျှင် ဘာစနစ်နှင့် သွားမည်လဲ။

ဆိုရှယ်လစ် မဟုတ်ရင် အရင်းရှင်ပဲ ရှိတာပေါ့ဟု တချို့က ဆိုကြသည်။ သို့သော်၊ အရင်းရှင်စနစ်ဟု ဆိုလိုက်လျှင်လည်း မြန်မာတွေ ကြောက်ကြသည်။ အာဏာရ ဆိုရှယ်လစ်နှင့် အာဏာမရသော ဆိုရှယ်လစ် ကွန်မြူနစ်တွေ နှစ်ပေါင်းများစွာ ပြောခဲ့ကြသည့် ဝါဒဖြန့် စကားများကြောင့် အရင်းရှင်စနစ် ဆိုသော စကားကို မြန်မာတွေ နားမခံသာ။

ထို့ကြောင့်၊ ဒါကို သိသောသူများက အရင်းရှင် ဟူသော စကားလုံးကို ရှောင်ကာ လွတ်လပ်သော ဈေးကွက်စီးပွားရေးစနစ် ဟူ၍ သုံးနှုန်းကြသည်။ ဈေးကွက်ဆိုတိုင်း လွတ်လပ်သည် မဟုတ်။ ဈေးကွက် ဆိုရှယ်လစ် ဆိုတာ မျိုးလည်း ရှိသေးသည်ကိုး။ သို့သော်၊ ယခုကိစ္စမှာတော့ ဈေးကွက်ဆိုသည်မှာ လွတ်လပ်သော ဈေးကွက်ဟုပဲ ဆိုကြပါစို့။

ဈေးကွက်စနစ်တွင် ဘာကောင်းကွက် ရှိမည်ဟု အများမျှော်လင့်ကြသနည်း။

ဈေးကွက်စနစ်သည် ရောင်းလိုအား ဝယ်လိုအားပေါ်တွင် အခြေခံသည်။ ဝယ်လိုအား များသော ပစ္စည်းကို အပြိုင်အဆိုင် ထုတ်လုပ်ရောင်းချသည့်အခါ ပစ္စည်းမရှား၊ ဈေးမကြီး။ စားသုံးသူအတွက် အဆင်ပြေသည်။ လုပ်ငန်းတွေ အပြိုင်အဆိုင် လုပ်သဖြင့် အလုပ်အကိုင်တွေ ရကြသည်။ ဝင်ငွေရသည့်အခါ

နိုင်ခြမ်းနိုင်ကြမည်။

အဲသည်လို ယေဘုယျ မျှော်လင့်ကြသည်။

သို့သော် အကောင်းတွေချည်း မဟုတ်။ သူ့မှာလည်း ပြဿနာမျိုးစုံ ရှိသေးတာ အများ သတိပြုမိကြသည်။ တစ်ခုက၊ အဲသည် လွတ်လပ်သော ဈေးကွက်စနစ် သို့မဟုတ် အရင်းရှင် စီးပွားရေးစနစ်တွင် ပုဂ္ဂလိက လုပ်ငန်းသမား များက တစ်ကိုယ်ရေ အကျိုးအမြတ်ကို အာရုံပြု၍ အလုပ်လုပ်ကြသည့်အခါ အခြောက်တိုက် ဆားလူမှာ ထိခိုက်တာတွေ ရှိတတ်ခြင်း ဖြစ်သည်။ အလွယ်တကူ ပြောသော် အကြော်ဆိုင်နားနေသူမှာ မစားရဘဲ ညှော်ခံရတာမျိုး၊ ကြီးကြီး ကျယ်ကျယ် ပြောသော် ရွှေတွင်းတူးသူ၊ အပြောင်ရှင်း သစ်ခုတ်သူများကြောင့် တိုင်းသူပြည်သားအများနှင့်ဆိုင်သော သဘာဝပတ်ဝန်းကျင် ပျက်စီးတာမျိုး၊ အပျော်တစ်ပိုင်း အပျက်တစ်ပိုင်း ဖျော်ဖြေရေး ဆိုင်ခန်းထောင်သူများကြောင့် ပတ်ဝန်းကျင်မှာ ထိခိုက်တာမျိုးတွေ ဖြစ်သည်။

သည့်အပြင်လည်း ဈေးကွက်ဈေးကွက်ဆိုပြီး လွှတ်ထားရင်းက ဘယ်အချိန် ဘယ်နည်းလမ်းနှင့်မှန်း မသိ လုပ်ငန်းတစ်ခုကို တစ်ယောက်တည်းက လက်ဝါး ကြီးအုပ် လုပ်ခွင့်ရသွားပြီး စားသုံးသူ လူထုတစ်ရပ်လုံးက အဲသည်ပုဂ္ဂိုလ်၏ ကုန်ပစ္စည်းနှင့် ဝန်ဆောင်မှုများကို သူ တောင်းသမျှ ဈေးပေးကာ၊ ပေးသမျှ အရည်အသွေးကိုပဲ လက်ခံကြရခြင်းမျိုး ဖြစ်သည်။ အမြတ်ကို ကြထားသော စနစ်မှာ လက်ဝါးကြီးအုပ် လုပ်ခွင့်ရသူသည် ဘယ်သူ့ကိုမှ ညာလိမ့်မည် မဟုတ်။

လွတ်လပ်ဈေးကွက်သို့မဟုတ် အရင်းရှင်စနစ်မှာ မလွဲမသွေ တွေ့မြင် ရမည့် အခြား အခြင်းအရာတစ်ခုက ဆင်းရဲ ချမ်းသာ ကွာဟမှု ဖြစ်သည်။ တချို့လူတွေ အဆမတန် ချမ်းသာကာ ဆင်းရဲသူများအပေါ် ငွေအားဖြင့် ချမ်းမိုးတာတွေ မလွဲမသွေ ရှိနေလိမ့်မည်။ တချို့လူတွေ အလုပ်လုပ်ပါလျက် ဆင်းရဲတွင်းက မတက်နိုင်သည့် အနေအထားမျိုးတွေလည်း ကြုံတွေ့ရလိမ့်မည်။ ပြင် ငွေနှင့်အာဏာ ချိတ်ဆက်ကာ ငွေသမားရော အာဏာသမားပါ ခြစားမှုတတာတွေ လုပ်လာတတ်သည်။ အဲဒါဆိုလျှင် အများသူငါ လက်မခံနိုင် တာတွေ အများကြီး ရှိလာကာ လူ့အဖွဲ့အစည်းတွင်း တည်ငြိမ်မှု ပျက်ပြား နိုင်သည်။

ဒါတွေကြောင့် လူတွေက အထူးသဖြင့် စီးပွားရေး ပညာရှင်များ နိုင်ငံရေး သမားများက၊ တိုင်းပြည်ဖွံ့ဖြိုးတိုးတက်အောင်တော့ ဈေးကွက်စီးပွားရေးနှင့်

ဒီနောက် ငွေ့ဥလီတတွေက တစ်ဦးချင်း ငွေရင်းတွေ၊ အစုရှယ်ယာတွေဖြ
လုပ်ငန်းကြီးတွေ ထူထောင် လုပ်ကိုင်သော စနစ်ကို ခွင့်ပြုပေးရမည်။ သို့သေ
သည်စနစ်၏ မကောင်းသော ဘေးထွက် သက်ရောက်မှုတွေ လျော့ပါ
အတိသာအောင် သို့မဟုတ် တိုင်းပြည်၏ မနေဥစ္စာကို ပြည်သူအများ
အတတ်နိုင်ဆုံး မျှတစွာ ခံစားရအောင်၊ များစွာ မညီမျှသည့်တိုင် ဆင်း
ခဲ့သောမှုများ၊ ဆင်းရဲခြင်းကြောင့် ဖြစ်သည့် လူမှုရေး၊ ကျန်းမာရေး၊ ပညာ
နိမ့်ပါးနိမ့်ကျမှုများ မရှိရအောင် တိုင်းပြည်အစိုးရက လုပ်ငန်းသမားများ
ထိန်းသိမ်းကွပ်ညှပ်ခြင်း၊ အများပြည်သူအား ကာကွယ် စောင့်ရှောက်ခြင်းမျ
ဖြို့ လိုသည်ဟု မှတ်ယူကြသည်။

တစ်နည်းပြောသော်၊ ဈေးကွက်ကို ချုပ်ကိုင်ဖို့။

သည်တော့၊ ဘယ်လောက် ချုပ်ကိုင်မည်လဲ။

အက်ဒမ်စမစ်ကတော့ ဈေးကွက်ကို မချုပ်ပါနှင့်၊ သူ့အတိုင်း လွှတ်
ထားလိုက်ပါ၊ မမြင်ရသောလက်က ထိန်းချုပ်ပေးသွားပါလိမ့်မည် ဟုဆိုသည
အဓိပ္ပာယ်က ရောင်းလိုအား၊ ဝယ်လိုအားပေါ်တွင် အခြေတည်သည့် ဈေးကွ
စနစ်သည် သူ့ဘာသာ ထိန်းချုပ်လိမ့်မည် ဟူသောသဘော ဖြစ်သည်။

သို့သော်၊ ဒါကို လက်မခံသူတို့ကတော့ ဈေးကွက်ကို လွှတ်ထားခြင်းအားဖ
အထက်တွင် ဖော်ပြခဲ့သည့် လက်ဝါးကြီးအုပ်စနစ် အပါအဝင် မလိုလားအ
တာတွေ ဖြစ်လာနိုင်တာ ထောက်ပြကြသည်။ ပြီး၊ အရင်းရှင်စနစ် (ဈေးကွ
စနစ်) မှာ ကြုံရမြဲဖြစ်သည့် အလုပ်လက်မဲ့ ပြဿနာ။

ဒါသည် ဈေးကွက်စနစ် မပီပြင်သေး၍ ဖြစ်သည့် ပြဿနာ မဟုတ
ဈေးကွက် (အရင်းရှင်) စနစ်ကို လွှတ်ပေးထားသရွေ့ တည်ရှိနေမ
အနေအထား ဖြစ်သည်။ စင်စစ်၊ 'အလုပ်လက်မဲ့' စနစ်သည် အလုပ်သမား
ဈေးနှုန်း တိုးတက် တောင်းဆို မလာနိုင်အောင် ထိန်းချုပ်ထားသည့် စန
ဖြစ်သည်။ တစ်နည်းပြောရသော်၊ ဈေးကွက်၏ မမြင်ရသော လက်ထဲတွ
ကိုင်ထားသည့် 'တုတ်' ဖြစ်သည်။ ထို့ကြောင့် သည်'တုတ် ကိုင်ထားသေ
လက်' ကို ထိန်းချုပ်ဖို့ လိုသည်ဟု ဝေဖန်ထောက်ပြကြသည်။

ဒါက စီးပွားရေး ရှုထောင့် နိုင်ငံရေး ရှုထောင့်က အမြင်များ ဖြစ်သည

အာဏာရှိသူ (ဝါ) တကယ် လုပ်ပိုင်ခွင့်ရသူက ဘာလုပ်မည်နည်း။

အာဏာရ နိုင်ငံရေးသမားသည် ထိန်းချုပ်သည်ဆိုဆို တိုင်းပြည်ဖွံ့ဖြိုး
အတွက် ပေါ်လစီချမှတ်သည့်ပဲ ပြောပြော၊ စီးပွားရေးကိစ္စတွင် ဘေးဖယ်မနေ

သူ့ဝါချင်သလောက် သို့မဟုတ် သူ့စနစ်က ပါခွင့်ပြုသလောက် ဝင်ပါမည်သာ ဖြစ်သည်။ ထို့ကြောင့်လည်း အမေရိကန် အပါအဝင် အရင်းရှင်ထိပ်သီး နိုင်ငံကြီးများမှာပင် အစိုးရချုပ်ကိုင်ထားသည့် လုပ်ငန်းကဏ္ဍတွေ အများအပြား ရှိနေကြတာ ဖြစ်သည်။

အရေးကြီးသည်က အစိုးရသည် စီးပွားရေးထဲတွင် ဘယ်လောက်ထိ အသေးစိတ် ပါဝင်ပတ်သက်မည်နည်း၊ တိုင်းပြည်၏ ဥပဒေ အဆောက်အအုံ အခြေခံများက သူ့အား ဘယ်အတိုင်းအတာအထိ ပါဝင်ခွင့်ပေးထားသနည်း ဟူသောအချက် ဖြစ်သည်။

တစ်နည်းပြောရသော် တိုင်းပြည်၏ စီးပွားရေးသည် အစိုးရက ဘာမူဝါဒတွေ ချမှတ်၍ အဲသည်မူဝါဒများကို အကောင်အထည်ဖော်ရန် လွှဲအပ်ခြင်းခံရသည့် အစိုးရ၏လူတို့က ဘယ်ပုံဆောင်ရွက်ကြသနည်းပေါ်တွင် မူတည်လိမ့်မည်။

တစ်ချိန်က မူကောင်းသည် လူမကောင်း၊ လူကောင်းသည် မူမကောင်း ဟူသော ရှုမြင်ချက်များ ရှိခဲ့ဖူးသည်။ မအောင်မြင်သော ကိစ္စအတွက် ဟိုဘက် သည်ဘက် အပြစ်ပုံချကြသော သဘော ဖြစ်သည်။

စင်စစ် လူတွေကောင်းမှ (ဉာဏ်အမြော်အမြင်ရှိမှ) မူကောင်းကောင်း ချနိုင်လိမ့်မည်။ မူထဲမှာ လူကို ထိန်းကျောင်းစောင့်ကြည့်မည့် စနစ်ပါမှ လူတွေ ကောင်းကြ (မှန်မှန်ကန်ကန် လုပ်ကြ) လိမ့်မည်။

သည်အတွက်၊

မူချမှတ်ရာတွင် အများပြည်သူ့သဘောထားနှင့် ပညာရှင်တို့၏ ဉာဏ် အမြော်အမြင်များ ပေါင်းစပ်ပါဝင်ဖို့ လိုသည်။ ထို့နောက်တွင် လက်တွေ့ အကောင်အထည်ဖော်သူတို့ မှန်ကန်စွာ ဆောင်ရွက်အောင် စောင့်ကြပ် ဘည့်မတ်ပေးနိုင်ရန်အတွက် ပွင့်လင်းမြင်သာသော စနစ်နှင့် စောင့်ကြည့်သူတို့ ဘက်က လွတ်လပ်စွာ လုပ်ပိုင်ခွင့်များ လိုအပ်သည်ဟု တင်ပြလိုပါသည်။

[ ၅ နိုဝင်ဘာ ၂၀၁၀ ]

# မတူသူတွေ ညှိနှိုင်းကြသည့်အခါ

ဘသာတစ်ခု၊

ဆေးလိပ်ပြာခွက် အောက်ခြေမှာ ပုံတစ်ပုံ ပါသည်။

မီးခိုးထွက်နေသော စီးကရက်ကို ကြက်ခြေခတ်ထားသောပုံ။ တစ်နည်း ပြောသော် ဆေးလိပ်မသောက်ရဟု တားမြစ်ထားသောပုံ။

သည်မှာ ပြဿနာရှိလာသည်။

ဆေးလိပ် မသောက်ရ ဟုလည်း ဆိုသေး၊ ဘာကြောင့် ပြာခွက်ထိုးပေးသလဲ။

သို့မဟုတ်

ပြာခွက်ချပေးထားပြီးကာမှ ဆေးလိပ် မသောက်ပါနှင့်ဟု ဘာကြောင့် တားမြစ်သေးသလဲ။

နောက်တစ်ခု။

စီးကရက်ဗူးပေါ်မှာ စာတန်းထိုးထားသည်။ ဆေးလိပ် သောက်ခြင်းသည် သင့်ကျန်းမာရေးကို ဆိုးရွားစွာ ထိခိုက်စေနိုင်ပါသည်၊ တဲ့။

စီးကရက် ဝယ်မည့်သူ တုန့်ကနဲ ဖြစ်သွားစေမည့် စာတန်း။

ဘာကြောင့် ထိုးထားသလဲ။



ပထမဆုံး ပြာခွက်ကိစ္စ။

ပြာခွက် ချထားသူ (အိမ်ရှင်) ၏ စည်းကမ်းက 'ဆေးလိပ်မသောက်ရ'။

သူသည် ဆေးလိပ်သောက်ခြင်းကို မနှစ်သက်။ ဧည့်သည်အား ဆေးလိပ် မသောက်စေချင်။ မသောက်ပါနဲ့ဗျာဟု တားမြစ်ချင်သည်။

သို့သော် လူတွေဆိုသည်က တားတိုင်း ရသည် မဟုတ်။ ပြီး သူ့အယူအဆနှင့် သူ၊ သူ့အကြိုက်နှင့်သူ ရှိတတ်သည်။ အဲသည် သဘောကို အိမ်ရှင် နားလည် သည်။ ဆေးလိပ်ကို မကြိုက်သော်လည်း သည်ဟာအတွက်နှင့် မိတ်ပျက်သည်အထိ ဖြစ်ရမှာကိုလည်း သူမလိုလား။ ထို့ကြောင့်၊ ကျွန်တော်ကတော့ တားတယ်ဗျာ၊ မသောက်ရ မနေနိုင်ဘူး၊ ဘာပဲဖြစ်ဖြစ် သောက်မှာပဲ ဆိုရင်တော့ ဒီပြာခွက်ကို သုံးပါဟူ၍ ပေးထားခြင်း ဖြစ်သည်။

သည်တွင် သတိပြုရမည်က ပြာခွက် ဟူသည် ဆေးလိပ်နှင့် မီးခြစ်တို့ကဲ့သို့ ဆေးလိပ်သမား၏ အဆောင်အယောင် သက်သက် မဟုတ်။ ဆေးလိပ်ပြာ

ဆေးလိပ်တိုတို့ကြောင့် ရှုံးခန်း၊ ညည့်ခန်းများ မညစ်ညမ်းစေလိုသည့် သန့်ရှင်းရေးသမား၏ ပစ္စည်းလည်း ဖြစ်သည် ဟူသောအချက်ပင်။

သည်ကိစ္စကို နောက်တစ်နည်း ပြောသော်

အိမ်ရှင်၌ 'မှု' သို့မဟုတ် သူဂရုပြုသော အရာ သုံးခုရှိသည်။ ၎င်းတို့မှာ

၁။ ဆေးလိပ်ကို မလိုလား။

၂။ သန့်ရှင်းစင်ကြယ်မှုကို လိုလား သည်။

၃။ ပေါင်းသင်းဆက်ဆံရေးကို အလေးထားသည်။

--- စသည်တို့ ဖြစ်သည်။

သူသည် သူ့မှုများကို မလျှော့လို။ သို့သော် သုံးခုလုံးကို တိတိကျကျ ထိန်းသိမ်းရန် မလွယ်ကူသည့် ပကတိ အနေအထားမျိုးတွင် အထိုက်အသင့် အလျှော့အတင်း ပြုသော သဘောဖြင့် ဆေးလိပ်ကို ကြက်ခြေ ခတ်ထားသော အမှတ်တံဆိပ်ပါသည့် ပြာခွက်ကို အသုံးပြုခြင်း ဖြစ်သည်ဟုဆိုနိုင်သည်။



နောက်တစ်ခုကို ကြည့်ကြပါဦးမည်။

ဆေးလိပ် မသောက်ရန် သတိပေးသည့် စာတန်းပါရှိသော စီးကရက်ဗူး။

စာတန်းကို ဘယ်သူ ထိုးသနည်း။

စီးကရက် ထုတ်လုပ်ရောင်းချသူများက ထိုးပါသည်။

ဘာကြောင့် ထိုးသနည်း။

ဥပဒေအရ မထိုးမဖြစ်၍ ထိုးခြင်း ဖြစ်သည်။

သာမန်အားဖြင့် စဉ်းစားသော်၊ ဆေးလိပ်ကို ကြိုက်သူက ကြိုက်၍၊ ထုတ်လုပ် ရောင်းချသူက သင့်တော်ရာ ဈေးနှုန်းနှင့် ထုတ်လုပ်ရောင်းချနေသည့် ကိစ္စကို ဘယ်သူ ကန့်ကွက်စရာရှိသနည်း ဟုဆိုနိုင်သည်။

သို့သော်၊ ပညာရှင်တို့ သုတေသနပြုချက်အရ စီးကရက်မီးခိုးထဲတွင် လူကို အန္တရာယ်ပြုနိုင်သည့် ပစ္စည်းပေါင်း မြောက်မြားစွာ ပါဝင်သည်။ ၎င်းတို့ကြောင့် နှလုံးရောဂါနှင့် ကင်ဆာရောဂါ အပါအဝင် ရောဂါအမျိုးမျိုး ဖြစ်ပေါ်ကာ လူကို အသက်တိုစေသည်။ ထို့ပြင် ဆေးလိပ်သောက်သူကိုယ်တိုင်သာမက အနီးရှိ မီးခိုးရှူရှိုက်ရသူများမှာလည်း ထိခိုက်သည်။ အထူးသဖြင့် ထိခိုက်သည်က ဆေးလိပ်သောက်သော မိခင်နှင့် ၎င်းတို့၏ ကလေးသူငယ်များ ဖြစ်သည်၊ ဒါတင်မက ကိုယ်ဝန်ဆောင် မိခင်များ

ဆေးလိပ်သောက်လျှင် ဗိုက်ထဲရှိ သန္ဓေသားမှာ အန္တရာယ် ရှိသည်၊ စသဖြင့်၊ စသဖြင့် တွေ့ရှိရသည် ဟုဆိုထားရာ၊ အဲသည် အကြောင်းတွေကြောင့် စိုးရိမ်မကောင်း ဖြစ်ကြသည့် ဆေးပညာရှင်များနှင့် အများပြည်သူ့ ကျန်းမာရေး အတွက် မိမိတို့မှာ တာဝန်ရှိသည်ဟု ခံယူထားကြသူများက ဆေးလိပ်ကို လည်းကောင်း၊ ဆေးလိပ်သောက်ခြင်းကို လည်းကောင်း ကန့်သတ်ရန်၊ သို့မဟုတ် တားမြစ်ပိတ်ပင်ရန် အားထုတ်လာကြသည်။

၎င်းတို့က၊

ဆေးလိပ် ကုမ္ပဏီများသည် ကြော်ငြာများ၊ ဖြန့်ချိရေး အတတ်ပညာများကို အသုံးပြုကာ မသိနားမလည်သော လူငယ်များနှင့် ကျန်းမာရေးအသိ နည်းသော လူကြီးများ ဆေးလိပ်သောက်ချင်စိတ် ဖြစ်ပေါ်အောင်၊ ဆေးလိပ်စွဲအောင် စီမံပြုလုပ်နေကြသည်ဟု ရှုမြင်ကာ၊ ၎င်းကိစ္စကို အစိုးရ သို့မဟုတ် တရားဥပဒေ ပြဋ္ဌာန်းနိုင်သူတို့က ဟန့်တားပေးရန် လှုပ်ရှားတောင်းဆိုကြသည်။

တစ်ဖက်တွင် ဆေးလိပ် ထုတ်လုပ် ရောင်းချသူများကလည်း မိမိတို့၏ လွတ်လပ်စွာ စီးပွားရှာဖွေခွင့်ကို ကာကွယ်ရန် ကြိုးပမ်း ကြသည်။ ပိတ်ပင်ရန် အားထုတ်မှုများကို နည်းမျိုးစုံဖြင့် ခုခံ ကာကွယ်ကြသည်။

ဤသို့ဖြင့် အပြန်အလှန် ထိပ်တိုက် ရင်ဆိုင်မှု သို့မဟုတ် နှစ်ဖက် လျှော့တင်း ညှိနှိုင်းမှု၏ ရလဒ်အဖြစ် စီးကရက်ဗူးတွင် အန္တရာယ်ရှိကြောင်း စာတန်းထိုးပြီးမှ ရောင်းချသည့် အနေအထား ပေါ်ပေါက်လာခြင်း ဖြစ်သည်။



ဆေးလိပ်ကို ကြက်ခြေခတ်ထားသည့် ပြာခွက်၊

အန္တရာယ် စာတန်းထိုးပြီး ရောင်းချနေသည့် စီးကရက်။

ရုတ်တရက် ကြည့်သော်၊ သည်နှစ်ခုလုံးပင် ဆန့်ကျင်ဘက်တွေ တွဲဖက်ကာ သောင်မတင် ရေမကျ အူကြောင်ကြောင် ကိစ္စများဟု ထင်မှတ်စရာ ရှိပါသည်။

သို့သော်၊ သည်အရာတွေသည် အလိုဆန္ဒ မတူသူ၊ အယူအဆ ကွဲပြားသူတို့ တရားမျှတစွာ ယှဉ်ပြိုင်နေထိုင်ကြသည့် ယဉ်ကျေးသော လူ့အဖွဲ့အစည်းများမှာ တွေ့ရှိရမည့် ထူးခြားသော အခြင်းအရာ တစ်မျိုးလည်း ဖြစ်သည်ဟု ဆိုချင်ပါသည်။

[ ၂၃ နိုဝင်ဘာ ၂၀၁၀ ]

# အာဏာများ ခွဲခြားထားသော စနစ်

ဒီမိုကရေစီနိုင်ငံများတွင် တိုင်းပြည်ရေးရာ ဆောင်ရွက်မည့် သူတို့အား အများဆန္ဒဖြင့် ရွေးကောက်တင်မြှောက်ကာ လုပ်ပိုင်ခွင့်အာဏာများ အပ်နှင်းကြရမြဲ ဖြစ်သည်။ ထိုရရှိသော အာဏာအသီးသီးကို အသုံးပြု၍သာလျှင် တိုင်းပြည်၏ တာဝန်အရပ်ရပ်ကို ၎င်းတို့ ကျေပွန်စွာ ထမ်းဆောင်နိုင်ကြမည် ဖြစ်သည်။

သို့သော်၊ လူတစ်ဦးတစ်ယောက် သို့မဟုတ် တစ်ဖွဲ့တစ်စုကို အာဏာ တစ်စုံတစ်ရာ ပေးအပ်သည့်အခါ အဲသည် အာဏာကို တိုင်းပြည်အတွက် မဟုတ်ဘဲ မိမိကိုယ်ကျိုးအတွက် အသုံးပြုခြင်းမျိုး၊ ရည်ရွယ်သည်ဖြစ်စေ၊ မရည်ရွယ်ဘဲဖြစ်စေ လုပ်ပိုင်ခွင့်ဘောင်ကို ကျော်လွန်၍ အာဏာသုံးစွဲခြင်းမျိုး ရှိတတ်သည်။ ယင်းသို့ အာဏာအလွဲသုံးသဖြင့် အများပြည်သူတို့ လွတ်လပ်ခွင့် ဆုံးရှုံးခြင်း ထိခိုက်နစ်နာခြင်းများ မဖြစ်ပေါ်စေရန်အတွက် အာဏာရှိသူ အချင်းချင်း အပြန်အလှန် ဟန့်တားထိန်းချုပ်သော စနစ်တစ်ရပ်ကို နိုင်ငံဖွဲ့စည်းပုံများထဲတွင် ထည့်သွင်း ရေးဆွဲထားလေ့ရှိသည်။

သည်စနစ်မျိုးကို ကနဦး တီထွင် သုံးစွဲခဲ့ကြသူများမှာ ဒီမိုကရေစီစနစ်ကို တည်ထောင်ခဲ့သည့် ရှေးခေတ် ဂရိများပင် ဖြစ်သည်။ ဂရိတို့နောက်တွင် ရောမ သမ္မတနိုင်ငံက ပို၍ ထိရောက် တွင်ကျယ်စွာ အသုံးပြုခဲ့သည်။

သည်ဘက်ခေတ်တွင်မူ နိုင်ငံသစ်တွေ ထူထောင်ကြ၊ နိုင်ငံဟောင်းတွေ ပြန်လည် ဖွဲ့စည်းကြသည့်အခါတိုင်းပင် အာဏာခွဲခြားထားရှိမှုကို ပုံသဏ္ဌာန် တစ်ခုခုဖြင့် ထည့်သွင်းလာခဲ့ကြသည်။ သို့သော်၊ နိုင်ငံတို့ ဖြတ်သန်းခဲ့သည့် သမိုင်းကြောင်း၊ ရွေးချယ်ထားသည့် နိုင်ငံရေးလမ်းစဉ်နှင့် ဦးဆောင်သူတို့၏ ရည်ရွယ်ချက် စေတနာများပေါ်တွင် မူတည်ကာ အာဏာခွဲခြားမှုတို့၏ သဘာဝများ ကွဲပြားကြပါသည်။ ဒီမိုကရေစီစနစ် ကျင့်သုံးသည့် နိုင်ငံ အချင်းချင်းမှာပင် တစ်ခုနှင့်တစ်ခု မတူကြ။ ဗြိတိန်ကတစ်မျိုး၊ အမေရိက[illegible] တစ်ဖုံ၊ ပြင်သစ်ကတစ်နည်း စသဖြင့် သူ့ပုံစံနှင့်သူ ရှိကြသည်။

သို့သော်၊ သည်အထဲမှာ အထင်ရှားဆုံးပုံစံက ပြင်သစ်နိုင်ငံရေး [illegible] မွန်တက်စကျူး တင်ပြခဲ့သည့် အုပ်ချုပ်ရေး၊ ဥပဒေပြုရေး၊ တရား[illegible] ဟူ၍ ကဏ္ဍသုံးရပ် ခွဲခြားကာ ယင်းတို့ အချင်းချင်းကြား [illegible]

ထိန်းချုပ်သော စနစ်ဖြစ်သည်။ သည်စနစ်ဖြင့်သာ တစ်ဦးတစ်ယော
သို့မဟုတ် တစ်ဖွဲ့တစ်စု အာဏာစိုးမိုးမှုကို တားဆီးကာ၊ တရားဥပဒေစိုးမိုးမှု
လည်းကောင်း၊ အများပြည်သူ့လွတ်လပ်ခွင့်များကိုလည်းကောင်း ထိန်းသိမ်
ကာကွယ်နိုင်မည်ဟု သူ ယုံကြည်ခဲ့သည်။

မွန်တက်စကျူး၏ အယူအဆကို အနီးစပ်ဆုံးနှင့် အရှင်းလင်း အပီပြင်ဆုံ
လိုက်နာ ကျင့်သုံးခဲ့သည့် တိုင်းပြည်က အမေရိကန်ပြည်ထောင်စု ဖြစ်သည်

အမေရိကန်ပြည်တွင် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံ ဥပဒေအရ အစိုးရအာဏာ
ဥပဒေပြုရေး၊ အုပ်ချုပ်ရေး၊ တရားစီရင်ရေးဟူ၍ ကဏ္ဍသုံးရပ် ပိုင်းခြားထားသည်
သို့သော်၊ ကိုယ့်ကဏ္ဍမှာ ကိုယ်ကြိုက်တာလုပ်ကြ၊ တခြားကဏ္ဍကို သွားမထိ
ကြနှင့်ဟု တစ်သီးတစ်သန့်စီ ခွဲထားခြင်းမျိုး မဟုတ်။ မည်သည့်ကဏ္ဍရပ်မှ
အလွန်အကျွံ အာဏာကြီးထွားလာခြင်း မရှိရအောင် အပြန်အလှန် ထိန်းချု
ကွပ်ညှပ်နိုင်ကြရန်အတွက် တစ်ဦးနှင့်တစ်ဦး ချိတ်တွယ် ဆက်စပ်မှုမျာ
စနစ်တကျ ဖန်တီးပေးထားသည်။

တစ်နည်းပြောရသော်၊ မိမိကဏ္ဍမှာသာ လုပ်ပိုင်ခွင့်အာဏာ ရှိသည
မဟုတ်။ အခြားကဏ္ဍများသို့ပါ အချို့အစိတ်အပိုင်းများမှာ သက်ရောက
လွှမ်းမိုးခွင့် ပေးထားသည်။ တစ်ချိန်တည်းမှာ မိမိအပေါ် အခြားကဏ္ဍ
သက်ရောက်လွှမ်းမိုးမှုကိုလည်း တစ်စိတ်တစ်ပိုင်း ခံယူရသည်။ •

ဥပမာ - ကွန်ဂရက် လွှတ်တော်သည် တိုင်းပြည်၏ ဥပဒေများက
ပြဋ္ဌာန်းပေးနိုင်သည့် အာဏာ ရှိထားသည်။ သည့်အပြင် အုပ်ချုပ်ရေးအာဏ
ရရှိထားသည့် သမ္မတ၏ လုပ်ကိုင်မှုများနှင့် ပတ်သက်၍ လိုအပ်လာလျှ
ထိန်းချုပ်ဟန့်တားနိုင်သော အခွင့်အာဏာလည်း ရှိသေးသည်။

ဥပမာ - လွှတ်တော်က ပြဋ္ဌာန်းသည့် ဥပဒေကို သမ္မတက ဗီတိုအာဏာဖြ
ပယ်ဖျက်သည် ဆိုပါစို့။ လွှတ်တော်အမတ် သုံးပုံနှစ်ပုံ၏ ဆန္ဒမဲဖြင့် ထိုဗီတိုက
ပြန်လည် ပယ်ဖျက်နိုင်ခြင်းမျိုး ဖြစ်သည်။

ထို့ပြင် အုပ်ချုပ်ရေးကဏ္ဍက နှစ်စဉ် တင်ပြသည့် ဘတ်ဂျက် ငွေစာရင်းက
ရင်းက ခွင့်ပြုနိုင် ငြင်းပယ်နိုင်ခွင့်ရှိသည်။

သမ္မတသည်ပင် ကြီးလေးသော ပြစ်မှုတစ်စုံတစ်ရာ ကျူးလွန်ခဲ့ပါက
၎င်းအား ကွန်ဂရက်လွှတ်တော်က တရားရုံးတွင် စွဲချက်တင်ကာ ပြစ်မှုထင်ရှားပါက
ရာထူးမှ ဖယ်ရှားနိုင်သည်။

ထို့ပြင်၊ သမ္မတခန့်အပ်မှုကို လည်းကောင်း၊ သမ္မတ၏ အုပ်ချုပ်ရေးကဏ္

ပြုလုပ်လာခဲ့သည့် နိုင်ငံတကာ သဘောတူ စာချုပ်များကိုလည်းကောင်း၊ လွှတ်တော်ကပင် အတည်ပြုပေးရသည်။

လွှတ်တော်သည် တရားစီရင်ရေး အာဏာရရှိထားသူများနှင့် ပတ်သက်၍လည်း အောက်ရုံးသစ်များ ဖွင့်လှစ်ပေးခြင်း၊ တရားသူကြီးများကို ပြစ်မှုကြောင်းအရ တရားစွဲဆို ဖြုတ်ပယ်ခြင်း၊ တရားသူကြီးခန့်အပ်မှုများကို အတည်ပြုပေးရခြင်း စသည့် လုပ်ပိုင်ခွင့်များအားဖြင့် ထိန်းချုပ်ကန့်သတ်နိုင်သည်။

တစ်ဖက်တွင်၊

အုပ်ချုပ်ရေး အကြီးအကဲ သမ္မတသည်လည်း သူ၏ ပင်မ အလုပ်အဖြစ် ဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ တိုင်းပြည်ရေးရာများကို စီမံခန့်ခွဲခွင့်ရသကဲ့သို့၊ တစ်ဖက်မှာ လွှတ်တော်၏ ဆောင်ရွက်ချက်များနှင့် ပတ်သက်၍လည်း မိမိ မကြိုက်လားသော ဥပဒေများကို ဗီတိုအာဏာဖြင့် ပယ်ဖျက်ခြင်း၊ လိုအပ်သည်ဟု ယူဆသည့်အခါ လွှတ်တော် အထူးအစည်းအဝေးများ ခေါ်ယူ ကျင်းပစေခြင်း၊ ကိစ္စတစ်စုံတစ်ရာနှင့် စပ်လျဉ်း၍ ဥပဒေပြဋ္ဌာန်းရန် တိုက်တွန်း အကြံပြုခြင်းများ ပြုလုပ်နိုင်သည်။

ထို့ပြင်၊ တရားရေးကဏ္ဍနှင့် ပတ်သက်၍လည်း သမ္မတ၌ ဗဟိုတရားရုံးနှင့် အခြားပြည်ထောင်စု တရားရုံးများအတွက် တရားသူကြီးများ ခန့်အပ်ပေးနိုင်သော အာဏာရှိသည်။

တစ်ဖန် တရားစီရင်ရေး အာဏာရရှိထားသူများသည်လည်း လွှတ်တော်က ပြဋ္ဌာန်းခဲ့သည့် ဥပဒေများကို ရှင်းလင်းဖွင့်ဆိုကာ ထိုဖွင့်ဆိုချက်များနှင့်အညီ စစ်ဆေးစီရင်နိုင်သည့် ပင်မ အခွင့်အာဏာအပြင်၊ သမ္မတ အပါအဝင် အုပ်ချုပ်ရေးပိုင်းဆိုင်ရာ၏ ဆောင်ရွက်ချက် တစ်စုံတစ်ရာသည်လည်းကောင်း၊ လွှတ်တော်က ပြဋ္ဌာန်းလိုက်သည့် ဥပဒေတစ်ရပ်ရပ်သည်လည်းကောင်း အခြေခံဥပဒေနှင့် ညီညွတ်မှု မရှိဟု ယူဆပါက ၎င်းအား စစ်ဆေးဆုံးဖြတ်ပိုင်ခွင့်ရှိသည်။ ထို့ပြင် ရာသက်ပန် ခန့်အပ်ခြင်းခံရသော တရားသူကြီးများ ဖြစ်သဖြင့် အုပ်ချုပ်ရေးပိုင်း (သမ္မတ) ၏ ထိန်းချုပ်မှုမှ ကင်းလွတ်ကြပေသည်။

ဤသည်က အမေရိကန်ပြည်တွင် အာဏာသုံးရပ် ခွဲခြားထားရှိပုံနှင့် ၎င်းတို့ အချင်းချင်း အပြန်အလှန် ထိန်းကွပ်နိုင်ပုံ သဘောကို အကြမ်းဖျဉ်း ဆင်ပြခြင်း ဖြစ်ပါသည်။ သမိုင်းကြောင်းကို ပြန်ကြည့်သော်၊ ထိန်းကွပ်နိုင်သည့် အာဏာကို ကဏ္ဍသုံးရပ်လုံးက အသုံးပြုခဲ့ကြသဖြင့် တစ်ခါတစ်ရံ သမ္မတက ခန့်အပ်လိုက်သူကို လွှတ်တော်က အတည်ပြုမပေးခြင်း၊ သမ္မတက ဗီတိုပြုခြင်း

ဝယ်ချသည်ကို လွှတ်တော်က သုံးပုံနှစ်ပုံမဲဖြင့် ထပ်ဆင့်ပယ်ချခြင်း၊ သမ္မတ ကိုယ်တိုင်အား ပြစ်မှုကြီးဖြင့် တရားစွဲဆိုကာ ရာထူးမှ ဖယ်ရှားခြင်းတို့ အပါအဝင် ထိပ်တိုက်တွေ့မှုများ ရှိခဲ့တာ တွေ့ရသည်။ သို့သော် အာဏာ ခွဲခြားထားရှိသော စနစ်၏ ရည်ရွယ်ချက်အတိုင်း တစ်စုံတစ်ယောက်တည်း တစ်ဖိုင်းတစ်ကဏ္ဍတည်းက အာဏာ အလွန်အကျွံ သုံးစွဲမှုမပြုနိုင်အောင်ကား အခြေ်တစိုက် ထိန်းသိမ်းထားနိုင်ခဲ့သော သဘော ရှိပါသည်။

ပြန်လည် သုံးသပ်သော် အာဏာများ ခွဲခြားထားသော စနစ်သည် ဒီမိုကရေစီနိုင်ငံတစ်ခု လမ်းကြောင်းမှန်ပေါ်တွင် ရေရှည် တည်တံ့ရန်အတွက် မရှိမဖြစ် လိုအပ်သောစနစ် ဟုဆိုချင်သည်။

သည်စနစ်အားကောင်း ခိုင်မာရန်အတွက်မှု အပြန်အလှန် ထိန်းချုပ်ခွင့် အာဏာရရှိထားသူတို့က အခြားကဏ္ဍမှ တိမ်းစောင်း ချွတ်ချော်မှုများကို တာဝန်သိစွာ စောင့်ကြည့်ကြပ်မတ်ကြရန်နှင့် ပြည်သူလူထုကလည်း မိမိတို့ အကျိုးစီးပွားကို မိမိတို့ကိုယ်တိုင် ကာကွယ်သောအားဖြင့် စောင့်ကြည့် ကြပ်မတ်ရေးလုပ်ငန်းများတွင် တက်ကြွစွာ ပါဝင်ဆောင်ရွက်ကြဖို့လိုသည်ဟု တင်ပြလိုပါသည်။

[ ၂၆ နိုဝင်ဘာ ၂၀၁၀ ]

# အမြင်မတူတိုင်း ဆန့်ကျင်ကွဲလွဲဖို့ မလိုပါ

ဘိန္ဓတစ်ရပ်နှင့် စပ်လျဉ်း၍ အယူအဆမတူသူနှစ်ယောက် အပြင်းအထန် ငြင်းခုံဝေဖန်ကြသည့်ပွဲမျိုး ကြုံဖူးကြပါလိမ့်မည်။

အစပထမတွင် သူ့အမြင် သူပြော ကိုယ့်အမြင် ကိုယ်ပြောရင်း သည်ကိစ္စမှာ သူနှင့်ကိုယ် အယူအဆမတူတာ၊ ရပ်တည်ချက်တွေ ကွဲလွဲတာ၊ သူက ဟိုဘက်ကို အားပေးပြီး ကိုယ်က သည်ဘက်ကို ထောက်ခံတာတွေ တွေ့မြင်လာကြလိမ့်မည်။

အဲသည်ခါ တစ်ယောက်ကစပြီး တစ်ဖက်လူ၏ အယူအဆ မှားယွင်းကြောင်း၊ ဘာတွေ ဘယ်လို လွဲချော်နေကြောင်း ထောက်ပြ ပြောဆိုလာမည်။ သည်အခါ တစ်ဖက်လူကလည်း သူ မမှားကြောင်း ငြင်းဆိုကာ ဘာကြောင့် မမှားသည့် အကြောင်း အထောက်အထား သာဓကတွေဖြင့် ပြန်လည် ချေပမည်။ ဒါတင်မက တစ်ဖက်လူ၏ အယူအဆသည် ဘယ်နည်းဘယ်ပုံ မှားယွင်းနေကြောင်း ပြန်ပြန် ပြောဆိုဦးမည်။ အဲသည်လို အပြန်အလှန် ပြောရင်း ငြင်းခုံပွဲ ရှည်လာလျှင် ကျိုးကြောင်းယုတ္တိတွေကုန်ကာ အထောက်အထားမဲ့ ပြောဆို လာမည်။ တစ်ဖက်လူ နားလည်လက်ခံဖို့ကို မစဉ်းစား ငါ့စကားနွားရ ဖြစ်လာမည်။ အကြောင်းအရာကို ငြင်းခုံရာမှ ဆက်စပ် ပတ်သက်ရာ လူပုဂ္ဂိုလ်၊ အဖွဲ့အစည်း၊ ဝါဒလမ်းစဉ်၊ လက်စွဲကျမ်းဂန် စသည့် တစ်ဖက်လူ အလေးအမြတ် ပြုသည့် အရာများကို ပုတ်ခတ် ပြောဆိုသောအဆင့် ရောက်လာမည်။

အဲဒါဆိုလျှင် ငြင်းခုံပွဲက ရန်ပွဲအဖြစ်သို့ ကူးပြောင်းသွားတော့မည်။

စင်စစ်၊ လူတွေဆိုသည်က သူ့အယူအဆနှင့်သူ ရှိတတ်ကြသူများ ဖြစ်သည်။ သည်အထဲမှာ တကယ် အလေးအနက် စဉ်းစားတွေးတောပြီး အယူအဆတစ်ခုကို လက်သင့်ခံလာကြသူတွေပါသည်။ မုဆိုးနားနီး မုဆိုး ငါနားနီး တံငါ ဆိုတာလို မိမိ ကြီးပြင်းရာ ပတ်ဝန်းကျင်မှာ မကြာခဏ ကြားနာရသည်များကို အမှန်ဟု မှတ်ယူထားသူတွေ ပါသည်။ သည့်အပြင် စာအုပ်တစ်အုပ်ထဲက စာတစ်ကြောင်း၊ ဒါမှမဟုတ် မိမိ အထင်ကြီးသည့် ပုဂ္ဂိုလ်တစ်ယောက်၏ စကားတစ်ခွန်းကို မူသေစွဲ မှတ်ထားသူများလည်း ရှိနိုင်သည်။

ဒုဂ္ဂိုလ်တစ်ယောက်က ဆိုလျှင်၊ ကိစ္စရပ် အများအပြားနှင့် စပ်လျဉ်းသည့် လူတို့၏ သဘောထား အမြင်များ၊ အယူအဆများ၊ အမှတ်သညာများသည် အသိဉာဏ် နုံနဲ့သည့် ယေ်စဉ်ဘဝက စုစည်းမိခဲ့သည့် အရာများ ဖြစ်သည် ဟုဝင် ဆိုခဲ့ပါသည်။ လူတိုင်းအတွက် မှန်ချင်မှ မှန်ပါမည်။ သို့သော် နည်းနည်း လျှော့ပြောလျှင်ပင် လူအတော်များများသည် ကလေးဘဝက အမှတ်သညာများ အယူအစွဲများဖြင့် လူကြီးဘဝကို ဖြတ်သန်းကြသည်ဟု ဆိုရမည့်သဘော ဖြစ်သည်။ ထားပါတော့၊ အထက်က လူအမျိုးအစားများအနက် စဉ်းစားတွေးတောသော အလုပ်ကို အလေးအနက်လုပ်ကာ အမှန်တရားကို မြင်လျှင် လက်သင့်ခံဖို့ ဦးနှောက်ကို အသင့် ဖွင့်ထားတတ်သော ပုဂ္ဂိုလ်တချို့က လွဲလျှင် ကျန်လူအများစုတို့ အနေနှင့်၊ မိမိတို့ ခေါင်းထဲသို့ ဘယ်နည်းဘယ်ပုံ ရောက်ရှိနေမှန်း မသိသည့် အယူအဆမှန်သမျှကို ဒါ ငါ့အယူအဆဟု မူသေ စွဲမှတ်ကာ အခိုင်အမာ ခုခံကာကွယ်တတ်ကြသော သဘော ရှိပါသည်။

သည်အထဲမှာ မပီဝိုးဝါး အမှတ်သညာများ ပါရှိသလို နက်နက်ရှိုင်းရှိုင်း အမြစ်တွယ်နေသည့် ရှင်းလင်း ပီသသော အယူအဆများလည်း ရှိသည်။ ဒါတွေကို သွားတို့ထိလျှင် ပြဿနာတက်နိုင်သည်။

ဥပမာ – ဘာသာရေး၊ လူမျိုးရေး၊ နိုင်ငံရေးဆိုင်ရာ ယုံကြည်ချက် ရပ်တည်ချက်၊ အတွေးအမြင် အယူအဆနှင့် ဝါဒလမ်းစဉ်များ။ •

သည်ဟာတွေပေါ်မှာ အခြေခံသည့် ပဋိပက္ခတွေကြောင့် သွေးချောင်းစီး စစ်ပွဲကြီးတွေ ဖြစ်ခဲ့ကြသည်။ ကြီးမားသော အဲသည် အနိဋ္ဌာရုံတွေသည် လူတွေ ခေါင်းထဲစွဲနေခဲ့သည်။

ထို့ကြောင့်၊

သူတစ်ပါးဘာသာကို မထိပါးနှင့်၊ မဝေဖန်နှင့်၊ တတ်နိုင်သရွေ့ ဘာမျှမပြောကြနှင့်၊ သဘောရိုးနှင့် ပြောတာဖြစ်လျှင်ပင် တစ်ဖက်လူ အကောက်အယူလွဲက ပြဿနာတက်နိုင်သည်။ သတိထား။

အလားတူ။

သူတစ်ပါးလူမျိုးနှင့် ပတ်သက်လျှင်လည်း ...၊

သည်လိုတွေ သတိထားကြသည်။ သို့သော်၊ အပြန်အလှန် မထိပါးမိအောင် သတိထားသော သဘောဖြင့် တချို့ကိစ္စတွေကို မပြောကြတာ ကောင်းသော်လည်း နယ်နိမိတ် တစ်ခုတည်းအတွင်းမှာ အထက်က ဆိုခဲ့သည့် မတူသူတွေ စုပေါင်း နေထိုင်ကြသည့်အခါ သူ့ရယ် ကိုယ်ရယ် အတူတကွ ပြဿနာကင်းစွာ

နေနိုင်ဖို့အတွက် ဆွေးနွေးညှိနှိုင်းမှုတွေတော့ မလွဲမသွေ လုပ်ဖို့ လိုလာသည်။

ဒါက အတော် ပြဿနာကြီးသည်။ အပြောမတတ်လျှင် တုတ်တစ်ပြက် ဓားတစ်ပြက် ဖြစ်နိုင်သည့် ကိစ္စရပ်တွေကို၊ အဲသည် တုတ်တစ်ပြက် ဓားတစ်ပြက် မဖြစ်ဖို့အတွက်ဘဲ ပြောကြဆိုကြရမည့် ကိစ္စဖြစ်သည်။

ခင်ဗျား ဘာသာကိုလည်း ခင်ဗျား လွတ်လွတ်လပ်လပ် ကိုးကွယ်နိုင်ဖို့၊ ကျွန်တော့်ဘာသာကိုလည်း ကျွန်တော် လွတ်လွတ်လပ်လပ် ကိုးကွယ်နိုင်ဖို့၊ ခင်ဗျား လူမျိုးလည်း မနစ်နာဖို့၊ ကျွန်တော့်လူမျိုးလည်း မနစ်နာဖို့၊ ကျွန်တော်လည်း ကျွန်တော့်လမ်းစဉ်နဲ့ ကျွန်တော် သွားနိုင်ဖို့၊ ခင်ဗျားလည်း ခင်ဗျား နိုင်ငံရေး ယုံကြည်ချက်ကို ကိုင်စွဲထားနိုင်ဖို့၊... ချုပ်ပြောသော်၊ ငြိမ်းချမ်းစွာ အတူတကွ ယှဉ်တွဲတည်ရှိနိုင်ဖို့၊ အဲဒါကို ဆွေးနွေးညှိနှိုင်း အဖြေရှာရသည့် ကိစ္စ။

ဒါကို ပြေလည်အောင် ဆောင်ရွက်နိုင်သဖြင့် မငြိမ်းချမ်းရာက ငြိမ်းချမ်းသွားသော တိုင်းပြည်တွေ ကမ္ဘာမှာ ဒုနှင့်ဒေး ရှိသည်။ တချို့ကျတော့ တစ်ခါတုန်းက မငြိမ်းချမ်းသော အနေအထားရှိခဲ့ဖူးသည်ဆိုတာ ဟုတ်ရဲ့လား အံ့ရလောက်အောင်ပင် မတူသူတွေ ယှဉ်တွဲနေထိုင်သည့် အလေ့အထ အသားကျခဲ့ပြီ။

ထို့ကြောင့် မည်မျှ ကွဲပြားတာတွေဖြစ်စေ၊ ညှိနှိုင်း အဖြေရှာလျှင် မရတာ မရှိဟု၊ ငြိမ်းချမ်းလိုသူ ညှိနှိုင်းလိုစိတ်ရှိသူများက ပြောတတ်ကြခြင်း ဖြစ်သည်။ သို့သော်၊ အယူအဆမတူသူတွေ ဆန့်ကျင်ကွဲလွဲမှု လျော့ပါးလိုသော သဘောဖြင့် စကားပြောဆိုကြသည့်အခါ သဘောထားကြီးဖို့ လိုသည်။ တူညီသော ရည်ရွယ်ချက်ရှိပြီး အဲသည် ရည်ရွယ်ချက် အောင်မြင်ဖို့အတွက် လျှော့တန်တာ လျှော့၊ ဘေးဖယ်တန်တာ ဘေးဖယ်၊ ရွှေ့ဆိုင်းတန်တာ ရွှေ့ဆိုင်းနိုင်ကြရသည်။

ပြီး၊ မိမိ၏ တချို့သော အယူအဆတွေမှာ အစွဲအလမ်းတွေ တွယ်ငြိနေ မနေဆိုတာလည်း သေသေချာချာ ပြန်လည် စစ်ဆေးကြဖို့ လိုသည်။ အလားတူ တစ်ဖက်လူဘက်က လွဲမှားသော အယူအဆတွေ၊ တစ်ဖက်ကောင်းမှန် အမြင်တွေဟု မိမိ မှတ်ယူထားတာတွေသည်ကော တကယ်တမ်း အဲသည်လောက် ကောင်းသလား၊ ဆိုးသလား ဓမ္မဓိဋ္ဌာန်ကျကျ ပြန်လည် သုံးသပ်နိုင်ဖို့ လိုသည်။

ပြီး၊ လူဆိုသည်က မိမိ အလေးအနက်ထားချင်သည့် အရာတို့ [illegible] ဖြစ်နေဟု သတ်မှတ်ချင်တတ်ပြီး၊ တစ်ဖက်လူ အလေးထား ပြောဆိုသည့်အရာနှင့်

ပတ်သက်လျှင် အရေးမကြီးသော အရာတွေ အကျယ်ချဲ့ကာ ပြဿနာရှာနေသည်ဟုမြင်တတ်ကြသည်။ အဲသလို အမြင်နှင့် နားထောင်သည့်အခါ တစ်ဖက်လူတင်ပြသည့် အကြောင်းအချက်တွေ ကိုယ့်ခေါင်းထဲ မဝင်တော့။ တစ်ဖက်ကပြောသည့် ကိုးကြောင်းယုတ္တိနှင့် အထောက်အထားသာဓကများကို သေသေချာချာ နားထောင် စဉ်းစားမှသာ သူကတော့ ဒီကိစ္စကို ဘယ်လို ဘယ်လို မြင်နေတာပဲ။ ဘယ်အချက်ကတော့ အဲဒီလို မြင်မယ်ဆိုရင် မြင်သင့်တယ်၊ မြင်စရာဖြစ်နေတယ်၊ ဟိုဟာကတော့ မှားနေပြီ စသဖြင့် တစ်ဖက်လူ အနေအထားကို နီးစပ်မှန်ကန်စွာ အကဲဖြတ်နိုင်မည်။

အဲသည်အခါ နားလည်မှု တစ်စုံတစ်ရာ ရရှိနိုင်သည့် လမ်းစပေါ်ရောက်လာပြီ။

တစ်ခါတစ်ရံ အမြင်မတူသူနှင့် စကားပြောရင်းက မိမိ မစဉ်းစားမကြည့်မြင်ခဲ့သည့် ရှုထောင့်မှ ကြည့်မိလာတာ၊ မိမိ မသိရှိခဲ့သည့် အကြောင်းအချက်သစ်တွေ သိမြင်လာတာတွေကြောင့် ပြဿနာတစ်ရပ်နှင့် စပ်လျဉ်းသည့် မိမိအမြင် သဘောထားနှင့် ရပ်တည် လုပ်ဆောင်နေမှုတွေသည် နည်းနည်းဖြစ်စေ များများဖြစ်စေ တိမ်းစောင်းလွဲချော်နေတာ သတိပြုမိလာတာမျိုးရှိတတ်သည်။

သည်အခါမျိုးတွင် လူအတော်များများပင် အမှန်ကို မြင်လျက် လက်ခံရခက်သည့် အနေအထားမျိုး ကြုံရတတ်သည်။

တစ်ချက်က၊ စောစောက အစဉ်တစိုက် လုပ်ကိုင်ပြောဆိုလာတာတွေနှင့်မတူသော အရာကို ပြောင်းလဲ ပြောဆို လုပ်ကိုင်ဖို့ နှောင့်နှေးခြင်း ဖြစ်သည်။ နောက်တစ်ချက်က၊ စောစောက ပေါ်ပေါက်လာသည့် အမြင်သစ်ကို တခြားသောတစ်နေရာတွင် တခြားသူ တစ်စုံတစ်ယောက်ထံမှ ရရှိခဲ့သော် မထောင်းတာသော်လည်း မိမိနှင့် မတူသည့် တစ်ဖက်လူဟု မှတ်ထားသူထံမှ လာတာဖြစ်သည့်အခါ လက်ခံရမှာ ဝန်လေးခြင်း ဖြစ်သည်။

သို့သော်၊ မတူသူတွေ ညှိနှိုင်းကြသည့်အခါ သူလည်း အမြင်သစ်တွေရကာ သဘောထားအချို့ ပြောင်းလဲသွားသလို မိမိလည်း တချို့ အစိတ်အပိုင်းများမှာ တစ်ဖက်လူ၏ နေရာမှ နားလည် ရှုမြင်လိုက်ရတာတွေ ရှိလာပေမည်။

အရေးကြီးသည်က ကနဦး အစကပင် အယူအဆနှင့် ပတ်သက်၍သဘောထားကြီး စိတ်ထားရှိဖို့ ဖြစ်သည်။ သူတစ်ပါး အယူအဆကို လက်ခံတာ

သက်မခံတာ ခဏထား၊ တစ်ဖက်လူမှာလည်း သူ့အယူအဆနှင့်သူ ရှိနိုင်သည်ဆိုတာ သိမှတ်သည်းခံနိုင်ဖို့ လိုသည်။ အဲဒါဆိုလျှင် အယူအဆ တူမျှကြသည့် အနေအထားမရောက်သည့်တိုင် အမြင်မတူ၍ ရပ်တည်ချက် ကွဲလွဲခြင်းကြောင့် ဖြစ်သည့် ပဋိပက္ခများ လျော့ပါး ပျောက်ကွယ်နိုင်ပေသည်။

[ ၂၉ နိုဝင်ဘာ ၂၀၁၀ ]

# နိုင်ငံရေးသမားနှင့် ဦးနှောက်စွမ်းရည်

နိုင်ငံရေးဆိုသည်က ဦးနှောက်နှင့် နှလုံးသား တွဲဖက် လုပ်ဆောင်ရသော အရာမျိုး ဖြစ်သည်။

သဘောတရားတွေ နားလည်ဖို့ လိုသည်။ နောက်ခံ အကြောင်းခြင်းရာ တွေရော လက်ငင်း အခြေအနေ အရပ်ရပ်ကိုပါ ပြည့်ပြည့်စုံစုံ သိရှိဖို့ လိုသည်။

အဲသည် နားလည်သိရှိမှုကို အခြေခံကာ အမှန် အမှား တရား မတရား ပိုင်းခြား ဝေဖန်မှုများ ဖြစ်ပေါ်သည်။ ထိုမှ ဆက်ကာ နိုင်ငံရေး အမြင်၊ နိုင်ငံရေး ယုံကြည်မှုများ ဖြစ်ပေါ်သည်။

အဲသည် ယုံကြည်မှုပေါ်တွင် အခိုင်အမာ ရပ်တည်ရန်အတွက်မူ စိတ်ဓာတ် လိုပါသည်။ မှန်တာ တရားတာတွေ ဖြစ်စေလိုသော ဆန္ဒတွင် အခြေခံကာ အခက်အခဲ အတားအဆီး မှန်သမျှကို ရင်ဆိုင်ကျော်လွှားမည် ဟူသော ထက်သန်ပြင်းပြသည့် စိတ်ဓာတ်။

သည်စိတ်ဓာတ် မပါဘဲ မည်သည့် ယုံကြည်ချက်မျိုးကိုမျှ အကောင်အထည် ဖော်နိုင်မည် မဟုတ်ပါ။

ထို့ကြောင့် နိုင်ငံရေးဟူသည် အလိုဆန္ဒ၊ ခံစားချက် သို့မဟုတ် စိတ်ဓာတ်က ပေးသော စွမ်းအင်ဖြင့် လှုပ်ရှားမောင်းနှင်ရသော အရာမျိုး ဖြစ်သည်။ သို့သော် အဲသည် စွမ်းအင်ဖြင့် ဘာတွေ ဘယ်သို့ ဦးတည်ပြီး ဘယ်လို မောင်းနှင်မည်လဲ ဟူသည်က အသိဉာဏ်၏ အရာ ဖြစ်သည်။

နိုင်ငံရေး အသိဉာဏ်။

၂၀၀၇ ခုနှစ်က ထုတ်ဝေခဲ့သည့် သုတေသီ ဒရူးဝက်စတင်း၏ 'နိုင်ငံရေး ဦးနှောက်' အမည်ရှိ စာအုပ်တွင် နိုင်ငံရေးနယ်ပယ်၌ အောင်မြင်မှုရရှိမည့် ပုဂ္ဂိုလ်တစ်ယောက်တွင် ရှိအပ်သည့် ဉာဏ်ရည်ဉာဏ်သွေးများအကြောင်း ဆစ်ပိုင်း ဖော်ပြထားတာ တွေ့ရသည်။

သူက နိုင်ငံရေးဉာဏ်ရည် (political intelligence) ဟူသော စကားလုံးကို သုံးစွဲလိုက်ပြီး အဲသည်အောက်တွင် ဘယ်လို ဉာဏ်မျိုး၊ စိတ်ပိုင်းဆိုင်ရာ အရည်အသွေးမျိုးတွေ ပါဝင်ကြောင်း သုံးသပ် ပြောဆိုခဲ့သည်။

သည်အထဲတွင် အဓိကတစ်ခုက ယခုခေတ်၌ လူအများအပြား သုံးစွဲ ပြောဆိုလာနေသည့် စိတ်လှုပ်ရှားမှုဆိုင်ရာ ဉာဏ်ရည် (emotional intelligence) ဖြစ်သည်။ အရည်အချင်း ပြည့်ဝသော နိုင်ငံရေးသမားသည် အကင်းပါးသူဖြစ်ဖို့

လိုသည်။ တစ်ဖက်လူ(တို့)၏ စိတ်အနေအထားကို အလွယ်တကူ သတိပြုမိ နိုင်စားမိကာ အကောင်းဆုံး တုံ့ပြန် ဆက်ဆံတတ်သူ ဖြစ်ရမည်၊ ဖြစ်ဖို့လိုမည်။ ထို့အတွက် လိုအပ်ချက်တစ်ခုက မိမိ၏ စိတ်လှုပ်ရှားခံစားမှုများကိုလည်း ကောင်းစွာသာ လျင်မြန်စွာ ပြန်၍ သတိပြုမိတတ်ပြီး လိုအပ်သလို ထိန်းကျောင်းနိုင်မှု ရှိမ်းရည် ဖြစ်သည်။

ဥပမာ – တစ်ဖက်လူ၏ ကိုယ်အမူအရာ၊ နှုတ်အမူအရာကို ကြည့်ကာ ဒီလူ စိတ်ဆိုးနေတာပဲဟု သိခြင်းသည် လူတိုင်း အလိုလိုသိသည့် အခြေခံအဆင့် ဖြစ်သည်။ သူ့စကားနားထောင်ရင်း ဒီလူ ဟိုကိစ္စကို မကျေမနပ်ဖြစ်ပြီး ငါ့ကို ဒေါသနဲ့ လာပြောနေတာပဲဟု သဘောပေါက်ခြင်းသည် နောက်တစ်ဆင့် ဖြစ်သည်။ အဲဒါသည် သူတစ်ပါး၏ စိတ်လှုပ်ရှားခံစားမှုကို နားလည်သိရှိမှုအပိုင်း ဖြစ်သည်။ အဲသည်နောက်တွင်မှ မိမိအပိုင်း။ တစ်ဖက်လူကို ကြည့်ကာ ဒီကောင်က ဒီပုံစံမျိုး လာပြောရအောင် ငါ့ကို ဘာကောင် အောက်မေ့နေလို့လဲဟု သောင်းခနဲ ဒေါသထွက်ကာ သူ့လေသံမျိုးအတိုင်း တုံ့ပြန်မည်လား။ သြော်... သူ ဒီကိစ္စကို အမိပ္ပာယ်ကောက်လွဲပြီး မကျေမနပ်ဖြစ်လို့ ပြောနေတာပဲဟု (သူ့အမူအရာအပေါ် မခံစားဘဲ သူ့အမူအရာ ဖြစ်ပေါ်ရခြင်း အကြောင်းရင်းကို အာရုံပြု စဉ်းစားကာ) ကျိုးသင့်ကြောင်းသင့် ဖျောင်းဖျ ရှင်းလင်း ပြောဆိုမည်လား။

စိတ်လှုပ်ရှားမှု ဉာဏ်ရည်နည်းပါးသူသည် တစ်ဖက်လူ၏ စိတ်လှုပ်ရှားမှုကို မိမိ စိတ်လှုပ်ရှားမှုနှင့် တုံ့ပြန်သည်။ စိတ်လှုပ်ရှားမှု ဉာဏ်ရည်မြင့်မားသူကမူ တစ်ဖက်လူ၏ စိတ်လှုပ်ရှားမှုကို ထိန်းကျောင်းကွပ်ကဲရန်သာ အာရုံစိုက်သည်။ သည်နှစ်ခုအနက် ဘယ်ဟာက အကျိုးကျေးဇူး ရှိမည်၊ ဘယ်သူ အောင်မြင်မည် ဆိုတာ အထူးပြောဖို့ လိုမည် မထင်ပါ။

စိတ်လှုပ်ရှားမှုဆိုင်ရာ ဉာဏ်ရည်နှင့် နီးနီးကပ်ကပ် ဆက်စပ်နေတတ်သည့် စိတ်အနေအထားတစ်ခုက တစ်ဖက်လူ(တို့)နှင့် ထပ်တူ ခံစားတတ်မှု (empathy) ဖြစ်သည်။

တစ်ဖက်လူ၏ ခံစားချက်ကို ကောင်းစွာ သိကာ သည်အပေါ်တွင် ကနာစိတ်ဖြစ်ပေါ်လျှင် ၎င်းနှင့် တူညီစွာ ခံစားမိလိမ့်မည်။ တစ်နည်းပြောသော် စိတ်ချင်း ထပ်မိကြလိမ့်မည်။

တချို့က တစ်ဖက်လူ(တို့)၏ ခံစားချက်ကို သိပြီး၊ ယင်းခံစားချက်ကြောင့် ထွက်သည့် လှုပ်ရှားဆောင်ရွက်လိုမှု စွမ်းအင်ကို မိမိလိုရာဘက်သို့ ထိန်းကျောင်း ဆောင်းနိုင်ဖို့သာ ကြိုးစားတတ်သည်။ သို့သော် သူ့၌ တူညီသော ခံစားချက်မျိုး

မပါ၊ သည်အခါ၊ တို့အတူတကွပဲ ဆိုသော်လည်း စိတ်ချင်းက ကွာဟနေမည်။

အဲဒါကို ဖုံးကွယ်ထား၍ မရ။

ပုဂ္ဂိုလ်တစ်ယောက်သည် မိမိ(တို့)နှင့် စိတ်ချင်း တစ်ထပ်တည်း ကျမကျကို ဝရိသတ်တို့ အလျင်အမြန် ရိပ်မိတတ်စမြဲဖြစ်ရာ အများနှင့် စိတ်ချင်း ထပ်တူ မကျသော နိုင်ငံရေးသမားသည် ရေရှည် မအောင်မြင်နိုင်။

နိုင်ငံရေးသမားအတွက် အရေးကြီးသော အခြားစိတ်ပိုင်းဆိုင်ရာ အရည်အသွေးတစ်ရပ်က ကိုယ့်တာ ကိုယ်လုံခြင်း ဖြစ်သည်။

ကိုယ့်တာကိုယ်လုံသည်ဆိုတာက လိမ်ညာဖုံးကွယ်စရာတွေ မရှိခြင်း၊ မိမိပင်ကို အရှိအတိုင်း အများနှင့် ထိတွေ့ဆက်ဆံနိုင်ခြင်း ဖြစ်သည်။ မယုံကြည်တာကို ယုံကြည်သလို မပြော၊ နားမလည်တာကို နားလည်ချင်ယောင် မဆောင်၊ မှားလျှင် ဝန်ခံဖို့လည်း ဝန်မလေးသည့်အခါ အများအမြင်၌ တည်ငြိမ် ဣန္ဒြေရပြီး ယုံကြည်မှု ပြည့်ဝသော အသွင်ပေါ်လွင်သည်။ လူအများနှင့် စိတ်လက်ပေါ့ပါးစွာ ထိတွေ့ ပြောဆိုနိုင်ပြီး မေးလာသမျှ ဖြေကြားနိုင်သည်။ ဝေဖန်ထောက်ပြမှုများကိုလည်း ကျိုးကြောင်းသင့်စွာ ရှင်းလင်း ပြောဆိုနိုင်သည်။

တချို့ပုဂ္ဂိုလ်တွေမှာ ကိုယ့်ဘာသာ မလုံသည့်အပိုင်းတွေ တိတ်တိတ် ကျိတ်ပြီး ရှိနေတတ်သည်။ အဲဒါကို သွားထိလျှင် ကမူးရှူးထိုး ပရမ်းပတာ တုံ့ပြန်တာမျိုး၊ လိုအပ်သည်ထက်ပိုကာ အတင်း ကာကွယ်ဖုံးဖိခြာမျိုး လုပ်တတ်ကြသည်။ သည်ဟာမျိုးကို ဘေးလူ(ပရိသတ်)က ချက်ချင်း ရိပ်မိကာ အထင်အမြင် လျော့ပါးသွားတတ်သည်။

နိုင်ငံရေးသမားအတွက် အရေးကြီးသည့် နောက်ထပ် ဉာဏ်ရည်တစ်မျိုးက အပြောစွမ်းရည် သို့မဟုတ် ဘာသာစကားဆိုင်ရာ ဉာဏ်ရည် (verbal or linguistic intelligence) ဖြစ်သည်။ သည်ဉာဏ်ရည်နှင့် ရှေ့တွင် ဖော်ပြခဲ့သည့် စိတ်လှုပ်ရှားမှုဆိုင်ရာ ဉာဏ်ရည်တို့ကို တွဲဖက် အသုံးပြုနိုင်သော် စည်းရုံးရေး၊ ဆက်ဆံရေး၊ ပြဿနာ ဖြေရှင်းရေးများတွင် သူတစ်ပါးထက် ကျွမ်းကျင်လိမ္မာစွာ ဆောင်ရွက်နိုင်မည် ဖြစ်သည်။

နိုင်ငံရေးသမားသည် အလွှာပေါင်းစုံ လူပေါင်းစုံက ပြောလာသည့် စကားများနှင့် ၎င်းတို့ အနေအထားများကို အလွယ်တကူ နားလည် သဘော ပေါက်တတ်ဖို့ လိုသည်ဖြစ်ရာ၊ ပြဿနာ အဖြေရှာခြင်း၊ လျင်မြန်စွာ စဉ်းစား ဆုံးဖြတ်တတ်ခြင်း စသည့် အထွေထွေ ဉာဏ်ရည် (general intelligence) ပိုင်းတွင်လည်း ပြည့်ဝဖို့ လိုသည်။

နိုင်ငံရေးသမားသည် တစ်ယောက်တည်း အလုပ်လုပ်၍ မရ။ အများကို စည်းရုံး၍ လုပ်ရသည်။ ကိုယ့်အဖွဲ့အစည်းထဲမှာ စည်းရုံးရသည်။ ကိုယ့်အဖွဲ့အစည်းထဲက အစုအဖွဲ့များကို စည်းရုံးရသည်။ ပြင်ပက တစ်ဦးချင်းသူများကို စည်းရုံးရသည်။ ပြင်ပက အစုအဖွဲ့ကြီးငယ်များကိုလည်း စည်းရုံးရသည်။ သည့်တွင်လည်း၊ ကိစ္စတစ်ခုတစ်ရာအတွက် အခြားအစုအဖွဲ့များနှင့် ညှိနှိုင်းပေါင်းစည်းသည့်အခါ အဲသည် အစုအဖွဲ့ အသီးသီးထဲမှာ ဘယ်သူသည် ဘာဆိုတာ သိဖို့ လိုသည်။ ၎င်းတို့ အချင်းချင်းထဲက ဆက်ဆံရေး ပုံသဏ္ဌာန်များနှင့် ဩဇာ အနိမ့်အမြင့် အဆင့်ဆင့်တွေကို သဘောပေါက်ဖို့ လိုသည်။

အဲဒါမှသာ မိမိ ရည်ရွယ်သည့် အရေးကိစ္စ ပြီးမြောက်အောင် ဆောင်ရွက်ရန်အတွက် အင်အားများ စုစည်း ရရှိနိုင်မည်။

ပြန်ချုပ်သော်၊ အောင်မြင်သော နိုင်ငံရေးသမားဖြစ်ရန်အတွက် မိမိကိုယ်စားပြုသော ပရိသတ်နှင့် တစ်ထပ်တည်းကျသည့် စိတ်ဓာတ်ရှိဖို့ လိုသည်။ သည့်အပြင်၊ သည်စိတ်ဓာတ်စွမ်းအင်ဖြင့် အများ၏ လိုလားချက်များ ပြည့်မြောက်အောင် စည်းရုံးအကောင်အထည်ဖော်နိုင်ရန်အတွက် စိတ်လှုပ်ရှားမှုဆိုင်ရာ ဉာဏ်ရည်၊ ဘာသာစကားစွမ်းရည်နှင့် အထွေထွေ ဉာဏ်ရည် စသည့် နိုင်ငံရေးဦးနှောက်စွမ်းရည်များလည်း ပြည့်ဝဖို့ လိုသည် ဟုဆိုချင်ပါသည်။

[ ၁၃ ဒီဇင်ဘာ ၂၀၁၀ ]

# ရည်မှန်းချက်၏ မျက်နှာစာနှစ်ရပ်

ရည်မှန်းချက်တို့မည်သည် လူအား ဖွံ့ဖြိုးတိုးတက်စေမည့် လမ်းကြောင်းကိုလည်း ပြ၏။ ထိုလမ်းကြောင်းအတိုင်း လျှောက်လှမ်းရန်အတွက် ထက်သန်သော စိတ်နှင့်အားအင်တို့ကိုလည်း ပေး၏။

ထို့ကြောင့် ရည်မှန်းချက်သည် မိမိဘဝကို တန်ဖိုးထားသော လူသားတိုင်း အတွက် မရှိမဖြစ် အရေးပါသောအရာ ဖြစ်၏။

ရည်မှန်းချက် မရှိဘဲ လူတစ်ယောက် ထိပ်တန်း မရောက်နိုင်။

ရည်မှန်းချက် မရှိဘဲ ဂုဏ်သိက္ခာ ပြည့်ဝသော ဘဝတစ်ခု မတည်ဆောက်နိုင်။

ရည်မှန်းချက် ကင်းမဲ့သူ၊ ငါ ဒီနေ့ ဘာလုပ်မည် ဒီနှစ် ဘာလုပ်မည် ဒီဘဝမှာ ငါဘာဖြစ်ရမည်ဟု စဉ်းစားကြံရွယ်ထားခြင်း မရှိသူသည် ဦးတည်ရာမဲ့ ကြုံရာကျရာ မျောပါကာ နောက်ဆုံး၌ ပတ်ဝန်းကျင် စီမံသမျှ ခံရသော ဘဝသို့ ကျရောက်မြဲ ဖြစ်သည်။

လောက၌ ကြီးကျယ် ထင်ရှားသော ပုဂ္ဂိုလ်တိုင်းပင် မိမိရည်မှန်းသော တစ်စုံတစ်ရာကို ထက်သန်စွဲမြဲစွာ ဆောင်ရွက်ခဲ့ကြသူများချည်း ဖြစ်သည်။

ပညာကို လိုသဖြင့် ဆော့ခရတီး(စ)၊ ကွန်ဖျူးရှပ်(စ)တို့ ပညာရှိ ဖြစ်ကြသည်။

ဥစ္စာရှာသဖြင့် ဘီလ်ဂိတ်(စ)၊ ဝါရင်ဘပ်ဖက်တို့ မဟာသူကြွယ်များ ဖြစ်ကြသည်။

အနုပညာခွဲ ကြီးသဖြင့် လီယိုနာဒိုဒါဗင်ချီ၊ မိုက်ကယ်အိန်ဂျယ်လိုတို့ ပါရမီရှင်ကြီးများ ဖြစ်ကြသည်။

မင်းစိုးရာဇာ ဖြစ်ကြသူများထဲမှာကော၊

ရှင်ဘုရင့်သား ဖြစ်၍ အရိုက်အရာ ဆက်ခံရသူများက တစ်ကဏ္ဍဖြစ်သည်။ ကိုယ့်စွမ်းကိုယ့်အားဖြင့် ထီးနန်းရရှိသူတွေ၊ မိဘပေးသည့် ထီးငယ်နန်းငယ်ကို အင်ပိုင်ယာနိုင်ငံတော်ဖြစ်အောင် ချဲ့ထွင် တည်ဆောက်ကြသူတွေကတော့ မင်းစိတ်စိုးစိတ် ကြီးမားကြသူတွေချည်း ဖြစ်သည်။

မြန်မာတွင် 'ကြောက်လွဲ ရဲမင်းဖြစ်' ဟူသောစကား ရှိသည်။ 'သေမြေကြီး ရှင်ရွှေထီး' ဆိုသောစကားလည်း ရှိသည်။

သည်စကားတွေက ဟုတ်သလောက် ဟုတ်သည်။ စဉ်းစားစရာတွေ တော့လည်း ရှိသည်။ ရည်မှန်းချက်နှင့် စပ်လျဉ်း၍ စဉ်းစားချင့်ချိန်စရာ။

ဘာကြောင့်လဲ။

အထက်က စကားတွေမှာ ရည်မှန်းချက်သို့ရောက်အောင် တွန်းပို့မောင်းနှင် ...သော သဘော ပါရှိနေတာ အထူးပြောစရာ မလိုပါ။ သို့သော် ရည်မှန်းချက် ...အောင်မြင်ဖို့အတွက် အားထုတ်စေရုံ သက်သက် မဟုတ်၊ စွန့်စားခိုင်းသော ...သဘောပါ ပါဝင်နေသည်။

အန္တရာယ် နယ်ပယ်သို့ တွန်းပို့သော သဘော။

အဲသည် နယ်ပယ်ထဲမှာ မိမိအတွက်လည်း အန္တရာယ်ရှိသည်၊ သူတစ်ပါးလည်း ...ကြောင့် အန္တရာယ် ဖြစ်နိုင်ပြီ။

ရည်မှန်းချက်၏ သဘာဝတစ်ခုက အတိုင်းအတာတစ်ခု အောင်မြင်လျှင် ...ထက်ပို၍ တစ်ဆင့်ပြီးတစ်ဆင့် မြင့်မားစွာ ရည်မှန်းလာ တတ်ခြင်း ...သည်။

တစ်နည်းဆိုသော်၊ မတင်းတိမ်တတ်သော သဘော။

စင်စစ်၊ ကြီးကြီးကျယ်ကျယ် ဖြစ်ခဲ့သော ပုဂ္ဂိုလ် အများအပြားပင် ...ည်မှန်းချက်တွေ ပိုပိုကဲကဲ ရှိနေတတ်ကြပါသည်။

သူများတွေက သူအောင်မြင်လှပြီဟု ထင်နေသည့်အချိန် သူကိုယ်တိုင် ...တော့ သူ့ထက် ကြီးကျယ်အောင်မြင်ခဲ့သူများနှင့် နှိုင်းယှဉ်ကာ ငါ့အောင်မြင်မှု ...သေးသည်ဟု ထင်နေတတ်တာမျိုး ဖြစ်သည်။

တစ်ခါက အင်္ဂလိပ် နိုင်ငံရေးလောကတွင် အရေးပါသော ပုဂ္ဂိုလ်တစ်စု ...ကြသည့် စကားဝိုင်းတစ်ခု၌ တစ်ယောက်က၊ ခင်ဗျားတို့တွေ တစ်နေ့သော ...ါ ဒီနေရာလောက်အထိ ရောက်လာလိမ့်မယ်လို့ မျှော်လင့်ခဲ့ကြဖူးသလားဗျ ...မေးသည်။ အဲသည်ခါ အားလုံးက မမျှော်လင့်ကြောင်း ဖြေကြသည်။ ...သော် ထိုစဉ်က အသက် ၃၅ နှစ်ခန့်ရှိပြီး၊ ပြည်ထဲရေးဝန်ကြီးအဖြစ် တာဝန် ...ထမ်းဆောင်ခွင့်ရနေသည့် ချာချီကတော့၊ 'မျှော်လင့်တာပေါ့ဗျ၊ နပိုလီယန် ...ရင် ကျွန်တော့်အသက်လောက်မှာ အောစတားလစ် စစ်ပွဲတောင် နိုင်နေပြီ' ...ဖြေခဲ့သည်။

သူ ဝန်ကြီးအဆင့်လောက် ရောက်ချိန်မှာ နပိုလီယန်က ဝန်ကြီးထက် ...မတန် မြင့်သော ဧကရာဇ်အဖြစ် ၎င်း၏ အထွတ်အထိပ် အောင်မြင်မှုကို ...နေပြီ ဟူသောသဘော။

သူ့ကိုယ်သူ နပိုလီယန်နှင့် နှိုင်းယှဉ်စဉ်းစားခဲ့သော ချာချီသည် သူ... ...လီယန်လောက် အကောင်ဒြပ် မကြီးမားသော်လည်း ၂၀ ရာစု...

သို့မဟုတ် လွန်ခဲ့သော နှစ်ပေါင်း ၆၀ ဝန်းကျင်ကမှု ကမ္ဘာတွင် အထင်ရှား **အရေးပါဆုံး** ပုဂ္ဂိုလ်ကြီးတစ်ဦး ဖြစ်ခဲ့သည်။

**နောက်တစ်ယောက်** ပြချင်သေးသည်။

**သမိုင်းသဘောအရ** ချာချီကို အသာထား၍၊ နပိုလီယန်ထက်ပင် ကြီးကျယ် ခဲ့သည် ဆိုရမည့် ရောမခေါင်းဆောင် ဂျူးလိယက်ဆီဇာ ဖြစ်ပါသည်။

**ရောမ** အင်ပိုင်ယာကို ချဲ့ထွင်တည်ဆောက်နေဆဲကာလ စပိန်စစ် **တာဝ်နေရာမှာ** အလက်ဇန္ဒား-သ-ဂရိတ် အတ္ထုပ္ပတ္တိဖတ်ပြီး ဆီဇာ မျက်ရည် **ဆောည်နိုင်** ဖြစ်သည်။ သူ့မိတ်ဆွေ တပ်မှူးစစ်ကဲတွေက ဘာအတွက်မျာ **သည်လောက်တောင်** ဝမ်းနည်းပက်လက် ဖြစ်ရပါလိမ့်ဟု အံ့အားသင့်ရှ **မေးမြန်းသည့်အခါ၊** 'ကျွန်တော့်အသက်အရွယ်မှာ အလက်ဇန္ဒားက တိုင်းပြည် ပေါင်း မြောက်မြားစွာ အောင်နိုင်ခဲ့ပြီးပြီ၊ ကျွန်တော်က ခုချိန်ထိ အသိအမှတ် ပြုလောက်စရာ ဘာတစ်ခုမှ မလုပ်နိုင်ခဲ့သေးဘူး၊ အဲဒါကိုမှ ငိုလောက်စရာ ခင်ဗျားတို့က မယူဆကြဘူးလား' ဟု ဆီဇာက ပြန်လည် ပြောဆိုခဲ့ကြောင်း အတ္ထုပ္ပတ္တိဆရာ ပလူးတာ့ခ်က မှတ်တမ်းတင်ခဲ့သည်။

စင်စစ်၊ သူပြိုင်ဆိုင်ခဲ့သည့် အလက်ဇန္ဒားက တိုတောင်းသော ကာလ အတွင်း အဲသည်ခေတ် ဥရောပသားများ သိထားသမျှ ကမ္ဘာ၏ တစ်ခြမ်းလော အထိ သိမ်းပိုက်နိုင်ခဲ့တာ မှန်သော်လည်း လွန်ကဲ ကြီးကျယ်သော ရည်မှန်းချက် အတွက် ကိုယ်ရောစိတ်ပါ ပေးဆပ်ရသည့် ဒဏ်ကြောင့် အသက် ၃၃ နှ အရွယ်မှာပင် ကွယ်လွန်ခဲ့ရသူ ဖြစ်သည်။

သို့သော်၊ ရည်မှန်းချက် အရှိန်တက်နေစဉ် ကာလမှာ ချာချီက နပိုလီယ အောင်မြင်တာသာ စဉ်းစားကာ၊ နောက်ပိုင်း၌ အကြီးအကျယ် အကျနာခဲ့တာ မသိကျိုးကျွံ ပြုထားသကဲ့သို့၊ ဆီဇာကလည်း အလက်ဇန္ဒား၏ အင်ပိုင်ယာကိုသ အားကျပြီး၊ သူ့ဘဝ တိုတောင်းခဲ့တာကိုတော့ မေ့လျော့ထားခဲ့သည်။

တစ်ဖက်တွင် တစ်စုံတစ်ယောက်၏ ကြီးကျယ်သော ပုဂ္ဂိုလ်ရေ ရည်မှန်းချက်က အခြားသူများအတွက် စိုးရိမ်ပူပန်စရာ ဖြစ်လာတတ်သော သဘောမျိုးလည်း ရှိတတ်ပါသည်။ သည်အခါတွင်၊ ရည်မှန်းချက် ကြီးခြင် ကိုပင် ပြစ်မှုတစ်ရပ်သဖွယ် ရှုမြင်ကာ နည်းမျိုးစုံဖြင့် တားဆီးရန် ကြိုးပမ်းမှုမျာ ပေါ်ပေါက်လာတတ်သည်။

သာဓကက၊ အထက်က ပြောခဲ့သည့် ဂျူးလိယက်ဆီဇာပင် ဖြစ်သည်။

ဆီဇာသည် ရောမသားတို့ လေးစားကြည်ညိုရသည့် စစ်ခေါင်းဆော

နိုင်ငံရေး ခေါင်းဆောင်တစ်ဦး ဖြစ်သည်။ သို့သော် အောင်ပွဲ အလီလီရကာ၊ ...င်းအတွက် ချီးမြှောက်မှုတွေ ခံယူလာရသည့်အခါ ရည်မှန်းချက်ကြီးလာသည်။ ...တ်ဘာလစ်နိုင်ငံဖြစ်သော ရောမကို ဘုရင်တစ်ပါးသဖွယ် အုပ်စိုးလာသည်။ ...သည်အခါ သူတစ်ဦးတည်း အာဏာစိုးမိုးမှုကို မလိုလားသည့်၊ သို့မဟုတ် ...သူ တစ်ဦးတည်း အာဏာပိုင်စိုးသောစနစ် ဖြစ်ပေါ်လာမှာကို မလိုလားသည့် ...လွှတ်တော်မှ ကတ်စီယတ်(စ)၊ ဘရုတပ်(စ) စသည့် ပုဂ္ဂိုလ်များက ...နိုင်ငံပြည်ကို ကယ်တင်ရန် ဟူသော ရည်ရွယ်ချက်ဖြင့် သူ့အား ဝိုင်းဝန်း ...ပ်ကြကြသည်။

သို့သော်၊ ရည်မှန်းချက် ကြီးသည်ဟု ၎င်းတို့ စွပ်စွဲခဲ့သော ဆီဇာကို ...ရှားလိုသည့် ၎င်းတို့၏ ရည်မှန်းချက်သည်လည်း ထိန်းကွပ်ဆင်ခြင်မှု ...ပါခဲ့ကြောင်း ဆီဇာကို ဖယ်ရှားရာ၌ ၎င်းတို့ အသုံးပြုခဲ့သည့် အကြမ်းဖက် ...နည်းလမ်းက ပြသခဲ့သည်။ နောက်ဆုံး၌ ပြည်တွင်းစစ်ဖြစ်ပြီး ၎င်းတို့ ...ရေးနိမ့်ကာ နှစ်ဦးလုံးပင် မိမိတို့ဘာသာ အဆုံးစီရင်သွားခဲ့ကြသည်။

အထိန်းအကွပ်မဲ့သော ရည်မှန်းချက်အောက်တွင် မိမိကိုယ်တိုင်ရော ...တ်ဝန်းကျင်ကိုပါ ပျက်စီးဆုံးရှုံးစေခဲ့သူတွေ အမြောက်အမြားပင် ရှိပါသည်။

သေမြေကြီး ရှင်ရွှေထီး ဆိုသော်လည်း ရွှေထီးက တစ်လက်တည်းရှိကာ ...ကြီးတွေက များလှသည် မဟုတ်လား။

ရှိတ်စပီးယား၏ မက္ကဘက်(သ)ပြဇာတ်တွင် စကော့တလန်ပြည်က ...ရွှေထီးတစ်လက်အတွက် ကျခဲ့ရသည့် သွေးစက်ပေါင်းများစွာကို သံဝေဂယူဖွယ် ...ရေးသားထားသည်။ သမိုင်းကို အခြေခံ၍ရေးသည့် ၎င်းပြဇာတ်ထဲက အဓိက ...တ်ဆောင် မက္ကဘက်(သ)သည် စကော့ စစ်သူရဲကောင်းတစ်ဦး ဖြစ်၍၊ ...နိုင်ငံပြည်ကို ကာကွယ်သော စစ်ပွဲတွင် ဂုဏ်ရောင်ပြောင်စွာ ဆင်နွှဲခဲ့သည်။ ...သို့သော် အောင်ပွဲခံပြီး ပြန်အလာ လမ်းတွင် ရှေ့ဖြစ်ဟောသော စုန်းမကြီး ...သုံးယောက်က သူ့အား ရှင်ဘုရင် ဖြစ်မည်ဟု ဟောကိန်းထုတ်လိုက်သည်။ ...ခဲ့သည်က စတင်ကာ သူ့ခေါင်းထဲ ရာဇပလ္လင် ပိုးဝင်ခဲ့သည်။ သို့နှင့် ...သူ့နည်းတူ ရည်မှန်းချက်ပိုး ကူးစက်ခံခဲ့ရသည့် ဇနီးဖြစ်သူ လေဒီမက္ကဘက်(သ)၏ ...တိုက်တွန်းအားပေးမှုဖြင့် ဘုရင်ဒန်ကင်ကို သတ်ကာ ထီးနန်းကို ရယူသည်။ ...ထို့နောက်တွင် ထီးနန်းကို ကာကွယ်ရန်အတွက် သတ်ဖြတ်မှုတွေ ဆက်တိုက် ...ကျူးလွန်ရသည်။ သွေးစွန်းသော လက်ကို မည်မျှပင် စင်အောင်ဆေးဆေး ...စိတ်အစွန်းအထင်း ပြယ်ပျောက်ခြင်း မရှိသည့်အခါ ဂယောက်ဂယက်များ

ဖြစ်လာပြီး လေဒီမက္ကဘက်(သ) အဆုံးစီရင်သွားသည်။ မက္ကဘက်(သ
ကိုယ်တိုင်လည်း မယုံသင်္ကာစိတ်တွေ လွန်ကဲကာ လုံခြုံစိတ် ကင်းမဲ့လာပြီး
နောက်ဆုံး၌ သူ၏ လွဲမှားသော လုပ်ရပ်များကြောင့် ရန်သူဖြစ်ခဲ့ရသူ
သတ်သင်သတ်ဖြတ် ခံရခြင်းဖြင့် နိဂုံးချုပ်ခဲ့သည်။

ရည်မှန်းချက် ဟူသည် ကြောင်းကျိုးဆင်ခြင်မှုနှင့်ယှဉ်၍ ရှိသည့်အခါ
ရလဒ်ကောင်း ထွက်ပေါ်သည်။ ကိုယ်တိုင်အတွက် ကျက်သရေ မင်္ဂလ
ရှိသလို၊ ပတ်ဝန်းကျင်အတွက်လည်း ကောင်းကျိုး ဖြစ်စေသည်။ ကြောင်းကျိ
မှန်မှား ချင့်ချိန်စဉ်းစားမှုများနှင့် ကင်းလွတ်သွားသည့် အထိန်းအကွပ်မဲ့သော
ရည်မှန်းချက်ကား ကာယကံရှင်ရော ပတ်ဝန်းကျင်ကိုပါ ကြီးမားသော ဆိုးကျိ
ပေါ်ပေါက်စေနိုင်သည် ဟုဆိုချင်ပါသည်။

[ ၂၂ ဒီဇင်ဘာ ၂၀၁၀

# အများပြည်သူ ပါဝင်သော နိုင်ငံရေး

အခါ လွှတ်တော်နိုင်ငံရေးဟူသော စကားတစ်ခွန်းကို ပြောဆိုလာကြတာ ကြားသိနေရသည်။

ပြီးခဲ့သည့် ရွေးကောက်ပွဲတွင် တင်မြှောက်ခံရသည့် နိုင်ငံရေးပါတီ သီးသီးမှ ကိုယ်စားလှယ်လောင်းများနှင့် တစ်သီးပုဂ္ဂလများ လွှတ်တော်များသို့ ရောက်ရှိသည့်အခါ လုပ်ဆောင်ကြမည့် နိုင်ငံရေးပုံသဏ္ဍာန်နှင့် နိုင်ငံရေး ကြောင်းအရာများ အကြောင်း ပြောဆိုကြခြင်း ဖြစ်သည်။

ပါတီအချို့မှ ပုဂ္ဂိုလ်များက လွှတ်တော်တွင် လိုအပ်သော ဥပဒေသစ်များ ပြုမည်၊ မလိုအပ်သော ဥပဒေများ ရုပ်သိမ်းရန် တင်ပြမည်၊ ပြင်ဆင်စရာ ရှိသည်များကို ပြင်ဆင်ဖို့ တောင်းဆိုမည် စသဖြင့် ပြောဆိုကြတာ ရှိသည်။

ဥပဒေများအကြောင်း ပြောသည့်အခါ ယင်းဥပဒေတို့ ဖန်တီးဖြစ်ပေါ်စေသည့် ပြဿနာများ၊ အကြောင်းကိစ္စများနှင့် ယင်းဥပဒေတို့ သက်ရောက်ရာ နယ်ပယ်များ အကြောင်း ဆွေးနွေးကြ၊ ဝေဖန်ကြ၊ ငြင်းခုံကြတာတွေ လာလိမ့်မည်။

လွှတ်တော်တွင်း ဆွေးနွေးဝေဖန်မှုတို့သည် မည်သို့သော ပုံသဏ္ဍာန်နှင့် ပေါ် မည်ကို ကောင်းစွာ မမြင်နိုင်ကြသေးသော်လည်း၊ ဆွေးနွေးမည်ဆိုလျှင် နွေးရမည့် အကြောင်းအရာ နယ်ပယ် ကျယ်ဝန်းလှသည်ကို လည်းကောင်း၊ င်းအထဲတွင် အငြင်းပွားစရာ ပြဿနာ အများအပြား ရှိနေနိုင်သည်ကို ည်းကောင်း အလွယ်တကူ ချင့်တွက်မိကြမည် ဖြစ်သည်။

စင်စစ် နိုင်ငံ့အရေးအရာ အားလုံးကိုပင် ထုတ်ဖော် ဆွေးနွေးကြရမည့်သဘော ဖြစ်သည်။

သည်အထဲတွင်၊ တစ်နိုင်ငံလုံးဆိုင်ရာ ကိစ္စကြီးတွေ ပါမည်၊ ဒေသန္တရဆိုင်ရာ ကိစ္စရပ်တွေ ပါမည်။

ကဏ္ဍနယ်ပယ်စုံသို့ သက်ရောက်မည့် ပြဿနာတွေ ပါမည်၊ ကဏ္ဍ တစ်ခုချင်းထဲက ပြဿနာတွေ ပါမည်။

အမည်နာမ တိတိကျကျ ဖော်ပြ၍ပြောလျှင်၊ ဆွေးနွေးကြမည့် အကြောင်းအရာ ရင်းဇယားက ရှည်လျားလှမည် ဖြစ်သည်။

ဥပမာအားဖြင့် နိုင်ငံရေး နယ်ပယ်တွင်၊

အများပြည်သူတို့အနေနှင့် အခြေခံဥပဒေပါ ရပိုင်ခွင့်များ ထုတ်ဖော်

ကျင့်သုံး ခံစားခွင့် ရရှိရေးနှင့် ယင်းအား ကာကွယ်စောင့်ရှောက်မှုများ ပီပြင်စွာ တည်ရှိရေးသည် လူအများ စိတ်အဝင်စားဆုံး အကြောင်းရပ်တစ်ခု ဖြစ်လိမ့်မည်။

သည်ကဏ္ဍတွင် ပြည်သူ့ကိုယ်စားလှယ်တို့ မည်မျှ စွမ်းဆောင်နိုင်ကြမည်လဲ။

လူမျိုးရေး လူနည်းစုများဟု ခေါ်ဆိုလေ့ရှိကြသည့် တိုင်းရင်းသားလူမျိုးများ တန်းတူညီမျှခွင့် ရရှိရေးဟူသည်လည်း အရေးပါသော အကြောင်းရပ်တစ်ခု ဖြစ်သည်။ တန်းတူညီမျှခြင်းဟူသည် အဘယ်နည်း။ ဘယ်ဟာတွေသည် တန်းတူညီမျှမှု မရှိကြောင်း ပြသည့် လက္ခဏာများဖြစ်၍၊ ဘယ်အနေအထားများ ကတော့ တန်းတူညီမျှရှိမှုကို ထင်ရှားစေသည့် သာဓကများဖြစ်သည်၊ ညီမျှသော ထိုအနေအထားမျိုးများ ထွန်းကား တည်တံ့အောင် မည်သို့ လုပ်ဆောင်ရမည်စသည်တို့ကား အလေးအနက် ဆွေးနွေးရမည့် အရာများ ဖြစ်သည်။

နိုင်ငံရေးနယ်ပယ်မှ အကြီးကျယ်ဆုံး ကိစ္စတစ်ရပ်မှာ အာဏာခွဲဝေမှုနှင့် ပတ်သက် လိမ့်မည်။ ဗဟိုနှင့် ဒေသန္တရကြား အာဏာ လက်တွေ့ ခွဲဝေသုံးစွဲသည့် ကိစ္စများ၊ သမ္မတ၊ အစိုးရနှင့် လွှတ်တော်အကြား အာဏာခွဲဝေသည့် ကိစ္စများသည် နိုင်ငံရေး ရာထူးရရှိသူများ၊ နိုင်ငံရေးသမားနှင့် နိုင်ငံရေး ခွဲခြမ်းစိတ်ဖြာ သုံးသပ်သူများ အကြား ဆွေးနွေးဝေဖန်စရာ အကြောင်းရပ်များစွာ ပေါ်ထွက်လာစေမည် ဖြစ်သည်။

လူမှုစီးပွားနယ်ပယ်တွင်၊

နိုင်ငံဖွံ့ဖြိုးတိုးတက်ကာ ပြည်သူလူထု စားဝတ်နေမှု ဖူလုံရေး၊ လုပ်သားများ အနေနှင့် ကုန်ကျစရိတ်နှင့် လျော်ညီသော လုပ်ခလစာများရရှိရေး၊ လူငယ်များ အလုပ်အကိုင် ရရှိရေးနှင့် ဘဝအဆင့် တိုးမြင့်အောင် ဆောင်ရွက်နိုင်မည့် အခွင့်အလမ်းများ ဖန်တီးပေးရေး၊ လယ်ယာကျေးလက် ဖွံ့ဖြိုးတိုးတက်ရေး၊ အလုပ်သမား လယ်သမားများ အနေနှင့် မိမိတို့၏ အသက်မွေးဝမ်းကျောင်း လုပ်ငန်းများကို အားပေးမြှင့်တင်ရန်နှင့် ကာကွယ်စောင့်ရှောက်ရန် အသင်းအဖွဲ့ များ ဖွဲ့စည်းထူထောင်ရေး၊ စတာတွေ ရှိသလို၊

တိုင်းပြည်၌ သယံဇာတ သဘာဝရင်းမြစ်ကရသည့် မနဥစ္စာကို တစ်နိုင်ငံလုံး အတွက် ခြုံငုံသုံးစွဲသည့် တစ်ချိန်တည်းတွင်၊ ရင်းမြစ်ထွက်ရှိသည့် သက်ဆိုင်ရာ နယ်ပယ်ဒေသ တစ်ခုချင်းအတွက် အထူး ခံစားခွင့်များ မည်မျှပေးသင့်သည် မပေးသင့်သည်၊

နိုင်ငံတော်၏ တစ်နှစ်စာ ဘဏ္ဍာငွေကို ခွဲဝေသုံးစွဲရာ၌ မည်သည့်ကဏ္ဍ တွင် မည်မျှသုံးစွဲမည်၊ အဘယ်ကြောင့် ထိုမျှ သုံးစွဲသင့်သည်၊ လောလောဆယ်

ကမ္ဘာက နည်း၍ ဘယ်ကမ္ဘာတွင် လိုတာထက် ပိုနေသည်၊ အဲဒါတို့ ညီညွတ် မျှတအောင် ဘယ်သို့ လုပ်ရမည်၊

တစ်ဖန်၊ တိုင်းပြည်၌ နယ်ပယ် ဒေသအချင်းချင်းကြား တစ်နေရာရာ သိသိသာသာ ဖွံ့ဖြိုးတိုးတက်၍ တစ်နေရာက သိသိသာသာ ဆုတ်ယုတ် နောက်ကျနေတာမျိုး မဖြစ်ရအောင်၊ ... အလားတူ၊ တိုင်းပြည်၌ အချို့သော လူများက အလွန်အကျွံ ချမ်းသာ ကြွယ်ဝပြီး လူအများအပြားက အလွန်အခြေခံ ဆင်းရဲနွမ်းပါးနေတာမျိုး မဖြစ်ရအောင်၊ စသည်တို့အတွက် မည်သို့ ဆောင်ရွက်မည်၊

စတာတွေလည်း စဉ်းစားဝေဖန်ဖို့ လိုသည်။

သည့်အပြင်၊ စီးပွားဖွံ့ဖြိုးမှုအတွက် အဟန့်အတား ဖြစ်စေသည့်၊

စီးပွားရေးနယ်ပယ်အတွင်း အကျိုးအမြတ်တို့ကို ကုန်ပစ္စည်းထုတ်လုပ် ဆောင်ချခြင်း ဝန်ဆောင်မှုပြုခြင်းတို့မှ မဟုတ်ဘဲ၊ အခွင့်အာဏာကို အလွဲသုံးစား ပြုသော နည်းဖြင့် ရယူခံစားမှု၊ လာဘ်ပေးလာဘ်ယူမှုနှင့် အဂတိလိုက်စားမှုများ ဆင်းစင်အောင် ဆောင်ရွက်ရေး၊

စီးပွားရေးဆိုင်ရာ ကဏ္ဍနယ်ပယ်တစ်ခုတွင် လူတစ်ဦးတည်း သို့မဟုတ် လူတစ်စု တည်းက လက်ဝါးကြီးအုပ် လုပ်ကိုင်ခွင့်ရရှိကာ၊ ယင်းကြောင့် ကုန်ပစ္စည်း သို့မဟုတ် ဝန်ဆောင်မှုများ ညံ့ဖျင်းခြင်း၊ ပြည်သူလူထုက တခြားမှ ရစရာမရှိသဖြင့် ၎င်းတို့ထံမှ ၎င်းတို့ သတ်မှတ်သည့် မြင့်မားသော ဈေးနှုန်းများ၊ မျှတသော စည်းကမ်းချက်များဖြင့် ဝယ်ယူသုံးစွဲရခြင်းများ မကြုံတွေ့ရအောင် တားဆီး ကာကွယ်ရေး၊ စတာတွေလည်း စဉ်းစားဝေဖန်ကြရလိမ့်မည်။

ထို့ပြင်၊ ပညာရေးနှင့် စပ်လျဉ်း၍၊

သိပ္ပံနှင့် နည်းပညာရပ်များ၊ အထူးသဖြင့် သတင်းအချက်အလက်နှင့် ဆက်သွယ်ရေး ဆိုင်ရာ နည်းပညာများ အထူးတိုးတက်လာပြီး စီးပွားရေးတွင်သည်း ပညာရည်ပေါ်တွင် မူတည်သည့် သိမှုစီးပွားရေး (knowledge economy) ဆီသို့ ရောက်ရှိလာသည့် ကာလတွင်၊ တိုင်းပြည်၌ အခြေခံပညာကို လုပ်ကိုင်းတတ်မြောက်၍၊ အဆင့်မြင့်ပညာ နည်းပညာတို့ တတ်မြောက်သူများလည်း တိုးတက်များပြားလာစေရန်၊ တစ်နည်းအားဖြင့် တိုင်းပြည်ရှိ လူအရင်းအမြစ်တို့ အရည်အသွေး မြင့်မားလာစေရန် မည်သို့ ဆောင်ရွက် ကြမည်၊

အလားတူ၊ အဆိုပါ လူအရင်းအမြစ်တို့ ကျန်းမာသန်စွမ်းရေးနှင့် စပ်လျဉ်း၍၊

တလေးသူငယ် အသေအပျောက်နှုန်း လျော့ပါးရေး၊ ငှက်ဖျား၊ တီဘီ၊ အိပ်(ချ်)အိုင်ဗွီ၊ အေအိုင်ဒီအက်(စ်) စသည့် ရောဂါကြီးများ ဖြစ်ပွားနှုန်း လျော့ကျရေး၊ ကျန်းမာရေး စောင့်ရှောက်မှု လုပ်ငန်းများတွင် အရည်အသွေးရော အတိုင်းအတာ ပမာဏပါ တိုးမြင့်လာစေရေး၊ ဆေးပညာ၊ ဆေးဝါးကုသမှု၊ ဆေးရုံဆေးခန်းနှင့် ဆေးပစ္စည်းကိရိယာတို့ ခေတ်မီတိုးတက်ရေး၊ စသည်တို့ အတွက် မည်သို့ စီမံဆောင်ရွက်မည်၊

ထို့ပြင်၊ လူမှုရေးနယ်ပယ်တွင် ရပ်ရွာ လူမှုအဖွဲ့အစည်းတို့ ကဏ္ဍပေါင်းစုံ၌ ထွန်းကားပေါ်ပေါက်ကာ၊ နိုင်ငံသားအချင်းချင်း တစ်ဦးကိုတစ်ဦး ကူညီပံ့ပိုးပေး သကဲ့သို့၊ နိုင်ငံတည်ဆောက်ရေး ဖွံ့ဖြိုးတိုးတက်ရေးတွင် လူအား ဉာဏ်အား အပြည့်အဝ ပါဝင် ဆောင်ရွက်လာနိုင်ရေးအတွက် မည်သို့မည်ပုံ ဆောင်ရွက်မည်၊ စသည်များကိုလည်း အလေးအနက် စဉ်းစားသုံးသပ်ကြရမည် ဖြစ်သည်။

တစ်ဖက်တွင်၊

လွှတ်တော်တွင်း ဆွေးနွေးမည့် နိုင်ငံရေးသမားသည် သက်ဆိုင်ရာ အကြောင်းရပ် အသီးသီး၊ ပြဿနာ အသီးသီးတို့အတွက် သက်ဆိုင်ရာ ပြည်သူ လူထု အစိတ်အပိုင်းများနှင့် လည်းကောင်း၊ ကျွမ်းကျင်သူ ပညာရှင်များနှင့် လည်းကောင်း၊ စိတ်ဝင်စားသော လူစုများနှင့်လည်းကောင်း ထိတွေ့ကာ သဘောထားအမြင်များ မှတ်သားနားထောင်ခြင်း၊ အကြံဉာဏ်ရယူခြင်း ပြန်လှန်ဆွေးနွေးခြင်းများ ပြုလုပ်ရဦးမည်ဖြစ်ရာ၊ လွှတ်တော်တွင်း နိုင်ငံရေး ဆွေးနွေးမှုသည် လွှတ်တော်ပြင်ပ နိုင်ငံတစ်လွှားရှိ အလွှာစုံ လူမျိုးစုံတို့သို့ ပြန့်နှံ့သွားလိမ့်မည်။

တစ်ဖန်၊ အများပြည်သူကြား ဆွေးနွေးဝေဖန်ရာမှ ထွက်ပေါ်လာသည့် နိုင်ငံရေး အမြင်များ သဘောထားများ ရပ်တည်ချက်များသည် လွှတ်တော်တွင်း လွှတ်တော်ပြင်ပ နိုင်ငံရေးသမားများအပေါ် ပြန်လှန်သက်ရောက် လွှမ်းမိုးလိမ့်မည်။

သည်အတိုင်း ဖြစ်ခဲ့သော်၊ ကောင်းသော အခြင်းအရာဟု ဆိုရလိမ့်မည်။

တိုင်းပြည်၌ နိုင်ငံရေး ဆွေးနွေးမှုများ တိုးပွားရှင်သန်လာသည်နှင့် အမျှသာလျှင်၊ မှန်ကန်သော တရားမျှတသော အများလက်ခံနိုင်သော သဘောထားများ ထွန်းကားပေါ်ပေါက်ကာ နိုင်ငံဖွံ့ဖြိုးတိုးတက်အောင် တည်ဆောက် နိုင်ကြမည် ဖြစ်ပါသည်။

[ ၂၇ ဒီဇင်ဘာ ၂၀၁၀ ]

# စာနယ်ဇင်းလွတ်လပ်ခွင့်နှင့် ဒီမိုကရေစီ

လွတ်လပ်စွာ ရေးသားပြောဆိုခွင့်ဟူသည် လူမှုအခွင့်အရေးများထဲတွင် အဓိက အကျဆုံး အခြေခံရပိုင်ခွင့်တစ်ခု ဖြစ်သည်။

အခြားသော အခွင့်အရေးများရရှိမှုသည် လွတ်လပ်စွာ ရေးသားပြောဆိုခွင့် သို့မဟုတ် စာနယ်ဇင်း လွတ်လပ်ခွင့် မည်မျှ ရှိ မရှိပေါ်၌ များစွာ မူတည်သည်။

ထို့ကြောင့်လည်း ကမ္ဘာ့ကုလသမဂ္ဂကြီး တည်ထောင်စ၊ လူ့အခွင့်အရေးဆိုင်ရာ ကြေညာစာတမ်းများ သဘောတူညီချက်များ မချမှတ်သေးမီ ၁၉၄၆ ခုနှစ် အထွေထွေ ညီလာခံ၏ ပထမဆုံး အစည်းအဝေးမှာပင် သတင်းလွတ်လပ်ခွင့် သည် အခြေခံအကျဆုံး လူ့အခွင့်အရေးတစ်ရပ်ဖြစ်ပြီး ကုလသမဂ္ဂအဖွဲ့ကြီး အလွတ်အမြတ် ပြုထားသည့် အခြားသော လွတ်လပ်ခွင့်များ အားလုံးအတွက် မှတ်ကျောက်လည်း ဖြစ်သည်ဟု ဆုံးဖြတ်ကြေညာခဲ့သည်။

အခြားသော လွတ်လပ်ခွင့်များ ရှိ မရှိကို သတင်းလွတ်လပ်ခွင့် ရှိ မရှိနှင့် တိုင်းတာ အကဲဖြတ်နိုင်သည် ဟုဆိုလိုက်ခြင်း ဖြစ်သည်။

တိုင်းပြည်ရေးရာ စီမံခန့်ခွဲမှုတွင် အများပြည်သူတို့၏ သဘောဆန္ဒကို အလေး အမြတ်ပြုသည့် ဒီမိုကရေစီ စနစ်သည်မှု၊ စာနယ်ဇင်း လွတ်လပ်ခွင့်နှင့် ခွဲခြားမရအောင် တွဲဖက်နေသည် ဟုဆိုရမည် ဖြစ်သည်။

ဥပမာ၊ လွတ်လပ်၍ တရားမျှတသော ပါတီစုံရွေးကောက်ပွဲများနှင့် ယင်းရွေးကောက်ပွဲများတွင် အများပြည်သူတို့ ပါဝင်၍ ဆန္ဒမဲပေးကြခြင်းတို့သည် ဒီမိုကရေစီနိုင်ငံတို့၏ လက္ခဏာတစ်ရပ် ဖြစ်သည်။ ထိုလက္ခဏာရပ် အနှစ်သာရ ပြည့်ဝစေရန်အတွက် မဲဆန္ဒရှင် အများပြည်သူတို့ သတင်းအချက်အလက် ပြည့်ဝစွာ ရရှိဖို့လိုသည်။ ရွေးကောက်ပွဲဝင်မည့် ပါတီများ၊ ယင်းပါတီတို့၏ မူဝါဒ သဘောတရားများ၊ ယင်းပါတီများမှ ရွေးကောက်ခံမည့် ကိုယ်စားလှယ်များ စသည်တို့နှင့် စပ်လျဉ်းသည့် သတင်းအချက်အလက်၊ အများသူငါ၏ ဆန္ဒ သန်းစစ်ချက်၊ ၎င်းတို့၏ သဘောထားအမြင် စသည်တို့ကို နားထောင်ခွင့် ရလာမှတ်သားခွင့်၊ ပြန်လှန်နှီးနှော ပြောဆိုခွင့်၊ ငြင်းခုံခွင့်တွေရကြမှသာ အများပြည်သူတို့အနေနှင့် ရွေးကောက်ပွဲနှင့် စပ်လျဉ်းသမျှတို့ ပြည့်စုံစွာ သိရှိကာ၊ နားလည်ပါးလည် ဆန္ဒမဲပေး ရွေးချယ်နိုင်ကြမည် ဖြစ်သည်။

သည်အတွက် အများပြည်သူတို့အား သတင်းအချက်အလက်နှင့် သဘောထား အမြင်စုံတို့ ဖြန့်ဖြူးတင်ပြပေးမည့် စာနယ်ဇင်းတို့ အထူးလိုအပ်လှပေသည်။

ရွေးကောက်ပွဲအပြင် အခြားကိစ္စရပ် အများအပြား ရှိသေးသည်။

ဒီမိုကရေစီနိုင်ငံတွင် နိုင်ငံသား အချင်းချင်းကြား လူမျိုး၊ ဘာသာ၊ လိင် စသည်တို့ အရ ခွဲခြားမှုမပြုဘဲ၊ အားလုံး တန်းတူညီမျှ ရှိရေးသည် အရေးကြီးသော အချက်တစ်ရပ် ဖြစ်သည်။ အလားတူ၊ ပြည်သူက ရွေးကောက် တင်မြှောက် လိုက်သည့် ပြည်သူ့ကိုယ်စားလှယ်တို့ အာဏာအလွဲသုံးကာ ပြည်သူကို နှိပ်စက်ကလူမပြုကြဖို့လည်း အရေးကြီးသည်။ သည်လို အရေးကိစ္စများတွင် နှံအားမှ မပြတ်စောင့်ကြပ် ကြည့်ရှုကာ ထောက်ပြ ဝေဖန်သောနည်းဖြင့် ထိန်းကွပ်မည့်သူများ လိုအပ်ပြန်ပါသည်။ သည်ကဏ္ဍတွင်လည်း စာနယ်ဇင်း သမားများသည် ပြည်သူကြားက ထွက်ပေါ်သည့် သတင်းအချက် အလက်များ ပြည်သူတို့အသံကို ထင်ဟပ်သည့် မိမိတို့ အာဘော်များအားဖြင့် ထိရောက်စွာ စွမ်းဆောင်နိုင်ကြမြဲ ဖြစ်သည်။

ထို့ကြောင့်လည်း စာနယ်ဇင်းတို့သည် တိုက်ရိုက်အာဏာ မရှိသည့်တိုင် တိုင်းပြည်ရှိ အာဏာမဏ္ဍိုင် သုံးရပ်တို့ မယိမ်းယိုင်အောင် စောင့်ကြပ်ပေးနိုင်သည့် သွယ်ဝိုက်သော အာဏာရှိသည့် စတုတ္ထမဏ္ဍိုင်အဖြစ် တင်စားခေါ်ဝေါ်ခံရခြင်း ဖြစ်သည်။

စတုတ္ထမဏ္ဍိုင် ကြံ့ခိုင်မှ တိုင်းပြည်တွင် ဒီမိုကရေစီ ကျန်းမာကြံ့ခိုင်ပေမည်။

ကြံ့ခိုင်သန်စွမ်းသော စတုတ္ထမဏ္ဍိုင်ဖြစ်ရန်အတွက် အဓိက လိုအပ်ချက်သည် စာနယ်ဇင်း လွတ်လပ်ခွင့် ဖြစ်သည်။

စာနယ်ဇင်းတို့သည် အများပြည်သူတို့ကြားတွင်နေ၍ အများပြည်သူကို ကိုယ်စား ပြုသည့် သဘောထားအမြင်များ ရရှိကာ ယင်းတို့ကို ထင်ဟပ်ဖော်ပြ ကြသူများဖြစ်ရာ၊ နီးစပ်ရာ၊ နှစ်သက်ယုံကြည်ရာ၊ မိမိကိုယ်စားပြုရာ ပြည်သူ အစိတ်အပိုင်း အသီးသီးကို အကြောင်းပြု၍၊ ၎င်းတို့၏ သဘောထားအမြင်တို့လည်း အသီးသီး ကွဲပြားစွာပင် ရှိနေကြမည် ဖြစ်သည်။

ဥပမာအားဖြင့်၊ နိုင်ငံရေးတွင် အာဏာရပါတီ အာဏာရအစိုးရကို ထောက်ခံသည့် စာနယ်ဇင်းများ ရှိမည်။

အာဏာမရသည့် ပြိုင်ဘက်ပါတီ သို့မဟုတ် တခြား အဖွဲ့အစည်းများကို ထောက်ခံအားပေးကာ၊ အာဏာလက်ရှိတို့၏ ချို့ယွင်းအားနည်းချက်များကို ဝေဖန် ထောက်ပြနေကြသော စာနယ်ဇင်းများလည်း ရှိမည်။

သူ့လူဟူ၍ အမြဲမဝေဖန် ငါ့လူဟူ၍လည်း အမြဲမထောက်ခံသော၊ သို့မဟုတ် မည်သည့်အုပ်စုနှင့်မှ အသေချည်မထားဘဲ၊ အကြောင်းကိစ္စကို လိုက်က

မိမိအမြင် မိမိသဘောထားအတိုင်း ရပ်တည်သော သီးခြား လွတ်လပ်သည့် စာနယ်ဇင်းများလည်း ရှိမည်။

တိုင်းပြည်တစ်ပြည်၌ အဆိုပါ စာနယ်ဇင်း သုံးမျိုးသုံးစားလုံး ယှဉ်ပြိုင် ဆည်ရှိသော် ထိုတိုင်းပြည်၌ စာနယ်ဇင်း လွတ်လပ်ခွင့် ပြည့်ဝစွာရှိသည်ဟု ယေဘုယျ ဆိုနိုင်သည်။

အဲသည် လွတ်လပ်ခွင့် ပြည့်ဝသော စာနယ်ဇင်းသည် အများပြည်သူ ပါဝင်နိုင်သည့် ဒီမိုကရေစီစနစ် အောင်မြင်ရေးအတွက် မရှိမဖြစ်သော အရာ ဖြစ်ရာ၊ ၎င်းအား ကာကွယ် စောင့်ရှောက်ဖို့သည် အထူး အရေးကြီးသည်။

သည်တွင်၊ လွတ်လပ်ခွင့် ပြည့်ဝသော စာနယ်ဇင်းဟူသည် အများပြည်သူ ကြားက လူတစ်ဦးချင်းနှင့် လူအုပ်စုတို့၏ အမြင်များကို လွတ်လပ်စွာ ဖော်ပြ နိုင်သော စာနယ်ဇင်းများကို ဆိုကြောင်း ထပ်၍ ပြောလိုသည်။

ယင်းသို့ လွတ်လပ်စွာ ဖော်ပြရန် အားထုတ်သည့်အခါ အနှောင့်အယှက် အဟန့်အတားမျိုးစုံကို စာနယ်ဇင်းတို့ ကြုံရလေ့ရှိသည်။

ထိုအဟန့်အတားများကို ကျော်လွှားနိုင်ရန်အတွက် အဓိက အားထုတ်ရမည့် သူများက စာနယ်ဇင်းသမားများ ကိုယ်တိုင်ပင် ဖြစ်သည်။

စာနယ်ဇင်း လွတ်လပ်ခွင့်အကြောင်း ပြောသည့်အခါ လွတ်လပ်ခွင့်နှင့်အတူ ဆုံပါလာသည့် အကြောင်းအရာ တစ်ရပ်ကိုလည်း ဖော်ပြရမည်ဖြစ်သည်။

ယင်းကား တာဝန်သိမှု သို့မဟုတ် တာဝန်ယူတတ်မှု ဖြစ်သည်။

လွတ်လပ်မှုကို တောင်းဆိုသော၊ လွတ်လပ်စွာ လုပ်ပိုင်ခွင့်တို့ကို ကျင့်သုံး ခံစားသော စာနယ်ဇင်းတို့အနေဖြင့် မိမိကြောင့် ဆိုးကျိုးများ သက်ရောက်မှု မရှိအောင် သတိပြုဆင်ခြင်ကြဖို့လိုသည်။ အကြောင်းက၊ စာနယ်ဇင်း လွတ်လပ်ခွင့်သည် အခြား လွတ်လပ်ခွင့်များကို အားပေးထောက်ကူသကဲ့သို့၊ ဆန့်ကျင်ဘက်၌ လွတ်လပ်ခွင့်ကို တာဝန်မဲ့စွာ အသုံးချသော စာနယ်ဇင်းတို့ကြောင့် အခြားသော သူတို့၏ အခြား အခြားသော လွတ်လပ်ခွင့်များကို ထိခိုက် ပျက်စီးစေနိုင်သောကြောင့် ဖြစ်၏။

သည်အတွက် ထိခိုက်သူတို့ဘက်က တုံ့ပြန် တိုက်ခိုက်မှုများလည်း မလွဲမသွေ ပေါ်ထွက်လာမည်ဖြစ်ရာ၊ တာဝန်မဲ့သော စာနယ်ဇင်းသမား များပြားလာလျှင် စာနယ်ဇင်းတို့၏ ဂုဏ်သိက္ခာသည်လည်းကောင်း၊ ဂုဏ်သိက္ခာဖြင့်သာလျှင် တရားဝင်စွာ တောင်းဆိုရရှိနိုင်သည့် စာနယ်ဇင်း လွတ်လပ်ခွင့်တို့သည်လည်းကောင်း လျော့ပါးပျက်ပြယ်လာမည်။

ချင့်ချိန်ပြောရသော်၊ လွတ်လပ်ကြရုံနှင့်မပြီး၊ လွတ်လပ်သော တာနယ်ခင်းတို့ မိမိအလုပ်၏ သက်ရောက်မှုတို့ကို ကောင်းစွာသိကာ၊ တာဝန်ရှိစွာ လုပ်ကိုင် ဆောင်ရွက်ကြခြင်းဖြင့်သာ ဒီမိုကရေစီကို ထိန်းသိမ်းစောင့်ရှောက်နိုင် ကြမည် ဟုဆိုချင်ပါသည်။

[ ၅ ဇန်နဝါရီ ၂၀၁၁ ]

## စာနယ်ဇင်းသမားနှင့် မိမိ အလုပ်ကို လေးစားတာဝန်ယူတတ်မှု

စာနယ်ဇင်း လွတ်လပ်ခွင့်နှင့် ဒီမိုကရေစီသည် ဒွန်တွဲ၍နေသည်၊ တစ်ခုမရှိဘဲ အခြားတစ်ခု မတည်ရှိနိုင်...၊ စသဖြင့် ယခင်အပတ် ခေါင်းကြီးတွင် ရေးသားခဲ့သည်။

တစ်ဖန်၊ လွတ်လပ်ခွင့်တို့အကြောင်း ပြောသည့်အခါ ၎င်းနှင့်အတူ တာဝန်သိမှု၊ တာဝန်ယူတတ်မှုတို့လည်း ဒွန်တွဲပါလာကြောင်း၊ ထို့ကြောင့် လွတ်လပ်မှုကို တောင်းဆိုရယူ ကျင့်သုံးသော စာနယ်ဇင်းသမားသည်လည်း မိမိအလုပ်၏ တာဝန် ကြီးမားပုံကို သိရှိကာ တာဝန်ယူတတ်သောစိတ်ဖြင့် လုပ်ကိုင်ဆောင်ရွက်ဖို့ လိုကြောင်း တစ်စွန်းတစ်စ ဖော်ပြခဲ့သည်။

ယခု၊ ၎င်းကိစ္စကို ပို၍ ပြည့်ပြည့်စုံစုံ ပြောလိုသည်။

ပထမအချက်။ သတင်းစာတို့သည် လတ်တလော ဖြတ်သန်းခဲ့သည့် တစ်နေ့တာ၏ သမိုင်းမှုကြမ်းကို ရေးသားနေကြသူများ ဖြစ်သည်ဟူသော စကားတစ်ခုရှိရာ သတင်းစာများအတွက် တစ်နေ့တာ၊ သို့မဟုတ် ဂျာနယ်တို့ စာနယ်များအဖို့ တစ်ပတ်တာအတွက်ဖြစ်သော အဆိုပါ သမိုင်းသည် စတင် ရေးသားကတည်းက တိကျမှန်ကန်ဖို့ လိုသည်။

ပရိသတ်တို့သည် စီးပွားရေး၊ လူမှုရေး၊ နိုင်ငံရေးဆိုင်ရာတို့နှင့် စပ်လျဉ်း၍ စာနယ်ဇင်းများက ဖော်ပြသည့် သတင်းအချက်အလက်တို့ကို အမှန်ယူကာ ဆုံးဖြတ် လုပ်ကိုင်လေ့ရှိကြရာ စာနယ်ဇင်းများထဲမှာ အမှားပါသော် လူအများ အဆုံးအဖြတ် အလုပ်အကိုင် မှားယွင်းကြမည် ဖြစ်သည်။ ဥပမာ – ရွှေဈေးကွက် ကားဈေးကွက် သတင်းများသည် ရွှေ၊ ကား ရောင်းဝယ်လိုသူများသို့ သက်ရောက်လွှမ်းမိုးသည်။ စားသုံးကုန်များတွင် အဆိပ်အတောက်များ ပါဝင် နေကြောင်း သတင်းသည် လူအများကို အထိတ်တလန့် ဖြစ်စေသကဲ့သို့ အန္တရာယ်မဖြစ်အောင် ရှောင်ရှားနိုင်ကြရန်လည်း အသိပေးသည်။ နိုင်ငံရေးသတင်း နိုင်ငံရေးသမား၊ နိုင်ငံရေး အနေအထားများနှင့် စပ်လျဉ်းသော သတင်းအချက် အလက်နှင့် သဘောထားအမြင်များသည်လည်း စာဖတ်သူတို့၏ နိုင်ငံရေးဆိုင်ရာ အဆုံးအဖြတ်များကို လွှမ်းမိုးသည်။

ဤသို့အားဖြင့် စာနယ်ဇင်းသည် တန်ခိုးသြဇာရှိသော လက်နက်ကိရိယာ တစ်ခု ဖြစ်နေရာ သည့်ကိရိယာကို တာဝန်ရှိစွာ အသုံးပြုရန် အရေးကြီးသည်။

ဇင်စစ်၊ စာနယ်ဇင်းတို့အနေနှင့် မိမိတို့ ရေးသားဖော်ပြခဲ့သည့် သတင်း အချက်အလက်များ မှားယွင်းခဲ့သည်ရှိသော် မည်သည့်ကိစ္စကို မှားယွင်းဖော်ပြ ခဲ့ကြောင်းနှင့် အမှန်သည် မည်သို့ဖြစ်ကြောင်း ပြန်လည် ဖော်ပြပေးဖို့မှာ ဘေကက်ကြောက် ဆောင်ရွက်ရမည့် တာဝန်တစ်ခု ဖြစ်ပါသည်။

နိုင်ငံရေး တွေးခေါ်ရှင်တစ်ဦးအဖြစ် လေးစားသိမှတ်ခံရသည့် အမေရိကန် သတင်းစာဆရာကြီး ဝေါလတာလစ်(ပ)မင်းက ဆိုလျှင် အမှန်ကို ဖော်ပြရေးသည် စာနယ်ဇင်းသမားအတွက် အမြင့်မားဆုံး ကျင့်ဝတ်စည်းကမ်းဖြစ်သည်ဟုပင် ဆိုခဲ့သည်။ အကြောင်းက စာနယ်ဇင်းသမား၏ ဂုဏ်သိက္ခာသည် လည်းကောင်း ယင်းမှ ဆက်လက်ဖြစ်ပေါ်သည့် ဩဇာတိက္ကမသည် လည်းကောင်း အမှန်ကို မည်မျှ ရေးသား တင်ပြနိုင်သနည်းဟူသော အချက်ပေါ်တွင် မူတည်နေသောကြောင့် ဖြစ်သည်။

မတော်တဆ ပေါ့လျော့မှားယွင်းခြင်း၊ နားစွန်နားဖျား ပြောသံကြားကို သတင်း လုပ်ရေးသဖြင့် အဖြစ်မှန်နှင့် တခြားစီဖြစ်ခြင်း၊ ကောင်းစွာ မသိသော အရာကို ပြည့်ပြည့်ဝဝ မလေ့လာ မမေးမြန်းဘဲ ရေးသဖြင့် တိမ်းစောင်းလွဲချော်ခြင်း စသည်တို့ ကြောင့် အရည်အသွေးမမီသော စာနယ်ဇင်းအဖြစ် အထင်သေး အမြင်သေး ခံရနိုင် သကဲ့သို့ ဩဇာအာဏာရှိသူ လာဘ်သပ်ပကာ ပေးကမ်းသူတို့ ဘက်က အဂတိလိုက်၍ ရေးသားခြင်း၊ မိမိသတင်းကြောင့် အပြစ်မရှိသူတို့ ထိခိုက်နစ်နာနိုင်သည်ကို မထောက်ညှာ မငဲ့ကွက်ဘဲ ရေးသားခြင်း၊ သူတစ်ပါး အသရေပျက်အောင် အဖြစ်မှန်ကို မွမ်းမံ ဖြည့်စွက်ရေးသားခြင်း စသည်တို့ ကြောင့်လည်း ဂုဏ်သိက္ခာမဲ့သော စာနယ်ဇင်းတစ်ခု ဖြစ်သွားနိုင်ရာ ဤသည်တို့ကို ထိန်းသိမ်းရေးသည်လည်း စာနယ်ဇင်းသမားတို့ သတိပြု လိုက်နာအပ်သည့် ကျင့်ဝတ်များထဲတွင် အကျုံးဝင်သည်။

စာနယ်ဇင်းလောက အရည်အသွေး ညံ့ဖျင်းမည်၊ ကျင့်ဝတ်ထိန်းသိမ်းမှု နည်းပါးမည်ဆိုလျှင် ဘာဖြစ်မည်နည်း။

အိန္ဒိယ ခေါင်းဆောင်တစ်ဦးဖြစ်သူ ပဏ္ဍစ်နေရူးက၊

လွတ်လပ်မှုနဲ့အတူ တာဝန်ရှိမှု တာဝန်ယူ ဆောင်ရွက်ရမှုတွေ တွဲဖက်ရှိမနေရင် အဲဒီလွတ်လပ်မှုဟာ တဖြည်းဖြည်း ညှိုးနွမ်း ပျက်ပြယ်သွားလိမ့်မယ်။ အဲဒါ တိုင်းပြည် လွတ်လပ်ရေးတွေအတွက်သာ မဟုတ်ဘူး၊ စာနယ်ဇင်း လွတ်လပ်မှုတွေ အခြားအဖွဲ့အစည်းတွေ လူအုပ်စုတွေ လူတစ်ဦးချင်းတွေရဲ့ လွတ်လပ်မှုတွေလည်း ဒီအတိုင်းပဲ ဖြစ်တယ် ဟုဆိုခဲ့သည်။

မဟာတ္တမဂန္ဒီကလည်း၊

စာနယ်ဇင်းဟူသည် အလွန်ကြီးမားသော အင်အားတစ်ခုဖြစ်ကြောင်း အထိန်းအချုပ်မရှိ ဒလဟောသွန်၍ စီးဆင်းကျလာသော မြစ်ရေ ချောင်းရေသည် သယ်ယာ ကျေးလက်တစ်ခွင်လုံး ဖုံးလွှမ်းကာ ကောက်ပဲသီးနှံများကို ဖျက်ဆီး တတ်သကဲ့သို့၊ အထိန်းအကွပ်မဲ့သော ကလောင်သည်လည်း ပျက်စီးမှုတို့ကိုသာ ဖြစ်ပေါ်စေတတ်ကြောင်း (ထို့ကြောင့် ထိန်းချုပ်မှုသည် လိုအပ်ကြောင်း) သို့သော်၊ ထိန်းချုပ်မှုသည် အပြင်က လာသည်ရှိသော် အထိန်းအချုပ်မဲ့ခြင်းထက်ပင် ပို၍ အဆိပ်အတောက် ပြင်းထန်ကြောင်း၊ အတွင်းက ထိန်းချုပ်ခြင်းမျိုးဖြစ်မှ သာလျှင် အကျိုးကျေးဇူးရှိနိုင်ကြောင်း ပြောဆိုခဲ့သည်။

သည်ပုဂ္ဂိုလ်ကြီးနှစ်ဦးနှင့် အယူအဆ တူညီကြသည့် နိုင်ငံတကာ စာနယ်ဇင်းသမားတို့က မိမိတို့၏ ဂုဏ်သိက္ခာ၊ ဩဇာတိက္ကမနှင့် လွတ်လပ်ခွင့် တို့ကို ထိန်းသိမ်းနိုင်ရန် အတွက် မိမိတို့ လုပ်ငန်းကို အတွင်းနည်း ဟုဆိုရမည့် မိမိတို့ဘာသာ ထိန်းချုပ်သော နည်းဖြင့် ဆောင်ရွက်ကြရန် ကြိုးပမ်းခဲ့ကြသည်၊

ယင်းအတွက် နည်းလမ်းတစ်ခုက စာနယ်ဇင်းကောင်စီ (Press Council) ဟုခေါ်ဝေါ်လေ့ရှိသည့် အဖွဲ့များ ဖွဲ့စည်းဆောင်ရွက်ခြင်း ဖြစ်သည်။

အဆိုပါ စာနယ်ဇင်းကောင်စီများသည် စာနယ်ဇင်းသမားတို့ မိမိတို့ အလုပ်ကို သွက်လက်ထက်မြက်စွာ ဆောင်ရွက်နိုင်ရန်အတွက် မည်သို့သော အခွင့်အရေးများ ရှိရမည်ကို ညှိနှိုင်းသတ်မှတ်ကာ၊ ယင်းအခွင့်အရေးများ ပြည့်ပြည့်ဝဝ ရရှိရန် အားထုတ်ကြသကဲ့သို့၊ ယင်းအခွင့်အရေးများ ထိန်းချုပ် ကန့်သတ်ခြင်း ဖောက်ဖျက်ခြင်းများ မခံရအောင်လည်း စုစည်းကာကွယ်ကြသည်၊ တစ်ချိန်တည်းတွင် စာနယ်ဇင်းတို့ အရည်အသွေး အဆင့်အတန်း မြင့်မားရေးကို တစ်ဦးချင်းလည်းကောင်း၊ အများအတွက် လည်းကောင်း ဆောင်ရွက်ရင်း တစ်ဖက်ကလည်း စာနယ်ဇင်းသမားတို့ လိုက်နာ ကျင့်သုံးအပ်သည့် ကျင့်ဝတ် စည်းကမ်းများနှင့် တာဝန်ဝတ္တရားများကို စနစ်တကျ ညှိနှိုင်းသတ်မှတ်ကာ ယင်းအတိုင်း ထိန်းသိမ်းဆောင်ရွက်ကြရန် ကြပ်မတ်မှုပြုကြသည်၊

ကမ္ဘာ၌ ပထမဆုံး စာနယ်ဇင်းကောင်စီသည် ၁၉၁၆ ခုနှစ်က ဆွီဒင်နိုင်ငံ၌ ပေါ်ပေါက်ခဲ့ပြီး အခြားသော စကင်ဒီနေးဗီးယား တိုင်းပြည်များသို့ ကူးစက် ပြန့်ပွားခဲ့သည်။ ယခုအခါတွင်ကား ကမ္ဘာအနှံ့အပြားရှိ နိုင်ငံပေါင်း ၅၀ ခန့်၌ စာနယ်ဇင်းကောင်စီ သို့မဟုတ် အမည်ကွဲပြားသော်လည်း ထင်းနှင့် သဘောတူ အဖွဲ့အစည်းများ တည်ရှိနေပြီ ဖြစ်ကြောင်း သိရသည်၊

သုဝဏ်နေဲ့ဘူသူတို့ တူညီသော ရည်ရွယ်ချက်အတွက် စုပေါင်း လုပ်ဆောင် ကြလျှင် အများအကျိုးရှိစမြဲဖြစ်ရာ စာနယ်ဇင်းသမားတို့ စုပေါင်းလုပ်ဆောင်ခြင်း မှလည်း ကောင်းကျိုးရလဒ်များပင် ပေါ်ထွက်စရာရှိသည် ဟုရှုမြင်ပါသည်။

သို့သော်၊ ရည်ရွယ်ချက် တကယ် ပေါက်မြောက်အောင်မြင်ရန်အတွက်မူ ယင်းသို့သော အဖွဲ့အစည်းများထဲတွင် သမာသမတ်ရှိသူ၊ အများနှစ်သက် ရွေးချယ်သူ၊ တာဝန်သိစိတ်ဖြင့် ဆောင်ရွက်တတ်သူတို့ စိတ်အားထက်သန်စွာ ဝါဝင်ဆောင်ရွက် ကြရန်နှင့် အဖွဲ့အစည်းအတွင်း လွတ်လပ်ပွင့်လင်းစွာ ဆွေးနွေးညှိနှိုင်းသည့် အလေ့အထများလည်း တည်ရှိရန် လိုအပ်ကြောင်း တင်ပြလိုပါသည်။

[ ၇ ဇန်နဝါရီ ၂၀၁၁ ]

# ဘယ်သို့ ပြောင်းလဲမည်လဲ

ပြောင်းလဲခြင်းသည် လောကဓမ္မတာဟု အများလက်ခံကြ၏။

လောက၌ မပြောင်းလဲတာဟူ၍ ပြောင်းလဲခြင်းတရားသာ ရှိသည်ဟုလည်း ဆိုကြ၏။

ဒါကိုပင် လူသည် မြစ်တစ်စင်းတည်းကို နှစ်ကြိမ် မဆင်းနိုင်ဟု ဒဿနဆန်စွာ ပြောတာလည်း ရှိသည်။

ငါဟာ မနေ့က ငါ မဟုတ်တော့ဘူး၊ ဒီကနေ့ ငါ ဖြစ်နေပြီ၊ အရာအားလုံး ပြောင်းလဲနေတယ်၊ ပြောင်းတဲ့အထဲမှာ ငါလည်း ပါတယ် စသဖြင့် တရားရစွာ ပြောတာမျိုးလည်း ရှိသည်။

ချုပ်ပြောသော်၊ လောကသည်လည်းကောင်း၊ လူသည်လည်းကောင်း ပြောင်းလဲ မြဲသာ ဟုဆိုလိုခြင်း ဖြစ်၏။

လူ့အဖွဲ့အစည်းများသည်လည်း ထိုနည်းရင်း။

သို့သော် ပြောင်းတိုင်း ကောင်းသလား။

လူကောင်းက လူဆိုးဖြစ်သွားခြင်း၊ ချမ်းသာသော လူ့အဖွဲ့အစည်းက ဆင်းရဲ မွဲတေသွားခြင်း၊ လွတ်လပ်သော နိုင်ငံက ကျွန်ဘဝ ရောက်ရှိသွားခြင်း၊ ငြိမ်းချမ်းသောဒေသက စစ်မြေပြင် ဖြစ်သွားခြင်း၊... စတာတွေသည် ကောင်းသော ပြောင်းလဲခြင်းများ လုံးဝ မဟုတ်ကြ။

ထို့ကြောင့် ပြောင်းလဲခြင်းအကြောင်း ပြောသောအခါ တိုးတက်ခြင်း ဆိုတာကိုပါ ထည့်သွင်း စဉ်းစားလာကြခြင်း ဖြစ်သည်။

ပြောင်းလဲမှုတစ်ခုသည် တိုးတက်မှုရှိသော ပြောင်းလဲခြင်းမျိုးလား၊ နောက်ကြောင်း ပြန်သွား ဆုတ်ယုတ်သွားသော ပြောင်းလဲမှုလား၊ ဒါမှမဟုတ် အသွင်သဏ္ဌာန် ပြောင်းလဲသော်လည်း အနှစ်သာရမပြောင်းသည့် အကြောင်းမဲ့ ဆေးသော ပြောင်းလဲခြင်းမျိုးလား ...။

ထို့ပြင် တိုးတက်မှုဟူသည်ကိုကော ဘယ်သူ့ ရှုထောင့်မှ တိုင်းတာ သတ်မှတ်မည်လဲ။

ဓမ္မဓိဋ္ဌာန်ကျသော တွေးတောသူကမူ လူ့အဖွဲ့အစည်းတစ်ရပ်လုံးအတွက် အကောင်းဘက် ရှေးရှုသော ပြောင်းလဲခြင်းမျိုးကို တိုးတက်ခြင်းအဖြစ် သတ်မှတ် လက်ခံမည် ဖြစ်သည်။

ဘ္ဂောင်ချိန်းဒ် စဉ်းစားသူတို့ကမူ အပြောင်းအလဲသည် မိမိအပေါ် မည်သို့ သက်ရောက်မည်နည်း ဆိုတာကို စဉ်းစားသည်။

လက်တလော အနေအထားတွင် နစ်နာသူ၊ နိမ့်ပါးသူ၊ အခြေအနေ ဆိုးသောသူတို့ ကတော့ ဘာတွေ ပြောင်းပြောင်း မိမိအတွက် ကောင်းဖို့သာရှိသည်၊ ဒီ့ထက်ဆိုးနိုင်စရာမရှိဟု ယူဆသဖြင့် အပြောင်းအလဲကို လိုလားတောင့်တသည်။ လက်တလော အနေအထားတွင် တစ်ပန်းသာသူ၊ အခြေအနေကောင်းသူ၊ အခွင့်ထူး ခံစားရသူတို့ကတော့ ပိုနေမြဲ ကျားနေမြဲသာ အကောင်းဆုံးဟု ယူဆကြသည်။ လှေကို သွားမလှုပ်နဲ့၊ မြုပ်သွားလိမ့်မယ်ဟုလည်း အပြောင်းအလဲ လိုချင်သူတို့အား တားမြစ်တတ်ကြသည်။

ဒါတွေလည်း လူတို့၏ သဘာဝဟုပင် ဆိုကြပါစို့။

သို့သော် တောင်းသူတွေ တောင်း၊ တားသူတွေ တားရင်းကပင် ပြောင်းလဲ တတ်သော သဘာဝအတိုင်း ခေတ်စနစ်တို့ ပြောင်းလဲခဲ့ကြသည်။

ဒါက ယေဘုယျသဘောတွေ ပြောခဲ့ခြင်းဖြစ်သည်။ တိတိကျကျ ကိုယ်နှင့် ဆိုင်တာ ပြောရသော် လောလောဆယ် ကျွန်တော်တို့ တိုင်းပြည်မှာကော ဘယ်လို ပြောင်းလဲမည့် အကြောင်းတွေ ရှိနေသနည်း။

ပြီးခဲ့သော နှစ်ပိုင်းများအတွင်း ဖြစ်ပေါ်လာသည့် ဖွဲ့စည်းပုံအခြေခံ ဥပဒေသစ်၊ နိုင်ငံရေးပါတီသစ်၊ ရွေးကောက်ပွဲသစ်များနှင့် မကြာမီ ပေါ်ထွက် လာမည့် လွှတ်တော်သစ်၊ သမ္မတသစ်၊ အစိုးရသစ်များကြောင့် မြန်မာ့နိုင်ငံရေးသည် လည်းကောင်း၊ နိုင်ငံအုပ်ချုပ်မှု ပုံသဏ္ဌာန်သည် လည်းကောင်း ပြောင်းလဲလျက် ရှိသည် ဟုဆိုရလိမ့်မည်။

ထိုအပြောင်းအလဲတို့သည် ဒီမိုကရေစီစနစ်ဘက်သို့ ဦးတည်သည့် အပြောင်းအလဲများ ဖြစ်သည်၊ ပုံသဏ္ဌာန် အပြောင်းအလဲထဲတွင် မတူသော နိုင်ငံရေးအင်အားစုတို့ အတိုင်းအတာတစ်ခုအထိ ပါဝင်လှုပ်ရှားနိုင်မည့် နေရာများ ဖန်တီးပေးထားသည်၊ စသဖြင့် ပြောဆိုကာ ကြိုဆိုသူတို့က ကြိုဆို ကြသည်။ တစ်ဖက်တွင်မူ အပြောင်းအလဲသည် အပေါ်ယံ အသွင်သဏ္ဌာန် ပြောင်းလဲရုံမျှသာဖြစ်၍ အနှစ်သာရပိုင်းတွင် ထူးခြားမှုမရှိဟု ဝေဖန်သူများလည်း ရှိနေကြသည်။

သည်နှစ်ရပ်အနက် ဘယ်ရှုထောင့်သည် မှန်မည်လဲ၊ သို့မဟုတ် အမှန်နှင့် နီးစပ်မည်လဲ ဟူသည်ကို ယခုနှစ် ပထမပိုင်းအတွင်းလောက်မှာပင် စတင် အကဲဖြတ်နိုင်ကြလိမ့်မည် ထင်ပါသည်။

အကဲဖြတ်ရန် မှတ်ကျောက်ကား အများပြည်သူတို့အတွက် နိုင်ငံရေး၊ လူမှုရေး၊ စီးပွားရေးဆိုင်ရာ အခွင့်အလမ်းများ တိုးတက်မှု ရှိ မရှိ ဟူသော အချက် ဖြစ်သည်။

အစိုးရသစ်လက်ထက်တွင် ပါတီစုံစနစ် မည်မျှ ပီသစွာ ဖြစ်ထွန်းလာမည်လဲ။ ပါတီတို့ စည်းရုံးကြ၊ တိုးချဲ့ ဖွဲ့စည်းကြ၊ မိမိတို့ ဝါဒလမ်းစဉ်များကို ကြေညာ ဖြန့်ချိကြ၊ နိုင်ငံအဆင့်တွင်လည်းကောင်း၊ ဒေသန္တရအဆင့်တွင် လည်းကောင်း တိုင်းရေးပြည်ရာ ပြဿနာများကို ရှင်းလင်း အဖြေရှာခြင်းများ ပြုလုပ်ကြ၊ သဖြင့် တိုးတက် လှုပ်ရှား ဆောင်ရွက်လာသည်များ မြင်တွေ့ရမည်လား။

လွှတ်တော်များတွင် ပြည်သူ့ကိုယ်စားလှယ်တို့ ပြည်သူများကြားက သယ်ဆောင်လာခဲ့သည့် နိုင်ငံ့အရေးကိစ္စများကို ပြည်သူတို့ကိုယ်စား တင်ပြကြ၊ ဥပဒေကြမ်းများ ရေးသားအဆိုပြုကြ၊ ဆွေးနွေး ဝေဖန်သူက ဝေဖန်ကာ မဲခွဲ ဆုံးဖြတ်ကြသည်များကို လည်းကောင်း၊ လွှတ်တော်တွင်း ဆောင်ရွက်ချက်များကို ပြည်သူတို့ထံ ပြန်လည် ရှင်းလင်းတင်ပြကာ ပြည်သူတို့၏ တုံ့ပြန်သံများကို ဆောင် မှတ်သားကြသည်ကို လည်းကောင်း ပြည်သူတို့ မြင်တွေ့ကြရမည်လား။

လွှတ်တော်များတွင် ဆွေးနွေးကြမည့် အကြောင်းအရာများကို လည်းကောင်း၊ အစိုးရ၏ ဆောင်ရွက်ချက်များ၊ ပါတီအဖွဲ့များနှင့် ပါတီခေါင်းဆောင်တို့၏ လှုပ်ရှားဆောင်ရွက်မှုများကို လည်းကောင်း စာနယ်ဇင်းများနှင့် အများပြည်သူ ကြားတွင် သုံးသပ်ဝေဖန်ခြင်း ထောက်ခံခြင်း ကန့်ကွက်ခြင်းများ ပြုကြသည်ကို မြင်တွေ့ကြားသိ လာရမည်လား။

အထက်က အနေအထားများကို အကြောင်းပြုကာ နိုင်ငံရေးရာကို ပြည်သူအများ တိုးတက်စိတ်ဝင်စားလာကြ၍ ပါတီများ အဖွဲ့အစည်းများတွင် ဝင်ရောက် လုပ်ကိုင်လိုသူ၊ နောင်လာမည့် ရွေးကောက်ပွဲများတွင် ပါဝင် ယှဉ်ပြိုင်ရန် စောစောစီးစီး လေ့ကျင့် ပြင်ဆင်သူများ တိုးပွားလာမည်လား။

အဲဒါဆိုလျှင် နိုင်ငံရေးဘက်တွင် တိုးတက်မှု ရှိသည် ဟုဆိုရလိမ့်မည်။

နိုင်ငံရေး တိုးတက်သကဲ့သို့ စီးပွားနယ်ပယ်တွင် လွတ်လပ်မှုနှင့် အခွင့်အရေး တန်းတူမှုရှိသော ဈေးကွက်စီးပွားရေးစနစ် ဖြစ်ထွန်းသဖြင့် ဦးသူငါတို့ အကြံဉာဏ် ရှိသမျှ စီးပွားရှာခွင့်ရကာ အလုပ်အကိုင် အခွင့်အလမ်းများ တိုးပွားခြင်းကြောင့် တိုင်းပြည်စီးပွား ဖွံ့ဖြိုးတိုးတက်မည့် နိုင်လက္ခဏာများ မြင်တွေ့လာရမည်လား။

တစ်ချိန်တည်းတွင် အလုပ်အကိုင်တူသူတို့ အသင်းအဝိုင်း ဖွဲ့စည်းထော

အကျိုးစီးပွား တာကွယ်မှုအတွက် လည်းကောင်း၊ မိမိတို့ လုပ်ငန်းကဏ္ဍ တိုးတက်ရေးအတွက် လည်းကောင်း စုပေါင်းလုပ်ဆောင်ကြခြင်း၊ ထိုမှတစ်ဆင့် တစ်တော ရပ်ရွာအကျိုး တိုင်းပြည်အကျိုးအတွက် ဝိုင်းဝန်း ပါဝင်လာခြင်းများ တိုးများလာသည်ကို မြင်တွေ့လာရမည်လား။

ထို့ပြင် အခြေအနေ အကြောင်းကြောင်းတို့ကြောင့် ကွယ်ဝပြည့်စုံလာသူ ဥစ္စာ ကြွယ်ဝသော်လည်း စေတနာပြည့်ဝသူ၊ ပရဟိတစိတ် ထက်သန်သူတို့ ရှိသည်တော ဆင်းရဲချို့တဲ့သူ၊ မကျန်းမာသူ၊ ပညာမပြည့်ဝသူ၊ ဘေးဒုက္ခကြုံရသူ စသည့် နိမ့်ပါး နေသူတို့အတွက် ကူညီ စောင့်ရှောက်သော အလုပ် အားပေးမြှင့်တင်သော အလုပ်များ တိုးတက် ဆောင်ရွက်လာကြသည်ကို မြင်တွေ့ရမည်လား။

အဲဒါဆိုလျှင်တော့ အပြောင်းအလဲသည် တိုင်းပြည် တိုးတက်မှုဘက်သို့ ရှေးရှုသည့် ကောင်းသော ပြောင်းလဲချက်များ ဖြစ်သည်ဟု ဆိုရမည်ဖြစ်ပြီး ထိုအပြောင်းအလဲ၏ ရလဒ်အဖြစ် လာမည့် ဆယ်စုနှစ်အတွင်း မြန်မာပြည်သူတို့ ခေါင်းမော့လာသည်ကို မြင်တွေ့ရနိုင်သည် ဟုဆိုချင်ပါသည်။

[ ၁၃ ဇန်နဝါရီ ၂၀၁၁ ]

# တစ်စိတ်တစ်ဝမ်းတည်း
# သို့သော် သီးခြားလွတ်လပ်သော အယူအဆကိုယ်စီ

'စည်းလုံးခြင်းသည် ခွန်အား' ဟူသည် ကလေးဘဝကတည်းက ကျွန်တော်တို့ ကြားသိလာခဲ့သော စကားတစ်ခု ဖြစ်၏။

အီစွပ်ပုံပြင်၌

ဖခင်အိုက တစ်ဦးနှင့်တစ်ဦး မသင့်မတင့်ဖြစ်နေကြသည့် သားများကို တွေ့သာခကဖြင့် ဆုံးမ၏။ သားများကို ခေါ်ကာ ထင်းစည်းတစ်စည်းကို စည်းလိုက် ချိုးခိုင်း၏။ ဘယ်သူမှ မချိုးနိုင်သည့်အခါ အစည်းကို ဖြည်ပြီး တစ်ချောင်းချင်း ချိုးစေ၏။ တဖျောင်းဖျောင်း ကျိုးသွားကြသည့်အခါ ယင်းအား ညီအစ်ကိုတို့ တစ်ကွဲတစ်ပြားစီ နေကြလျှင် သူတစ်ပါးထံ ချိုးဖျက်ခံရနိုင်မည်၊ စည်းစည်းလုံးလုံးနေမှသာ အေးရန် မုန်သမျှကို တားဆီး ကာကွယ်နိုင်မည် ဖြစ်ကြောင်း သင်ခန်းစာပေးသည်။

သည်ပုံပြင်ကို အကြောင်းပြုကာ စည်းလုံးညီညွတ်မှ ခွန်အားရှိမည်ဆိုတာ ကျွန်တော်တို့ သိမှတ်ကြရသည်။

သည်သင်ခန်းစာကို အငြင်းပွားစရာ မရှိ။ သို့သော် စည်းလုံးညီညွတ်ခြင်း သို့မဟုတ် တစ်စိတ်တစ်ဝမ်းတည်းရှိခြင်း ဟူသည်နှင့် စပ်လျဉ်း၍ ဆင့်ပွား ငြင်းခုံစရာ ရှိပါသည်။

စည်းလုံးညီညွတ်ခြင်း ဟူသည် တစ်စုံတစ်ရာသော ဦးတည်ချက်၌ တစ်သဘောတည်း တည်ကာ လိုအပ်လျှင် လိုအပ်သလို အားထုတ်ကြခြင်းသာ ဖြစ်သည်။ အစစအရာရာ အမြဲ တစ်ပုံစံတည်း ရှိရမည် ဟူသော သဘော မဟုတ်။

ဥပမာပြရသော်၊ တစ်စိတ်တစ်ဝမ်းတည်း ရှိသော လူ့အစုအစည်း သို့မဟုတ် နိုင်ငံ ပြ ရပ်ရွာ လူ့အဖွဲ့အစည်းတစ်ရပ် ဟူသည် နေရာဒေသတစ်ခု၌ တစ်ဆက်တစ်စပ်တည်း ရှိသော ရေမြေတောတောင်တစ်ခုနှင့် သဘောချင်း တူညီသည်။

စိမ်းစိုသော သဘာဝတောတစ်ခုမှာ သစ်ပင်တစ်မျိုးတည်းမရှိ။ သတ္တဝါလည်း တစ်မျိုးတည်း မရှိ။ မြင့်မောက်သော သစ်ပင်ကြီးများ ရှိသည်၊ ချုံနွယ်ပိတ်ပေါင်း ရှိသည်၊ မြေကပ်ပင်ငယ်မျိုးစုံလည်း ရှိသည်။

ထို့အတူ လေမှာ ပျံသောငှက် အမျိုးမျိုး၊ ပျားပိတုန်း၊ လိပ်ပြာ ခြင်ကောင်

အောင်သော သတ္တဝါ၊ မြေမှာ ကျက်စားသော သတ္တဝါကြီး သတ္တဝါငယ်၊ သစ်ပင်ပေါ် ခုန်ပေါက် ပြေးလွှားသော အကောင်ကြီး အကောင်ငယ် စသဖြင့် စုံလင်စွာ ရှိရမည်။

ခြင်္သေ့လက္ခဏာစုံ၊ အဆင်အသွေးစုံ၊ အရွယ်ကြီးငယ်စုံရှိသည့် သတ္တဝါနှင့် သစ်ပင်များ စုပေါင်းမှသာ သာယာလှပ၍ နှစ်ပရိစ္ဆေဒရှည်ကြာ တည်တံ့သည့် ဆရာတောတောင် ဖြစ်ရသည်။

လူ့အဖွဲ့အစည်းမှာလည်း ထိုနည်းလည်းကောင်း။

မုဆိုးချည်း မဖြစ်၊

တံငါသည်ချည်း မဖြစ်၊

လက်သမားချည်း မဖြစ်၊

လယ်သမားချည်း မဖြစ်၊

ဆေးသမားချည်း မဖြစ်၊

ရက်ကန်းသမားချည်း မဖြစ်၊

မော်ဆရာ၊ နတ်ဆရာချည်း မဖြစ်၊

သဘင်သည် အနုပညာသည်ချည်း မဖြစ်၊

ဝေဒပုရောဟိတ်နှင့် ကျမ်းတတ်ပုဂ္ဂိုလ်တွေချည်းလည်း မဖြစ်၊

လယ်သမား၊ လက်သမား၊ မုဆိုး၊ တံငါ၊ ရက်ကန်းဆရာတို့ရှိမှ စားဝတ် နေရေး အခြေခံ ပြည့်စုံမည်။ သမားဟူးရား၊ သဘင်သည် အနုပညာသည်တို့ ရှိမှ အခြေခံထက် မြင့်လာမည်။

မုဆိုးမှာလည်း သမင်ဒရယ်လောက်သာ ဖမ်းဆီးနိုင်သည့် မုဆိုးချည်းရှိ၍ မပြီး။ ကျားဆင် ခြသေ့ရန် ကာကွယ်ပေးနိုင်သည့် မုဆိုးပါရှိမှ ပြည့်စုံသည်။ စပါးတစ်မျိုးတည်း စိုက်တတ်သည့် လယ်သမားနှင့် မပြည့်စုံ။ ပဲ၊ ပြောင်း၊ နှမ်း၊ ဝါ စုံလင်စွာ စိုက်တတ်သည့် စိုက်ပျိုးရေးသမားများရှိမှ ပြည့်စုံသည်။ ဆေးတစ်ဖုံနှင့် ရောဂါစုံကုသည့် ဆေးသမားရှိရုံနှင့် အားကိုးမရ။ ရောဂါအဖုံဖုံ ကုနိုင်သည့် ဆေးသမားစုံ ရှိမှ စိတ်ချရသည်။

အလားတူ တစ်ရွာလုံးမှာ ကျမ်းတစ်အုပ်တည်းရှိပြီး ထိုတစ်အုပ်တည်းနှင့် ကျမ်းတတ်လုပ်နေသူ တစ်ယောက်ရှိရုံနှင့် မပြီး၊ အဲသည်ကျမ်းနှင့် ကျမ်းဆရာ လွဲလျှင် တစ်ရွာလုံး လွဲလိမ့်မည်။ မတူညီသော ကျမ်းဂန်အဖုံဖုံနှင့် စာစုံဖတ်သည့် ကျမ်းတတ် ပေါင်းစုံတို့ ရှိမှသာ ပြဿနာအဖုံဖုံကို ညှိနှိုင်းအဖြေရှာကာ ရပ်ရွာကို မှန်ကန်စွာ လမ်းပြနိုင်လိမ့်မည်။

ချုပ်ပြောရသော်၊ အရည်အသွေး မြင့်မားသော လူ့အဖွဲ့အစည်းတစ်ရပ် အတွက် ကဏ္ဍနယ်ပယ်စုံ၌ ထူးချွန်ထက်မြက်သော ပုဂ္ဂိုလ်တွေ လိုသည်။ ၎င်းသည် ပုဂ္ဂိုလ်တွေ စုပေါင်းမိမှသာ တကယ့်အားဖြစ်သည်။

ရှေးခေတ်များဆီက နိုင်ငံအချင်းချင်း စစ်ခင်းကြသည့်အခါ အနိုင်ရသော တိုင်းပြည်က ရှုံးနိမ့်သော တိုင်းပြည်မှ အရည်အသွေးမြင့်သော အသိပညာသမား၊ အတတ်ပညာသမားများကို သိမ်းကျုံးဖမ်းဆီးကာ မိမိတိုင်းပြည်သို့ ခေါ်ဆောင်သွားလေ့ရှိသည်။ မိမိတိုင်းပြည်၏ လူ့စွမ်းအား ရင်းမြစ်တိုးပွားအောင်၊ မိမိတိုင်းပြည်ကို ပိုမို အမျိုးအစား စုံလင်သော အင်အားတို့ဖြင့် တောင့်တင်းခိုင်မာအောင် ဖြည့်တင်းခြင်း ဖြစ်သည်။

ယနေ့ခေတ်မှာလည်း သူတစ်ပါး တိုင်းပြည်မှ ဦးနှောက်တွေ၊ အသိပညာ အတတ်ပညာရှင်တွေ၊ မိမိတိုင်းပြည်သို့ ကူးပြောင်းရောက်ရှိအောင် စည်းရုံးဆွဲဆောင်ကာ မိမိအင်အား တိုးတက်အောင် လုပ်ဆောင်မှုတွေ မပြတ်ရှိနေသည်။

ဥပမာ၊ အမေရိကန်တို့ လက်စွဲပြုသည့် ဆောင်ပုဒ်တစ်ခုက (E pluribus unum)ဟူ၍ ဖြစ်သည်။ (Out of many, one)အမျိုးမျိုး အပြားပြား၊ သို့သော် တစ်ခုတည်း တစ်သားတည်းဟူသော အဓိပ္ပာယ်။ မိမိတို့ တိုင်းပြည်သို့ အရပ်ရပ်မှ လူအမျိုးမျိုး လာကြသည်၊ သို့သော် တစ်သားတည်း ပျော်ဝင်သွားကြသည်၊ မိမိတို့ တိုင်းပြည်သည် လူမျိုးစုံ အယူအဆစုံတို့ ရောနှောပေါင်းစည်းရာ နေရာဌာန (melting pot) တစ်ခုဖြစ်သည် ဟူ၍ ၎င်းတို့က ဆိုသည်။ အရပ်ရပ်က လာသည့် အရည်အသွေး ပေါင်းစုံရှိသူများအားဖြင့် မိမိတို့မှာ အင်အားဖြစ်သည် ဟုဆိုလိုခြင်း ဖြစ်သည်။ ကမ္ဘာ့စစ်ကြီးနှစ်ခုကြား ကာလ ဥရောပမှ ထွက်ပြေးတိမ်းရှောင်လာကြသည့် သိပ္ပံပညာရှင်ပေါင်းစုံ၏ အင်အားကိုယူကာ အမေရိကန်တို့ ပထမဆုံး အဏုမြူလက်နက်ကို တီထွင်ထုတ်လုပ်နိုင်ခဲ့ခြင်းသည် ထင်ရှားသော သာဓကတစ်ခုဖြစ်ပါသည်။

ကျွန်တော်တို့ အနီးအနားရှိ အင်ဒိုနီးရှားနိုင်ငံ၏ ဆောင်ပုဒ်တစ်ခုသည်လည်း အပေါ်ယံ အသွင် ကွဲပြားသော်လည်း အနှစ်သာရက တစ်ခုတည်း အယူအဆ ရှုပ်ပင် ဖြစ်သည်။

ဥရောပနိုင်ငံတို့ စုဝေးညှိနှိုင်းကာ ဥရောပသမဂ္ဂကို ထူထောင်ကြခြင်း သည်လည်း တစ်ဦးချင်းနေသော် အင်အားမရှိ၊ စုပေါင်းမှသာ ကမ္ဘာ့ထိပ်တန်း အင်အားတစ်ခုအဖြစ် နိုင်ငံတကာ မျက်နှာစာ၌ အရေးပါသည့် ရပ်တည်နိုင်မည့် အတွက် ဖြစ်သည်။ အဲသည်တုန်းက ဥရောပသားတွေ သိရှိခဲ့ကြသည့်

ကြေးကြော်သံ တချို့ကို ကြည့်ပါ။ 'တစ်နိုင်ငံနှင့် တစ်နိုင်ငံ မတူညီ၊ သို့သော် တို့အားလုံး ဥရောပသားတွေဖြစ်သည်'၊ 'ကမ္ဘာတိုက်ကြီးများထဲမှာ ဥရောပသည် တိုက်အိုတိုက်ဟောင်း ဖြစ်သည်၊ သို့သော် မျှော်လင့်ချက်အသစ်အတွက် စုစည်းကြမည်'၊ 'တစ်ခုနှင့်တစ်ခု အသွင်သဏ္ဌာန်ချင်း မတူညီကွဲပြားကြသည်၊ သို့သော် မတူညီတာတွေ စုစည်းခြင်းမှ အင်အားဖြစ်စေမည်' စသည်များ ဖြစ်သည်။ သည်ဟာတွေဖြင့် ယုံကြည်မှု တည်ဆောက်ကာ သူတို့ စုစည်းခဲ့ကြသည်။

အထက်က သာဓကတွေအရမူ၊ စည်းလုံးခြင်းသည် အင်အားဖြစ်သည် ဆိုသော်လည်း၊ စည်းလုံးရန်အတွက် အားလုံး တစ်ပုံစံတည်း တစ်ထပ်တည်း ဖြစ်စရာမလို၊ အသွင်အပြင် မတူ အရည်အသွေးမတူသူတွေ တူညီသော ဦးတည်ချက်တစ်ခုအတွက် စုစည်းမိသည့်အခါမှသာ တကယ့်အင်အားဖြစ်သည် ဆိုတာ ထင်ရှားသည်။

ထပ်၍ ဆိုပါမည်။ လူတစ်ရာ စုထားသည်။ အဲသည် တစ်ရာမှာ လယ်သမား၊ လက်သမား၊ အင်ဂျင်နီယာ၊ ဆရာဝန်၊ စီးပွားရေးပညာရှင်၊ ဥပဒေပညာရှင်၊ တီထွင်သူ၊ ရေကြောင်း ပါရဂူ၊ လေကြောင်း ပါရဂူ၊ သိပ္ပံနှင့် နည်းပညာသမား၊ နိုင်ငံရေးသုခမိန်၊ သံတမန်၊ အုပ်ချုပ်ရေးသမား စသဖြင့် မတူညီသော ကဏ္ဍစုံမှ ကျွမ်းကျင်သူ အစုံပါမည် ဆိုလျှင် အရည်အချင်း ပြည့်ဝသော လူတစ်ရာ၊ အင်အားပြည့်ဝသော လူတစ်ရာ ဖြစ်မည်။

လူတစ်ရာပေါင်းပြီး ခေါင်းတစ်လုံးတည်းရှိက စည်းလုံးမှု မဖြစ်။

လူတစ်ရာ ဦးနှောက်တစ်ရာဖြင့် စုပေါင်းမှသာ စည်းလုံးခြင်းမှ ခွန်အား တကယ် ဖြစ်ပေမည်။

[ ၂၈ ဇန်နဝါရီ ၂၀၁၁ ]

# ပြည်သူတို့အတွက် အစိုးရကောင်းတစ်ရပ် တည်ရှိဖို့

အုပ်စိုးခံ ပြည်သူတို့ အစဉ်အဆက် မျှော်လင့် တောင့်တလေ့ရှိသည့် အရာကား အစိုးရကောင်းတစ်ရပ် ရရှိရေးဖြစ်သည်။

ရှေးက၊ မင်းကျင့်တရားဆယ်ပါးနှင့်ညီသော မင်းကောင်းမင်းမြတ် လက်အောက်တွင် နေထိုင်ခွင့်ရဖို့ တောင့်တကြသည်။ ခေတ်သစ်တွင်မူ၊ ပြည်သူတို့ ရွေးကောက် တင်မြှောက်လိုက်သည့် ပြည်သူ့ကိုယ်စားလှယ်များက ပြည်သူ့ဆန္ဒနှင့်အညီ စီမံအုပ်ချုပ်သော ဒီမိုကရေစီ အစိုးရမျိုးကို မျှော်လင့်ကြသည်။

ခေတ်ဟောင်း ခေတ်သစ် မင်းကောင်း အစိုးရကောင်းတို့ လက်ထက်တွင် တိုင်းပြည် ငြိမ်းချမ်းသာယာ၍၊ ပြည်သူလူထု ပျော်ရွှင်ချမ်းမြေ့ကြသည်။ လွတ်လပ်စွာ စီးပွားဥစ္စာ ရှာဖွေနိုင်ကြ၍၊ စာပေယဉ်ကျေးမှုနှင့် အသိပညာ အတတ်ပညာများ ထွန်းကားကာ ဂုဏ်ကျက်သရေ ပြည့်ဝသည့် တိုင်းနိုင်ငံများ အဖြစ် ရပ်တည်နိုင်ကြသည်။

ထို့ကြောင့်၊ နိုင်ငံကောင်းဖို့တွင် အစိုးရကောင်း ရရှိရေးသည် အဓိက အခြေခံတစ်ရပ် ဟုဆိုနိုင်သည်။

သည့်အတွက် ရှေးပဝေသဏီကပင် လူတို့ အားထုတ်ခဲ့ကြသည်။ ရှေးအခါက မဟာသမ္မတမင်း ဟူသည်ကို လူအများ သဘောတူညီချက်ဖြင့် တင်မြှောက်သော အလေ့အထရှိခဲ့ကြောင်း မြန်မာတို့ သိမှတ်ယုံကြည်ကြသည်။ အနောက်တိုင်း၌လည်း အုပ်စိုးမှုခံယူမည့်သူများနှင့် အုပ်စိုးမည့်သူအကြား စာချုပ်တစ်ခု ထားရှိကာ မင်းမြှောက်ကြသည် ဟူသော social contract အယူအဆကို လူအများ ကိုးကား ပြောဆိုလေ့ ရှိကြသည်။ ယင်းအစဉ်အလာ [illegible]ရပ်ကိုကြည့်ကာ ခေတ်စကားနှင့် ပြောရသော်၊ အစိုးရဟူသည် ပြည်သူတို့၏ အလိုဆန္ဒများကို အကောင်အထည်ဖော် ဆောင်ရွက်ရန် ပေါ်ပေါက်လာခြင်း [illegible]မဟုတ် ယင်းကိစ္စ အလို့ငှာ ပြည်သူတို့ ကိုယ်တိုင်က တီထွင် ဖန်တီးခဲ့ခြင်း ဖြစ်သည်ဟု ဆိုနိုင်သည်။

အများပြည်သူတို့အနေနှင့် မိမိတို့ စုဝေးနေထိုင်ရာ လူ့အဖွဲ့အစည်းအတွင်း [illegible]မှု၊ တရားမျှတခြင်းရှိမှု၊ ကိုယ့်ဝမ်းစာကိုယ် လွတ်လပ်စွာ [illegible] [illegible]သောက်နိုင်မှု၊ မိမိစိတ်ဝင်စားရာကို ငြိမ်းချမ်းစွာ လုပ်ကိုင်နိုင်မှုအတွက်

ကာကွယ်စောင့်ရှောက်မှုပြုရန် မင်း သို့မဟုတ် အစိုးရ လုပ်မည့် သူတို့အား တာဝန်အပ်နှင်းပြီး၊ ယင်းအတွက် လုပ်ပိုင်ခွင့် အာဏာများလည်း တစ်ပါတည်း အပ်ကြခြင်း ဖြစ်သည်။

သို့သော်၊ ထိုသို့ အပ်နှင်းပြီးနောက်တွင် မင်းလုပ်မည့်သူဘက်က လိုက်နာရမည့် ကျင့်ဝတ်စည်းကမ်းများကိုလည်း အပြန်အလှန် သဘောအရ သတ်မှတ်ထားခဲ့ခြင်းများ ရှိခဲ့သည်။ မြန်မာတို့ သိကြသည့် မင်းကျင့်တရားဆယ်ပါးတွင် အလှူပေးခြင်း၊ သီလဆောက်တည်ရခြင်း၊ သည်းခံရခြင်း၊ ဖြောင့်မတ်မှန်ကန်စွာ ကျင့်ရခြင်း စသည့် လူတော်လူကောင်း လက္ခဏာ၊ ဘာသာတရား ကိုင်းရှိုင်းမှု လက္ခဏာများအပြင်၊ ပြည်သူနှင့် မဆန့်ကျင်ရခြင်း၊ ပြည်သူကို မညှဉ်းဆဲရခြင်း စသည့် အချက်များလည်း ပါဝင်ရာ မိမိအား အာဏာအပ်နှင်းထားသော ပြည်သူကို လေးစားရိုသေရမည်ဟု ပြဋ္ဌာန်းထားသောသဘော ဖြစ်သည်။

ယနေ့ခေတ်တွင်၊ အစိုးရလုပ်သူတို့အနေနှင့် တိုင်းပြည်အတွက် ပေါ်လစီများ ချမှတ်ရာ၌ အများစုသဘောနှင့် လျော်ညီစွာ ဆောင်ရွက်ရင်း၊ တစ်ချိန်တည်းတွင် အနည်းစု၏ အခွင့်အရေးများကို လေးစားလိုက်နာဖို့လိုကြောင်း၊ လူတစ်စု၏ အကျိုး စီးပွားအတွက် ဘက်လိုက် ဆောင်ရွက်ခြင်းမပြုဘဲ၊ ပြည်သူအများ အကျိုးရှိမည့် အစီအမံများကိုသာ ရွေးချယ်ချမှတ် ဆောင်ရွက်သင့်ကြောင်း ရေးသား ပြောဆိုလေ့ရှိကြရာ ဤသည်မှာလည်း မင်းကျင့်တရား ဆယ်ပါးလာ ဖြောင့်မတ်မှန်ကန်စွာ ကျင့်ကြံရေးဟူသည်နှင့် သဘောချင်း ဆင်တူသည်။

အလားတူ၊ သည်ကနေ့ အသုံးများလာသည့် ပွင့်လင်းမြင်သာမှု (transparency)၊ တာဝန်ခံမှု (accountability) စသည်များမှာလည်း ပြည်သူ အများကို ဖုံးကွယ် လှည့်ဖြားမှုမပြုဘဲ လေးစားတန်ဖိုးထား ဆက်ဆံရန် လိုအပ်ကြောင်း တင်ပြခြင်းများပင် ဖြစ်သည်။

ဤတွင် အုပ်စိုးခံ ပြည်သူတို့အနေနှင့်၊ မိမိတို့ကို အုပ်စိုးရန် တာဝန် ပေးထားသော သူတို့အား၊ မိမိတို့ အကျိုးစီးပွား အလို့ငှာ မိမိတို့ကိုယ်တိုင် ကလည်း စောင့်ကြည့်တည့်မတ်ပေးနေဖို့ လိုအပ်ကြောင်း ပြောလိုသည်။

အကြောင်းက မည်သည့်ပုဂ္ဂိုလ် မည်သည့် အဖွဲ့အစည်းဖြစ်စေ၊ လုပ်ငန်း တာဝန်များ ဆောင်ရွက်ရာ၌ သဘောရိုးသက်သက်နှင့်ဖြစ်စေ မှားယွင်းခြင်းမျိုး ရှိနိုင်သောကြောင့် ဖြစ်သည်။ ထို့ပြင် မိမိအလုပ်ကို တစ်ပါးသူတို့ မသိမမြင်၊ စောင့်ကြည့် ဝေဖန်မှုလည်း မရှိဟု ယူဆသော် ပေါ့လျော့သွားနိုင်သော သဘော လည်း ရှိပါသည်။ အပေါ့လျော့လွန်သော် မိမိမှုရင်း တာဝန်ကို မေ့လျော့ကာ

ယင်းနှင့် မသက်ဆိုင်သည်များ၊ ယင်းနှင့် ဆန့်ကျင်ကွဲလွဲသည်များကိုပါ ထုပ်ကိုင်လာနိုင်သည်။

ထို့ကြောင့်လည်း သမိုင်းတစ်လျှောက် ကြည့်လျှင်၊ ပြည်သူလူထုတို့ သည်သည် အစိုးရကောင်း၏ ကောင်းသော စွမ်းဆောင်ချက်များမှ အကျိုးကျေးဇူး ခံစားရခြင်းထက် မိမိတို့အပေါ် မလိုအပ်ဘဲ တင်ရှိလာသည့် မမျှတသော ဝန်ထုပ်များကို ထမ်းပိုးရခြင်းက ပိုခဲ့သည် ဟုဆိုချင်သည်။

အဓိကမှာ၊ တာဝန်လွှဲထားပြီး စောင့်ကြပ်ကြည့်ရှုမှု မပြုခြင်း၊ သို့မဟုတ် မပြုနိုင်ကြခြင်းတို့ကြောင့် ဖြစ်ပါသည်။

ထို့ကြောင့်၊ အစိုးရတစ်ရပ် ကောင်းမွန်ရေး၊ အစိုးရကောင်း ဟူသော အနေအထားတွင် ရေရှည်တည်တံ့ရေးတို့အတွက်၊

အစိုးရအရာ ရရှိလာသူတို့ ဖြောင့်မတ်မှန်ကန်စွာ ကျင့်ကြံကြရန် အရေးကြီး သကဲ့သို့၊

၎င်းတို့ ယိမ်းယိုင်သွေဖည်သွားခြင်း မရှိရအောင် ထိန်းကျောင်းတည့်မတ် ပေးမည့် ဉာဏ်အမြော်အမြင်ရှိသော ပြည်သူများလည်း ရှိဖို့လိုသည် ဟုဆိုချင် ပါသည်။

[ ၄ ဖေဖော်ဝါရီ ၂၀၁၁ ]

# လူ့အဖွဲ့အစည်း မပျက်စီးစေဖို့

မြန်မာ၌ ဆောကပါလတရားဟူသည်ကို အလေးအမြတ်ပြု ပြောဆိုလေ့ရှိကြ၏။

ဆောကပါလ ဆိုသည်မှာ လောကကို စောင့်ရှောက်သော တရားဟူသော အဓိပ္ပာယ်ဖြစ်၍၊ လောကဟူသည်ကမူ လူ့လောကကို ဆိုလိုခြင်းဖြစ်ရာ ခေတ်စကားနှင့်ပြောသော် လောကပါလဟူသည် လူ့အဖွဲ့အစည်းကို ထိန်းသိမ်း စောင့်ရှောက်သော တရား ဟုဆိုရလိမ့်မည်။

ဘာအတွက် စောင့်ရှောက်သနည်း။

လူ့အဖွဲ့အစည်း မပျက်စီးစေဖို့ ထိန်းသိမ်းစောင့်ရှောက်ခြင်း ဖြစ်သည်။

အများပြည်သူတို့ နှစ်သက်လိုလားသော လူ့အဖွဲ့အစည်း၊ ဂုဏ်ကျက်သရေ ပြည့်ဝသော လူ့အဖွဲ့အစည်း၊ ငြိမ်းချမ်းသာယာ၍ လူအများ ပျော်ရွှင်ချမ်းမြေ့သော လူ့အဖွဲ့အစည်းဖြစ်ရန် ထိန်းသိမ်းစောင့်ရှောက်ခြင်း ဖြစ်သည် ဟူ၍လည်း ဖွင့်ဆိုနိုင်သည်။

သည်တွင် တစ်ဆင့်တက် စောကြောစရာ အကြောင်းရှိသည်။ ဘယ်တရား တွေသည် လောကပါလတရားများ ဖြစ်သနည်းဟူ၍။

မြန်မာ့အစဉ်အလာ၌ ဟိရိဩတ္တပ္ပဟုခေါ်သည့် အရှက်အကြောက်တရား များကို လောကပါလတရားနှစ်ပါးဟု ခေါ်ဆိုလေ့ရှိကြသည်။ ဤတွင် ဟိရိ ဟူသည် မကောင်းမှု ပြုရမည်ကို ရှက်ခြင်း၊ ဩတ္တပ္ပဟူသည် မကောင်းမှုပြုရမည်ကို ကြောက်ခြင်းဟူသော အဓိပ္ပာယ်ဖြစ်ရာ၊ လူအများတို့၌ မကောင်းမှုပြုရမည်ကို ရှက်သော ကြောက်သော စိတ်များ ကိန်းအောင်းနေသည်ရှိသော် ထိုလူတို့ နေထိုင်ရာ လူ့အသိုင်းအဝိုင်း ငြိမ်းချမ်း သာယာလိမ့်မည်ဟူသော သဘော ဖြစ်သည်။ တစ်ဖန်၊ မြန်မာပညာရှိ ပုဂ္ဂိုလ်ထောက် ဦးတင်၏ 'မြန်မာမင်းအုပ်ချုပ်ပုံ စာတမ်း' ကျမ်းတွင် ဟိရိဩတ္တပ္ပတရားနှစ်ပါးကို မင်းတို့ အထူးသဖြင့် ပြည့်စုံ ထိုက်ကြောင်း ဖော်ပြထားရာ လူ့အဖွဲ့အစည်း ငြိမ်းချမ်းသာယာရန်အတွက် သာမန်ပြည်သူတို့ထက် အုပ်စိုးသူတို့ ထိုတရားများ စောင့်ထိန်းရေးသည် ပို၍ အရေးကြီးကြောင်း ထောက်ပြ ပြောဆိုခြင်း ဖြစ်သည်။

အထက်၌ မကောင်းမှုပြုရမည်ကို ရှက်ခြင်း ကြောက်ခြင်းဟူ၍ ဆိုခဲ့ရာ ကောင်းမှု မကောင်းမှု ဟူသည်ကို လူ့အဖွဲ့အစည်းတည်း ဟူသော လောက အဝန်းအဝိုင်းနှင့် ဆက်စပ်စဉ်းစားဖို့ လိုပါမည်။

လူအများစုဝေးနေထိုင်ရာ အဝန်းအဝိုင်းတစ်ခုအတွင်း မည်သည့်အနေအထား မျိုးသည့် အပြုအမူများသည် ကောင်း၍၊ မည်သည့် အနေအထား မည်သည့် အပြုအမူများသည် မကောင်းသနည်း၊ စစ်ကြောကြည့်သည့်အခါ၊

... လူတစ်ယောက် သို့မဟုတ် တစ်စုက အခြားလူတစ်ယောက် သို့မဟုတ် တစ်စု အပေါ် အနိုင်အထက်ပြုကျင့်လျှင် မကောင်း၊ အဝန်းအဝိုင်းတွင် အတူနေကြသူ အချင်းချင်း သင့်တင့်မျှတစိတ်ထားကာ တရားသဖြင့် ဆက်ဆံ နေထိုင်ကြလျှင် ကောင်းသည်၊ ...

... လူတစ်ယောက် သို့မဟုတ် တစ်စုက စိတ်သွားတိုင်းကိုယ်ပါ လိုရာကို ဆောင်ရွက်နိုင်ကြလျက်၊ တစ်ယောက် သို့မဟုတ် တစ်စုက ချုပ်ချယ် ခံ့သတ်ခြင်း ခံနေရလျှင် မကောင်း၊ သူရောကိုယ်ပါ လွတ်လပ်စွာ ရပ်တည် ရှင်သန်နိုင်ကြလျှင် ကောင်းသည်၊ ...

... လူတစ်ယောက် သို့မဟုတ် တစ်စုက အကျိုးကျေးဇူးကြီးမားစွာ ခံစား နေရပြီး အခြားတစ်ယောက် သို့မဟုတ် တစ်စုက ခံစားခွင့် ကင်းမဲ့ကာ နစ်နာ ဆုံးရှုံးနေရလျှင် မကောင်း၊ သူရောကိုယ်ပါ တန်းတူညီမျှ နေရာရ၍ ခံစားခွင့် အရာ၌ တူညီကြလျှင် ကောင်းသည်၊ ... စသဖြင့် စဉ်းစား၍ရသည်။

၎င်းသည်တို့ကို ခေတ်ကာလ နိုင်ငံရေးစကားနှင့် ပြောသော် တရားမျှတခြင်း၊ လွတ်လပ်ခြင်း၊ တန်းတူညီမျှခြင်းဟူ၍ ဖြစ်လာသည်။

တစ်နည်းပြောသော်၊ နိုင်ငံတကာက သိမှတ်လက်ခံကြသည့် နိုင်ငံရေး ဝေါဟာရပါလ တရားသုံးပါး။

တစ်ခုနှင့်တစ်ခု နီးနွယ်ဆက်စပ်လျက်ရှိသည့် အဆိုပါ တရားသုံးပါး အကြောင်းကို အကျဉ်းမျှစီ ပြောလိုသည်။

ဦးစွာ၊ တရားမျှတခြင်း။

တရားမျှတခြင်းဟူသော စကားတွင်၊ သမာသမတ်ကျခြင်း၊ အကျိုးခံစားခွင့် တူညီခြင်းဟူသော အဓိပ္ပာယ်များအပြင်၊ သက်ဆိုင်ရာ လူ့အဖွဲ့အစည်းအတွင်း ချမှတ်ထားသည့် ဥပဒေစည်းကမ်းများနှင့် ညီညွတ်ခြင်းဟူသော အဓိပ္ပာယ် တစ်ခုလည်း ပါဝင်နေသည်။

အတူတကွ စုဝေးနေကြသော လူတို့၌ ရှိကြသည့် ကြီးမားသော အား တစ်ခုက မိမိတို့ အချင်းချင်းကြား တရားမျှတမှုရှိနေ ခြင်းသည်။ မိမိအပေါ် မတရားဘူးဟု ယူဆလျှင် မည်သူမျှ မခံချင်၊ မတရားမှုကို တော်လှန်ချင် ဆန့်ကျင်ချင်သည်။ သည်အခါ အဝန်းအဝိုင်းအတွင်း ငြိမ်းချမ်းသာယာမှု

အတွက် ဖွံ့ဖြိုးမှုသို့ ဦးတည်စေသည်။ ထို့ကြောင့် တရားမျှတမှုရှိရေးကို အလေးထားကြသည်။

စင်စစ် တရားမျှတမှုဟူသည် လူ့အဖွဲ့အစည်းတစ်ခုအတွင်း မသင့်တင့်မှုများ မဖြစ်စေအောင်၊ သို့မဟုတ် စည်းလုံးညီညွတ်မှု ရှိအောင် ချည်နှောင်ပေါင်းစည်း ပေးသည့် အရေးကြီးသော ကြိုးတစ်ချောင်းဖြစ်သည် ဟုဆိုနိုင်သည်။

ထို့နောက်၊ လွတ်လပ်ခြင်း။

လူသည် ပင်ကို သဘောအရပင် လွတ်လပ်ခြင်းကို နှစ်သက်၏။ လွတ်လပ်မှု ဆောင်းမဲ့သော စိတ်ငြိုငြင်ဆင်းရဲ၏။

လူဟူ၍ ဖြစ်လာကတည်းက စိတ်တစ်ခု ကိုယ်တစ်ကိုယ်တွဲ၍ တည်ရှိလာသည် ဖြစ်ရာ၊ စိတ်ဆန္ဒရှိရာ လုပ်ကိုင်ပိုင်ခွင့်ကို သဘာဝ လွတ်လပ်ခွင့်ဟု လူတို့ သဘောထားကြ၏။ သို့သော် အများနှင့် စုပေါင်းနေထိုင်လာသည့်အခါ မိမိ လွတ်လပ်ခွင့်နှင့် သူတစ်ပါး လွတ်လပ်ခွင့်တို့ အငြိအတင် မဖြစ်ရအောင် သူရောကိုယ်ပါ ထိန်းသိမ်းဆင်ခြင်ဖို့ လိုတာ သဘောပေါက်ကြ၏။ ထို့ကြောင့် လည်း ဥပဒေစည်းမျဉ်းစည်းကမ်း ဟူသည်များကို လူတို့ သိမှတ်လက်ခံကြခြင်း ဖြစ်၏။ တစ်နည်းပြောသော်၊ လူနေကျဲ၍ လူလူချင်း ဆက်ဆံမှု နည်းသော ရှေးခေတ်ဦးက သဘာဝလွတ်လပ်ခွင့်ကို အနှောင့်အနှေးမရှိ ခံစားခဲ့ရာက အစုအဝေးနှင့် နေလာကြသည့်အခါ၌ လူမှုစည်းကမ်းဘောင် အတွင်းမှ လွတ်လပ်ခွင့် ဟူသော အဆင့်သို့ ကူးပြောင်းလာခဲ့ကြခြင်း ဖြစ်၏။

သို့သော်၊ လူ့အသိုင်းအဝိုင်းအတွင်း တပါးသူတို့၏ လွတ်လပ်ခွင့်ကို မထိပါးသမျှ ကာလပတ်လုံး မိမိ စိတ်ဆန္ဒရှိရာ လွတ်လပ်စွာ လုပ်ပိုင်ခွင့်ရှိဖို့ကို လည်းကောင်း၊ မိမိ လိုက်နာရမည့် ဥပဒေစည်းကမ်းများဟူသည်လည်း မိမိ အပါအဝင် အများသူငါတို့၏ သဘောဆန္ဒဖြင့် ရေးဆွဲပြဋ္ဌာန်းထားသော ဥပဒေစည်းကမ်းများဖြစ်ဖို့ကို လည်းကောင်း၊ လူအများ လိုလားကြသည်။

အဲသည်လို အနေအထားမျိုးရှိလျှင် မိမိနေထိုင်ရာ လူ့အဖွဲ့အစည်းသည် သာယာ နေပျော်သော လူ့အဖွဲ့အစည်းအဖြစ် လူအများ နှစ်သက် လက်ခံမည် ဖြစ်သည်။

တတိယ၊ တန်းတူညီမျှခြင်း။

လူတွေသည် တစ်ယောက်နှင့်တစ်ယောက် ရုပ်ဆင်းအင်္ဂါလည်း မတူ စိတ်ဓာတ် စရိုက်ချင်းလည်း ကွဲပြားကြသည်။ အလားတူ မွေးဖွားရာဇာတိ ပြောဆိုသည့် ဘာသာစကား၊ ကိုးကွယ်သည့်ဘာသာ၊ ရိုးရာဓလေ့နှင့် ယဉ်ကျေးမှု

များလည်း အမျိုးမျိုး အပြားပြား ရှိနေကြသည်။ သို့သော်၊ အဲသည်လို မတူကွဲပြားကြသူတွေ လူ့အဖွဲ့ အစည်းတစ်ခုအတွင်း အတူတကွ စုဝေးနေထိုင်မိကြသည့်အခါ ကွဲပြားခြင်းကို အခြေခံကာ ခွဲခြားမှုများ မပြုကြဖို့ အရေးကြီးလာသည်။ ဥပမာ၊

သူက အဖြူ ငါက အမည်း၊ တို့က အများ သူတို့က အနည်းဟူ၍ လူချင်း ခွဲခြားမှုမပြုဖို့ လို၏။

တိုင်းပြည်က စီမံခန့်ခွဲပေးသည့် ပညာသင်ကြားခွင့်၊ ကျန်းမာရေး စောင့်ရှောက်မှု ခံယူခွင့်၊ လူမှုဖူလုံရေး ခံစားခွင့် စတာတွေမှာ တူညီဖို့ လို၏။

အလားတူ၊ နိုင်ငံ့ဝန်ထမ်းအလုပ်၊ ကိုယ်ပိုင်အလုပ်များ လုပ်ကိုင်ရာ၌ အခွင့် အလမ်းများ တူမျှစွာ ရရှိဖို့လို၏။

ထို့ပြင်၊ တရားဥပဒေ၏ ရှေ့မှောက်၌ သူက မျက်နှာသာပေးခံရ၍၊ ငါက နှိမ်ကွပ် ခံရသည် ဆိုတာမျိုး မရှိဖို့ လို၏။

သည့်အပြင်၊ နိုင်ငံ့အရေးကိစ္စများကို စီမံဆောင်ရွက်မည့် ပြည်သူ့ကိုယ်စားလှယ်များ ရွေးကောက်တင်မြှောက်ရာ၌ အများနည်းတူ မိမိလည်း ပါဝင်ဆန္ဒမဲပေးခွင့်ရှိဖို့ အကယ်၍ စိတ်ပါဝင်စားပါက အများသူငါ ဝင်ရောက်ယှဉ်ပြိုင်သလို မိမိလည်း ပါဝင် ယှဉ်ပြိုင်ကာ အရွေးချယ်ခံပိုင်ခွင့်ရှိဖို့၊ အဲဒါတွေလည်း လို၏။

သည်လို အနေအထားတွေ ပြည့်စုံမည်ဆိုလျှင် အဲသည် လူ့အဖွဲ့အစည်းအတွင်း အပေါ်ယံ မတူကွဲပြားမှုများကြားမှာ အနှစ်သာရ သဘောအရ တန်းတူညီမျှမှု ရှိနေသည် ဟုဆိုရမည် ဖြစ်၏။

အဲဒါဆိုလျှင် အဲသည် လူ့အဖွဲ့အစည်းအတွင်း နေထိုင်သူအနေနှင့် မိမိရပ်ရွာ ဒေသနှင့် စပ်လျဉ်း၍ ကျေနပ်နှစ်သက်နိုင်မည်၊ မိမိ မည်သည့် တိုင်းပြည်ဒေသကပါဟုလည်း ဂုဏ်ယူစွာ ပြောဆိုနိုင်မည် ဖြစ်သည်။

ဤသည်က လောကပါလတရား ထွန်းကားသော လူ့အဖွဲ့အစည်းတို့၏ သဘောကို အကျဉ်းမျှ ပြောခဲ့ခြင်းဖြစ်၏။

သည်လို အဖွဲ့အစည်းမျိုးသည် သူ့အလိုအလျောက် အချောက်တိုက် ခြင်ပေါ်။

တရားမျှတခြင်း၊ လွတ်လပ်ခြင်း၊ တန်းတူညီမျှခြင်းဟူသော များကို လေးစားတန်ဖိုးထားသောစိတ်၊ မိမိတို့ကြောင့် ထိုတရားများ ယွင်းမည်ကို ရှက်သော ကြောက်သော စိတ်တို့ အုပ်စိုးသူများ များပြည်သူတို့ထံ၌ပါ စွဲမြဲစွာ ကိန်းအောင်းကာ၊ ထိုတရားများ

အတွက် မိမိ ရောက်ရှိရာနေရာမှ မပြတ် ကြိုးပမ်းအားထုတ်ခြင်းဖြင့်သာ
ကျက်သရေ မင်္ဂလာရှိသော အဆိုပါ လူ့အဖွဲ့အစည်းမျိုး ဖန်တီး တည်ဆောက်
နိုင်ပေမည်။

[ ၉ ဖေဖော်ဝါရီ ၂၀၁၁ ]

# နိုင်ငံရေးသမားတို့၏ အရည်အသွေးကို ဘယ်အရာနှင့် တိုင်းတာမည်နည်း

...လောက ပြည်ထောင်စုအစိုးရအဖွဲ့အတွက် ဝန်ကြီး ၃၀ စာရင်းနှင့်အတူ ...င်းတို့၏ ကိုယ်ရေးအကျဉ်းများ ထွက်ရှိလာရာ အားလုံးလိုပင် ဘွဲ့ရပုဂ္ဂိုလ်များ ...ကြောင်း တွေ့ရှိရသည်။ ယင်းအထဲတွင် မဟာဝိဇ္ဇာ (ကာကွယ်ရေး) ဘွဲ့ရ ...များအပြား ပါဝင်ပြီး၊ ကျန်ပုဂ္ဂိုလ်များထဲတွင် အင်ဂျင်နီယာဘွဲ့ရ သုံးဦး၊ ...းပညာရှင် တစ်ဦး၊ သိပ္ပံပါရဂူဘွဲ့ရသူ တစ်ဦး၊ စစ်တက္ကသိုလ် အခြေခံ ...ရှင့် ဝိဇ္ဇာသိပ္ပံဘွဲ့ရအချို့ ပါဝင်တာ တွေ့ရသည်။

လူ ၃၀ ထဲတွင် ဘွဲ့ရမဟုတ်သူ တစ်ဦးသာ ပါဝင်ရာ၊ ကျောင်းပညာအရ ...ဆင့်မနိမ့်သည့် ဝန်ကြီးအဖွဲ့ ဟုဆိုရပေမည်။

ပြည်နယ်နှင့်တိုင်း ဝန်ကြီးများ၏ ပညာအရည်အချင်းကို စစ်ကြော ...ည့်လျှင်လည်း အလားတူ သဘောမျိုးပင် တွေ့ရှိရလိမ့်မည်ဟု ယူဆရသည်။

ဝန်ကြီးလုပ်မည့်သူတစ်ယောက် ကျောင်းပညာ ဘယ်လောက်တတ်ဖို့ ...သနည်း ဟူသည်နှင့် စပ်လျဉ်း၍ သဘောထား အမျိုးမျိုး ရှိနိုင်ကြသော်လည်း ...င်ငံရေးလုပ်သူ ဖြစ်စေ၊ စီးပွားရေးလုပ်သူဖြစ်စေ အခြေခံပညာ ကောင်းခြင်းသည် ...၏ အလုပ် ကောင်းမွန်ရေးအတွက် တစ်စိတ်တစ်ပိုင်း အထောက်အကူပြု ...မည် ဟူသောအချက်ကိုမူ အငြင်းပွားကြလိမ့်မည် မထင်ပါ။

သို့သော်၊ နိုင်ငံရေးသမားကောင်း ဖြစ်ဖို့မှာ ကျောင်းပညာအပြင် တခြား ...တွေ လိုအပ်ပါသနည်း။

ပထမအချက်၊ စောစောက ပြောနေသည့် 'ပညာ'နှင့်ပင် ဆက်စပ်၍ ...ပြောလိုသည်။ မည်သည့် လုပ်ငန်းကဏ္ဍ လုပ်ကိုင်သူမဆို အခြေခံပညာအပြင် ...သည်လုပ်ငန်းကဏ္ဍဆိုင်ရာ အသိပညာ အတတ်ပညာများလည်း ပြည့်စုံ ...ပါသည်။ စီးပွားရေးပညာ၊ လုပ်ငန်းစီမံခန့်ခွဲမှုပညာများ မတတ်ကျွမ်းဘဲ ...ငန်းကြီးကြီးမားမား လုပ်ကိုင်နိုင်မှာ မဟုတ်သကဲ့သို့ နိုင်ငံရေးဆိုင်ရာ ...သိပညာ အတတ်ပညာ သို့မဟုတ် နိုင်ငံရေးဦးနှောက် မရှိဘဲ ထိရောက် ...က်မြက်သော နိုင်ငံရေးသမားတစ်ယောက် ဖြစ်လာလိမ့်မည် မဟုတ်ပါ။

ပြီးခဲ့သည့် ရွေးကောက်ပွဲမတိုင်မီက ပါတီတွေ အလျင်စလို စုဖွဲ့ပြီး ...ရွေးကောက်ပွဲဝင်မည့်သူများ ရှိဖို့အတွက် အပြေးအလွှား လိုက်လံရှာဖွေ

စည်းရုံးကြတာ အားလုံးအသိ ဖြစ်သည်။ အဲသည်တုန်းက ပါတီ ထူထောင်ဖို့ စုဖွဲ့ကြသူများထဲတွင် အများစုက နိုင်ငံရေးစိတ်ဓာတ် ထက်သန်သူတွေ နိုင်ငံရေး အတွေ့အကြုံရှိပြီးသူတွေ ဖြစ်ပါလိမ့်မည်။ သို့သော် ရွေးကောက်ပွဲ ဝင်သည့် ကိုယ်စားလှယ်လောင်းများထဲမှာတော့ မူလနိုင်ငံရေးသမားများထက် စီးပွားဥစ္စာ၊ ကျောင်းပညာ၊ အသိုင်းအဝိုင်း အရှိန်အဝါ စသည်တို့အရ ရပ်ရွာ ဘင်ပြ၍ ကောင်းသူတွေက ပို၍ များနေနိုင်သည်။ အကြောင်းက ပါတီငယ် များရော ပါတီကြီးများပါ ရပ်ပြကောင်းသူတို့ကို မိမိတို့ ကိုယ်စားလှယ်လောင်း များအဖြစ် ရွေးချယ်နိုင်ကြသောကြောင့် ဖြစ်သည်။

အကြောင်းအားလျော်စွာ သည်ပုဂ္ဂိုလ်တွေ နိုင်ငံရေးရာထူး ရကြသည့်အခါ ရာထူးနှင့် ထိုက်တန်စွာ ဆောင်ရွက်နိုင်စွမ်း ရှိ၊ မရှိ ဟူသည် တိုင်းပြည်အတွက် လည်းကောင်း၊ ပြည်နယ်များ တိုင်းများ ဒေသများအတွက်လည်းကောင်း အရေးကြီးသော ကိစ္စ ဖြစ်လာသည်။ အကြောင်းက စီမံခန့်ခွဲသူတို့ ညံ့ဖျင်းလျှင် တိုင်းပြည်ရော လူမျိုးပါ နစ်နာနိုင်သောကြောင့် ဖြစ်သည်။

နိုင်ငံတကာ၌ပင် ရာထူးကြီးကြီး ရရှိကြသူတို့အနေနှင့် မိမိ တာဝန်ယူသည့် ကဏ္ဍမှာ ကာလရှည်ကြာ အောင်မြင်စွာ ဆောင်ရွက်နိုင်ခဲ့သည့်တိုင် အကြောင်း ကြောင်းကြောင့် ကြီးကြီးမားမား အမှားတစ်စုံတစ်ရာ ဖြစ်ပေါ်ခဲ့မည်ဆိုလျှင် သည့်အတွက် မိမိမှာ တာဝန်ရှိပါသည်ဟု ဝန်ခံသောသဘောဖြင့် ရာထူးမှ နုတ်ထွက်သွားကြသည့် အစဉ်အလာမျိုး ရှိသည်။ ဤသည်မှာ ကောင်းသော အစဉ်အလာတစ်ရပ်ဖြစ်၍ ၎င်းပုဂ္ဂိုလ်တို့၏ အပြုအမူသည်လည်း အစဉ်အလာ ကောင်းကို လေးစားစောင့်ထိန်းသော အပြုအမူအဖြစ် အသိအမှတ်ပြုကြရမည် ဖြစ်သည်။

နိုင်ငံရေးလုပ်မည့်သူ၌ နိုင်ငံရေးရာ ကျွမ်းကျင်တတ်သိမှုအပြင် မရှိမဖြစ် လိုအပ်သည့် အခြား အရည်အသွေးနှစ်ခု ရှိသေးသည်။ ယင်းက ရိုးသား ဖြောင့်မတ်မှုနှင့် တိုင်းပြည်ကို ချစ်မြတ်နိုးမှုတို့ ဖြစ်သည်။

နိုင်ငံရေးသမားဟူသည် မိမိလုပ်ငန်းလမ်းစဉ်များ အောင်မြင်ရေးအတွက် ပရိယာယ်များ၊ မဟာဗျူဟာ နည်းဗျူဟာများ ချမှတ်ဆောင်ရွက်ရသည်တို့ ရှိမည်သာ ဖြစ်၏။ သို့သော်၊ အဲဒါသည် တစ်ကဏ္ဍဖြစ်၍ အများပြည်သူနှင့် ဆက်ဆံသည့် နေရာ၌ကား ကတိတည်သူ၊ ဖြောင့်မတ်တည်ကြည်သူ ဖြစ်ရ ဆမည်။ အဲဒါမှသာ အများပြည်သူတို့ စိတ်၌ ဒီလူက ဘာပဲဟူ၍ ခွဲခွဲခြားခြား မှတ်သားနိုင်လိမ့်မည်။ ထို့နောက်၊ အဲသည်မှ ဆက်ကာ အယူအဆတူသူတို့၏

သုံးကြည်ကိုးစားမှုကို ခံယူ ရရှိလိမ့်မည်။ နိုင်ငံရေးသမားတို့၌ စွဲကပ်တတ်သည့် အစိုက အပြစ်အနာအဆာများထဲတွင် အဂတိလိုက်စားခြင်း၊ အာဏာအလွဲသုံးစား ကိုယ်ကျိုးရှာခြင်းတို့ ထိပ်ဆုံးက ပါဝင်ရာ ရိုးသားဖြောင့်မတ်မှု အရေးကြီးကြောင်း ပြင်ရှားသည်။

နိုင်ငံရေးသမားတစ်ဦး ရိုးသားဖြောင့်မတ်နိုင်ရေးတွင် ယုံကြည်ချက် ခိုင်မာမှုသည်လည်း အရေးကြီးသည်။ တူညီသော ရည်ရွယ်ချက်၊ လမ်းစဉ် သို့မဟုတ် ယုံကြည်ချက်ကို အခြေခံကာ ပါတီတစ်ခု အဖွဲ့အစုတစ်ခုနှင့် ပူးတွဲ လုပ်ဆောင်နေရာမှ အနေအထားတွေ ပြောင်းလဲသွားသောအခါ အခွင့်အလမ်း ရှိသည့်ဘက်သို့ အလွယ်တကူ ပြောင်းရွှေ့သွားသူတွေ ရှိသည်။

ယုံကြည်ချက်ကို အကျိုးစီးပွားနှင့် အလဲအလှယ်ပြုကြသူများ ဖြစ်သည်။

လူတို့သည် ဘဝအတွေ့အကြုံများနှင့် အသစ်ရရှိလာသည့် အတွေးအမြင် ဗဟုသုတများကြောင့် အယူအဆ ပြောင်းလဲနိုင်ကြသည်။ နိုင်ငံရေးသမား သည်လည်း အလားတူ သဘောအရ ယုံကြည်ချက်များ ပြောင်းလဲနိုင်သည်။ သို့သော် အသစ်တိုးလာသော အသိအမြင်ကြောင့် ပြောင်းလဲခြင်းနှင့် အကျိုး စီးပွားအတွက် ပြောင်းရွှေ့သွားခြင်းတို့သည် သိသာစွာပင် ကွဲပြားခြားနားတတ် ကြသည်။

တတိယ၊

နိုင်ငံရေးသမားဟူသည် အများနှင့်ဆိုင်သောကိစ္စ သို့မဟုတ် တစ်တိုင်း ပြည်လုံးနှင့် ဆိုင်သော အရေးအရာများကို တာဝန်ယူ လုပ်ကိုင်ကြမည့် သူများဖြစ်ရာ ၎င်း၌ တိုင်းပြည်နှင့် လူမျိုးကို ချစ်မြတ်နိုးသောစိတ် ခိုင်မာစွာ တည်းအောင်းတည်ရှိဖို့ အရေးကြီးသည်။ အဲဒါမှသာလျှင်၊ ကိစ္စကြီးငယ်များ အတွက် ဆုံးဖြတ်ချက်များ ချမှတ်ရမည့်အခါတိုင်းတွင် တိုင်းပြည်နှင့် လူမျိုး အကျိုးရှိ၊ မရှိ ဟူသော ပေတံတစ်ခုဖြင့် မမေ့မလျော့ တိုင်းတာချိန်ညှိ ကြသကဲ့သို့၊ သည်ကိစ္စကတော့ တိုင်းပြည်အတွက် အန္တရာယ်ဆိုးဆိုးကြီး ဖြစ်မြင်သည့်အခါမျိုးတွင် အသက်စည်းစိမ်ကို မငဲ့ကွက်ဘဲ ရှေ့ရှုင်ဆိုင် ဆောင်ရွက်ကြမည် ဖြစ်သည်။

ခေတ်ပေါ်ဆဲသော နိုင်ငံရေးသမား၊ တိုင်းချစ်ပြည်ချစ်စိတ် နည်းပါးသော နိုင်ငံရေးသမားတို့ လက်သို့ တိုင်းပြည်ကို အပ်မိလျှင် နိုင်ငံနှင့် လူမျိုး ပျက်စီး ဆုံးရှုံးနိုင်ရာမှာ သေချာသည်။

အထက်တွင်၊

နိုင်ငံရေးသမား၏ အရည်အသွေးသုံးရပ်အဖြစ် နိုင်ငံရေးရာ တတ်သိလိမ္မာမှု၊ နိုးသားဖြောင့်မတ်မှုနှင့် တိုင်းပြည်နှင့် လူမျိုးကို ချစ်မြတ်နိုးမှုတို့အကြောင်း ပြောခဲ့သည်။ သည်အရည်အသွေးတွေ ပြည့်မီညီညွတ်အောင် ကျင့်ကြံအားထုတ်နိုင်သည် နိုင်ငံရေးသမားကောင်း ဖြစ်လိုသူတို့၏ တာဝန်ဖြစ်သကဲ့သို့၊ ၎င်းတို့အား ထိုအရည်အသွေး များဖြင့် တိုင်းတာ အကဲဖြတ်ကာ လိုအပ်လျှင် လိုအပ်သလို အခါအခွန် ကွပ်ညှပ်မှုပြုဖို့သည်လည်း ပြည်သူပြည်သားကောင်းတို့ဘက်က သတိပြု ဆောင်ရွက်ရမည့် ဝတ္တရားများပင် ဖြစ်ပါသည်။

[ ၂၂ ဖေဖော်ဝါရီ ၂၀၁၁ ]

# လယ်ယာကျေးလက် ဖွံ့ဖြိုးတိုးတက်ရေး

ိုင်းပြည်လူထု အများစုသည် လယ်ယာကျေးလက်တွင် နေထိုင်ကြ၍ နိုင်ငံ့ ီးပွားရေးသည်လည်း စိုက်ပျိုးရေးတွင် အဓိက အခြေခံလျက်ရှိနေရာ၊ လယ်ယာ ကိစ္စသည် ခေတ်အဆက်ဆက် အစိုးရများ နိုင်ငံရေးပါတီများ နိုင်ငံရေးသမားများ အလေးဂရုပြုရသည့် အရေးကိစ္စတစ်ခု ဖြစ်ခဲ့သည်။

ထို့ကြောင့်လည်း ကျေးလက်ဖွံ့ဖြိုးတိုးတက်ရေး၊ တောင်သူလယ်သမား တို့၏ လူမှုစီးပွားဘဝ မြင့်မားလာရေး ဟူသည်ကို တိုင်းပြည်ရေးရာ စီမံ န်ခွဲလိုသူတို့ အစဉ်တစိုက် ကြွေးကြော် ပြောဆိုလာခဲ့ကြခြင်း ဖြစ်သည်။

ကိုလိုနီခေတ်က လယ်ယာမြေတွင် စီးပွားရေး ကြီးနိုင်ငယ်ညှဉ်းစနစ် ီးစိုးသဖြင့် တောင်သူလယ်သမားများ ဖွတ်ကျောပြာစု ခရဆံကျွတ်ဖြစ်ကာ ခံရပ်နိုင်သည့်အဆုံး၌ တောင်သူလယ်သမား အရေးတော်ပုံကြီးတစ်ရပ် ေါ်ပေါက်ခဲ့ဖူးသည်။ ၎င်းသည်က လူမှုစီးပွားပြဿနာမှ နိုင်ငံရေးပြဿနာသို့ ူးပြောင်းသွားခြင်းပင် ဖြစ်သည်။

ကိုလိုနီခေတ်က အတွေ့အကြုံကို သင်ခန်းစာယူကာ လွတ်လပ်ပြီးခေတ် အစိုးရ အဆက်ဆက်တို့ လယ်ယာမြေ၌ ပြုပြင်ပြောင်းလဲရေးများ ပြုလုပ်ရန် အစဉ်တစိုက် အားထုတ်ခဲ့ကြသည်။ သို့သော်၊ စီးပွားရေးနှင့် နိုင်ငံရေးတို့ ောွးရောယှက်တင်နေသည့် လယ်ယာမြေ၏ အရေးကိစ္စများသည် နက်ရှိုင်း ူယ်ဝန်းလှသည်ဖြစ်ရာ ပြဿနာကို ဖြေရှင်းရင်း ပြဿနာသစ်တွေ ဆင့်ပွား ေါ်ပေါက်ကာ အဆင်ပြေသည့် အနေအထားသို့ မရောက်ခဲ့ပေ။

ပြီးခဲ့သည့် နှစ်အနည်းငယ်အတွင်းကမူ စက်မှုလယ်ယာစနစ် တိုးတက် ဖြစ်ပေါ်လာရေး၊ ယင်းနှင့် လျော်ညီသည့် စက်မှုလယ်ယာ လုပ်ငန်းကြီးများ ေါ်ပေါက်လာရေးတို့နှင့် ဆက်စပ်ကာ လယ်ယာမြေကိစ္စ ဆွေးနွေးပြောဆိုသံများ ြားလာရပြီး၊ ပြီးခဲ့သည့် ရွေးကောက်ပွဲ အကြိုကာလ ပါတီတို့ မူဝါဒများ ကြေညာကြစဉ်လောက်က စတင်ကာ လယ်ယာမြေ၏ အရေးကိစ္စသည် များပြည်သူ ဆွေးနွေးဝေဖန်မှုနယ်ပယ်သို့ ထင်ထင်ရှားရှား ဖြ[illegible] ောက်ရှိလာတာ တွေ့မြင်ရသည်။

ယင်းသို့ ဆွေးနွေးဝေဖန်ကြသည့်အနက် အဓိက အကြောင်း[illegible] လယ်ယာမြေပိုင်ဆိုင်မှုနှင့် ပတ်သက်သည်။ သည်ပြဿနာနှင့် [illegible]

အပြိုင်တက်လာသည့် အယူအဆနှစ်ရပ် ရှိခဲ့သည်။ အဲဒါက 'လယ်လုပ်သူ လယ်ပိုင်ခွင့်' နှင့် 'လယ်လုပ်သူ လယ်လုပ်ပိုင်ခွင့်'။

သည်အယူအဆနှစ်ရပ်သည် ခေါင်းစဉ်များ၊ အကျဉ်းချုပ် ပြောဆိုချက်များ အနေအဖြင့် ပရိသတ်ရှေ့သို့ ရောက်ရှိခဲ့ပြီ ဖြစ်သော်လည်း၊ အသေးစိတ် အကျယ်တဝင့်၊ ကြောင်းကျိုးပြချက်များ၊ ရှင်းလင်းချက်၊ ချေပချက်များနှင့်တကွ ပြည့်ပြည့်စုံစုံ ငြင်းခုံဝေဖန်ကြသည့် အဆင့်သို့ကား မရောက်ရှိသေးပေ။

**ဧင်စစ်**၊ လယ်ပိုင်ခွင့်ရော လုပ်ပိုင်ခွင့်ပါ ပိုင်ဆိုင်မှု နယ်ပယ်ထဲတွင် **ရှိနေရာ**၊ လယ်ယာမြေကို နိုင်ငံက မည်သည့် အတိုင်းအတာထိ ပိုင်ဆိုင်၍ **တစ်ဦးချင်းသော** လယ်သမားတို့က မည်သည့် အတိုင်းအတာထိ ပိုင်ဆိုင်ခွင့် ရှိသင့်သည် ဟူသောအချက်ကို နိုင်ငံရေးသမားများ၊ ဆက်စပ်ပတ်သက်သည့် ကဏ္ဍစုံမှ ပညာရှင်များနှင့် တောင်သူလယ်သမားများ ပါဝင်သော ဆွေးနွေးပွဲ များဖြင့် အဖြေရှာမှသာ အနီးစပ် အသင့်တော်ဆုံး အဖြေတစ်ရပ် ထွက်ပေါ် လာလိမ့်မည် ဟုမြင်ပါသည်။

လယ်ယာမြေနှင့် စပ်လျဉ်း၍ အများတင်ပြနေကြသည့် နောက်အကြောင်း အရာတစ်ခုက လယ်သမားနှင့် စိုက်ပျိုးသီးနှံ ရွေးချယ်ခွင့်ပြဿနာ ဖြစ်သည်။

မည်သူမဆို သင့်တင့်မျှတစွာ စဉ်းစားမည်ဆိုက လယ်သမားသည်လည်း သူ့အလုပ်ကို သူ နားလည်မည်သာဖြစ်ကြောင်း လက်ခံနိုင်မည် ဖြစ်၏။

မိမိ လယ်ယာမြေ၌ မည်သည့်အချိန် မည်သည့်သီးနှံကို စိုက်ပျိုးလျှင် မည်မျှအကျိုးရှိမည် ဆိုတာ သူ ကောင်းစွာ သိလိမ့်မည်။ အကယ်၍ သူ့ကို လွတ်လပ်စွာ ရွေးချယ်ခွင့် ရှိမည်ဆိုလျှင် သူသည် သူ့အတွက် အကျိုးအရှိဆုံး သီးနှံကို ရွေးချယ် စိုက်ပျိုးလိမ့်မည်။ လယ်သမားတစ်ဦးချင်းက မိမိမြေယာမှ အကျိုးအမြတ် အများဆုံး ရအောင် ထုတ်ယူနိုင်ခဲ့လျှင် တိုင်းပြည်၏ မြေယာများမှ တိုင်းပြည်အတွက် အကျိုးအမြတ် အများဆုံး ရရှိခဲ့သည်ဟု ဆိုရမည်သာ ဖြစ်သည်။

သို့သော်၊ ဗဟိုဦးစီးအစိုးရများ လက်ထက်တွင် တောင်သူလယ်သမားသည် မိမိကံကြမ္မာ၊ သို့မဟုတ် မိမိဘဝတိုးတက်မှုကို မိမိဘာသာ မဖန်တီးနိုင် အားလုံးအတွက် သိမ်းကျုံး ရွေးချယ်ထားသည့် သီးနှံအမျိုးအစားကို ညွှန်ကြား သည့်အတိုင်း စိုက်ပျိုး၍၊ သတ်မှတ်သည့် ဈေးနှုန်းဖြင့် ရောင်းချကြရသည် ဖြစ်ရာ တစ်ဦးချင်းလည်း နစ်နာ တိုင်းပြည်အတွက်လည်း အကျိုးမရှိ ဖြစ်ခဲ့သည်။

ထို့ကြောင့်၊ အများပြည်သူကို ကိုယ်စားပြုသော အစိုးရတို့အနေနှင့် လယ်သမားတို့ လွတ်လပ်စွာ ရွေးချယ်ခွင့်ရရှိရေးကို အလေးထား ဆောင်ရွက်သင့်သည် ဟုဆိုချင်သည်။ စင်စစ်၊ ဤသည်ပင်လျှင် ဈေးကွက်စီးပွားရေး စနစ်နှင့် ညီညွတ်သော အစီအစဉ်ဖြစ်သည် ဟုလည်း ပြောချင်သည်။

ယခုအခါ ဆွေးနွေးလာနေသည့် တတိယအကြောင်းတစ်ရပ်က၊ လယ်ယာထုတ်လုပ်မှုနှင့် လယ်ယာစီးပွားဆက်ဆံရေး ပုံသဏ္ဌာန်များ ပြောင်းလဲလာမည့် အနေအထားနှင့် သက်ဆိုင်သည်။

ထို့ကြောင့်၊ ထိုပြောင်းလဲမှုများကြောင့် ဖြစ်ပေါ်မည့် ကောင်းကျိုးဆိုးကျိုး အမျိုးမျိုးကို လည်းကောင်း၊ ဆိုးကျိုးသက်ရောက်မှု လျော့နည်း၍ ကောင်းကျိုးများပြားအောင် တားဆီးကာကွယ်ရန်နှင့် ကြိုတင် ပြင်ဆင်ရန် နည်းလမ်းများ အကြောင်းကို လည်းကောင်း၊ ဆွေးနွေးဝေဖန်သင့်ကြသည် ဟုမြင်ပါသည်။

ဤသည်က၊ လယ်ယာကျေးလက်မှ ပိုင်ဆိုင်ခွင့်၊ လွတ်လပ်ခွင့်နှင့် ဆွေကြီးအင်အား ပြဿနာတို့အကြောင်း တစ်စွန်းတစ်စ တင်ပြခဲ့ခြင်း ဖြစ်ပါသည်။

လယ်ယာကျေးလက်သည် တိုင်းပြည်၏ အဓိက အစိတ်အပိုင်းဖြစ်ရာ လယ်ယာကျေးလက်၏ ပြဿနာသည် တိုင်းပြည်၏ ပြဿနာပင် ဖြစ်ပါသည်။ ကြီးကျယ်သော ဤပြဿနာကို ဆွေးနွေးဝေဖန်ခြင်း၊ အနာဂတ်အတွက် ဆုံးဖြတ်ချက်တွက် စဉ်းစားခြင်းများ ပြုသည့်အခါ ဘက်စုံ ထောင့်စုံ ကဏ္ဍစုံမှ ကျွမ်းကျင်သူ ပညာရှင်များနှင့် နိုင်ငံရေးနယ်ပယ်မှ ပုဂ္ဂိုလ်များ ပါဝင်သလို အရင်းမူလဖြစ်သည့် တောင်သူလယ်သမားများ၊ ကျေးလက်ဒေသရှိ အလွှာပေါင်းစုံမှ ပြည်သူများ ပါဝင်သင့်သည်ဟု ရှုမြင်ကြောင်း တင်ပြအပ်ပါသည်။

[ ၄ မတ် ၂၀၁၁ ]

# မူလပိုင်ရှင်စစ်စစ်များ ဖြစ်ဖို့

ဒီမိုကရေစီ နိုင်ငံတစ်ခုဖြစ်ဖို့တွင် အများပြည်သူ အတည်ပြု ပြဋ္ဌာန်းသည့် ဥပဒေသများ အခြေခံဥပဒေ၊ ပါတီစုံစနစ်၊ လွတ်လပ်၍ တရားမျှတသော ရွေးကောက်ပွဲများ၊ အာဏာများ ခွဲခြားထားရှိသော စနစ် စသည့် နိုင်ငံရေး အဆောက်အအုံတို့ ရှိဖို့ လိုကြောင်း ပြောဆိုလေ့ရှိကြသည်။

အဲဒါသည် အမှန်ဖြစ်၏။ သို့သော် ၎င်းတို့ချည်း မပြည့်စုံ။

ထိုအဆောက်အအုံများပေါ်တွင် ဒီမိုကရေစီ နိုင်ငံရေးယန္တရား လည်ပတ်နိုင်ရန် အတွက် မောင်းနှင်မည့် စွမ်းအင်တစ်ရပ် လို၏။

ယင်းကား ဒီမိုကရေစီ အသိအမြင်များနှင့် တွဲဖက် တည်ရှိသည့် ဒီမိုကရေစီ စိတ်ဓာတ်ဖြစ်၏။

ပြည်သူအများစု၌ ဒီမိုကရေစီ စိတ်ဓာတ်နှင့် အသိအမြင်များ ကိန်းအောင်း နေမှသာ တိုင်းပြည်၌ ဒီမိုကရေစီစနစ် ထွန်းကား ရှင်သန်နိုင်ပေမည်။

ဆိုပါစို့။

နိုင်ငံတော်အာဏာ၏ မူလပိုင်ရှင်သည် ပြည်သူလူထုဖြစ်ကြောင်း နိုင်ငံရေး သမားတို့ ပြောဆိုလေ့ရှိကြသည်။

ဒါသည်လည်း ဒီမိုကရေစီ သဘောတရားအရ အမှန်ဖြစ်၏။ •

သို့သော် တကယ့် အနှစ်သာရအရ အမှန်ဖြစ်ရန်အတွက်မူ အများပြည်သူ၌ ပိုင်ရှင်စိတ်ဓာတ်ရှိဖို့ လို၏။

ပိုင်ရှင်စိတ်ဓာတ်ရှိသူသည် မိမိပစ္စည်းကို တစ်စုံတစ်ယောက်အား အခိုက် အတန့် လွှဲအပ်ရမည်ဆိုလျှင်ပင် ၎င်းပုဂ္ဂိုလ်သည် စိတ်ချရသလား သေချာအောင် ကြည့်သည်။ လွှဲအပ်ပြီးနောက်တွင်လည်း မိမိပစ္စည်းကို တာဝန်သိစွာ အသုံးပြု သလား မပြုဘူးလား အခါအားလျော်စွာ အကဲခတ်ကြည့်ရှုသည်။ တာဝန်သိသူ မဟုတ်သော် ပြန်လည် ရုပ်သိမ်းရယူရန် ကြိုးစားသည်။

အလားတူ၊ အချုပ်အချာအာဏာ၏ မူလပိုင်ရှင်များဖြစ်သည်ဆိုသော ပြည်သူတို့သည်လည်း တိုင်းပြည်အတွက် စီမံခန့်ခွဲခွင့်များကို ကိုယ်စားလှယ် များသို့ လွှဲအပ်လိုက်ပြီးသည်နှင့် တစ်ပြိုင်နက် မိမိတို့ တာဝန်ပြီးဆုံးပြီဟု မမှတ်ယူသင့်ပေ။

တစ်ဖက်တွင်၊ လုပ်ပိုင်ခွင့် အာဏာရယူထားသူတို့ တာဝန်ကျေပွန်စွာ ဆောင်ရွက်ခြင်း ရှိ မရှိ စောင့်ကြည့်ဝေဖန်ကာ နောက်တစ်ကြိမ် ဆန္ဒမဲပြင်

မေးခြင်း၊ ဒဏ်ပေးခြင်းပြုရန် တာဝန်ရှိသကဲ့သို့ - တစ်ဖက်ကလည်း တိုင်းပြည်၏ အရေးအရာများတွင် မိမိ တတ်နိုင်သော၊ စိတ်ဝင်စားသော၊ သက်ဆိုင်သော၊ ကြုံကြိုက်သော နေရာဌာနများမှ ကိုယ်တိုင်ကိုယ်ကျ ပါဝင်ဆောင်ရွက်ဖို့ လိုသည်။

မိမိသည် ပညာရေးကိစ္စတွင် စိတ်ဝင်စားသူဖြစ်သလား၊

မိမိသည် စီးပွားရေးရာ၌ ကျွမ်းကျင်တတ်သိသူ ဖြစ်သလား၊

မိမိသည် လူမှုရေးကဏ္ဍ၌ ထက်သန်သူ ဖြစ်သလား၊

စိတ်ဝင်စားနားလည်သော ကဏ္ဍတွင် ထောက်ပြဝေဖန်ခြင်း၊ အများသိမြင်အောင် ပြောဆိုခြင်း၊ ကိုယ်တိုင် ကမကထပြု ဆောင်ရွက်ပြခြင်းသည်ဖြင့် မိမိ စွမ်းဆောင်နိုင်သည့် အတိုင်းအတာအလျောက် ပါဝင်သင့်သည်။

အဲဒါသည်၊ တိုင်းပြည် ကောင်းစေချင်သော သူတိုင်း ဆောင်ရွက်သင့်သည့် အလုပ် ဖြစ်သည်။

စင်စစ်၊ ရာဇဝင်ကို ပြန်ကြည့်လျှင် တိုင်းပြည်၏ သေရေးရှင်ရေး ကိစ္စကြီးတိုင်းတွင် ပြည်သူတို့ ပါဝင်ခဲ့စမြဲ ဟူသည်ကို တွေ့ရမည် ဖြစ်သည်။

နယ်ချဲ့ကျူးကျော်စဉ်က အနယ်နယ်အရပ်ရပ်မှ ပြည်သူတို့သည် တိုင်းပြည့်ရှင်စိတ်ဓာတ် အပြည့်အဝဖြင့် အသက်ပေး ခုခံခဲ့သည်။

ကိုလိုနီကျွန်ဘဝတွင် သခင်မျိုးဟေ့ တို့ဗမာဟု ကြွေးကြော်ကာ သခင်စိတ်ဓာတ် သခင်အားမာန်ဖြင့် တိုက်ပွဲဝင်ခဲ့သည်။

မိမိ တိုင်းပြည် သူတစ်ပါးလက်အောက် မကျရောက်ရေး၊ မိမိနိုင်ငံ မိမိလက်ဝယ် ပြန်လည် ရောက်ရှိရေးကဲ့သို့ ကြီးကျယ်သော အရေးကိစ္စများတွင် ဝိုင်းအုံးကျွက်ကျွက် ပါဝင်ခဲ့သော ပြည်သူတို့သည် တိုင်းပြည်ကောင်းအောင်၊ ဖွံ့ဖြိုးတိုးတက်အောင်၊ စည်းစနစ်ကျနအောင် ထူထောင်သည့်နေရာ၌ ဘေးဖယ်နေ၍ မရပေ။

တိုင်းပြည်၏ ဦးနှောက်များဖြစ်သည့် ပညာတတ်သော ပြည်သူများ သို့မဟုတ် ပြည်သူ့ပညာတတ်များသည် နိုင်ငံ့စီးပွား ဖွံ့ဖြိုးတိုးတက်ရေး ပညာရေး၊ ကျန်းမာရေး၊ လူမှုရေး အဆင့်အတန်းများ တိုးတက်ခြင်း ခေတ်မီ နည်းပညာသစ်များ ထွန်းကားရေး၊ အုပ်ချုပ်ရေး တရားဥပဒေ ချောမွေ့မှန်ကန်ရေး စသည်တို့တွင် စိတ်ကူးစိတ်သန်းကောင်း အကြံကောင်း ဉာဏ်ကောင်းများအားဖြင့် တက်ကြွစွာ ပါဝင်ဖို့ လို၏။

နိုင်ငံလုံးဆိုင်ရာ ပေါ်လစီများ ချမှတ်ရာတွင် ၎င်းဦးနှောက်များ

ပါဝင်မှသာလျှင် တိုင်းပြည်၏ ဦးနှောက်တစ်ခုလုံးကို တိုင်းပြည်က ပြည့်ပြည့်ဝဝ အသုံးပြုခွင့် ရမည် ဖြစ်သည်။

အလားတူ၊

အများပြည်သူဆိုင်ရာ ပေါ်လစီမူဝါဒများ ချမှတ်သော လုပ်ငန်းတာဝန်သည် ပြည်နယ်နှင့် တိုင်းဒေသကြီးများ၊ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ တိုင်း-ဒေသများ စသည့် ဒေသန္တရ အဆင့်ဆင့်သို့ ဖြန့်ကြက် ရောက်ရှိလာသည့်အခါ နိုင်ငံအနှံ့အပြားရှိ ပြည်သူတို့အနေနှင့် ယင်းလုပ်ငန်းတာဝန်တွင် ပါဝင်ရန် အခွင့်အလမ်းများ ရရှိလာကြမည် ဖြစ်သည်။

ထိုအခွင့်အလမ်းကို ပြည့်ပြည့်ဝဝရယူ သုံးစွဲဖို့သည် အများပြည်သူ၏ တာဝန် ဖြစ်သည်။

မိမိရပ်ရွာမှ လမ်းတံတားပြုပြင်ရန် ကိစ္စ၊ စာသင်ကျောင်း အဆောက်အအုံနှင့် ဆရာ ဆရာမ မလုံလောက်သည့် ပြဿနာ၊ ကျန်းမာရေးအတွက် ဆေးရုံဆေးခန်း လိုအပ်ချက် စသည်များသည် လည်းကောင်း၊

မိမိရပ်ရွာအနီး သစ်တောများ ပြုန်းတီးကာ တောင်ပြိုရေကြီးသည့် ကိစ္စ၊ ဘုံစားကျက်မြေကို တစ်စုံတစ်ယောက်က အပိုင်စီးနေသည့် ကိစ္စ၊ မျိုးပြုတ်စေမည့် နည်းလမ်းများဖြင့် ငါးဖမ်းနေသည့်ကိစ္စ စသည်များသည် လည်းကောင်း၊

လယ်ယာကျေးလက်သား၏ အရေးအရာများဖြစ်သည့် မြေလွတ်မြေလပ်နှင့် မြေရိုင်းများ ဖော်ထုတ်ခြင်း အပါအဝင် မြေယာ စီမံခန့်ခွဲမှုကိစ္စ၊ ဆည်မြောင်း တာတမံများ တူးဖော်၍ စိုက်ပျိုးရေ တိုးတက်ရရှိအောင် ဆောင်ရွက်သည့်ကိစ္စ၊ မျိုးကောင်းမျိုးသန့် များနှင့် စိုက်ပျိုးရေးနည်းနာသစ် စက်ကိရိယာသစ်၊ ပိုးသတ်ဆေး ပေါင်းသတ်ဆေးနှင့် ဓာတ်မြေဩဇာ စသည့် အထောက်အကူများ အားဖြင့် စိုက်ပျိုးစွမ်းအား တိုးတက်အောင် ဆောင်ရွက်သည့်ကိစ္စ၊ စသည်များ သည်လည်းကောင်း၊ သက်ဆိုင်ရာ အစိုးရယန္တရားအဆင့်ဆင့်နှင့်အတူ အများ ပြည်သူတို့ ဝိုင်းဝန်း ပါဝင် စီမံကြရမည့် အရာများချည်း ဖြစ်သည်။

သည်လို ပါဝင်ခြင်းဖြင့်သာ ပြည်သူလူထုသည် မိမိပိုင် ပစ္စည်းကို တန်ဖိုးထား စောင့်ရှောက်သော ပိုင်ရှင်ကောင်းများ ဖြစ်နိုင်ပေသည်။

ပြန်ချုပ်ရသော်၊

လွတ်လပ်ရေး အရေးကြီးသလို တိုင်းပြည်သာယာဝပြောရေးသည် အရေးကြီးသည်။ ထို့အတူ သာယာဝပြောရန်အတွက် ယင်း၏ အခြေခံဖြစ်သည့် ဒီမိုကရေစီစနစ် ထွန်းကားရေးသည်လည်း အရေးကြီးသည်။ ဒီမိုကရေစီ

ရှုန်းကားရန်အတွက် အခြေခံ နိုင်ငံရေး အဆောက်အအုံများ လိုအပ်သကဲ့သို့ အသိအမြင်နှင့် စိတ်ဓာတ်ရှိသော ပြည်သူများလည်း လိုအပ်သည်။ တစ်နည်းဆိုသော် တိုင်းပြည်ရေးရာ၌ ပြည်သူတို့ မပါဝင်ဘဲ ဒီမိုကရေစီ မဖြစ်နိုင်ဟု ပြောချင်သည်။

[ ၈ မတ် ၂၀၁၁ ]

# လွှတ်တော် အရပ်ရပ်နှင့် ပြည်သူ့ဆန္ဒ

ယခုဆိုလျှင် လွှတ်တော် အစည်းအဝေးများ ကျင်းပခဲ့သည်မှာ တစ်လခန့်ရှိလာပြီ ဖြစ်သည်၊

နေ့စဉ်ထုတ်သတင်းစာများအတွင်း ပထမဆုံးအကြိမ် ဟုဆိုရမည့် လွှတ်တော် အစည်းအဝေး များကို နိုင်ငံရေး စိတ်ဝင်စားသော ပြည်သူတို့ စောင့်ကြည့် အားပေးလျက် ရှိကြသည်။

ရှေးဦးစွာ သဘာပတိများ ရွေးတာ၊ ထို့နောက် လွှတ်တော်ဥက္ကဋ္ဌများ၊ ဒုဥက္ကဋ္ဌများ ရွေးချယ်တင်မြှောက်တာ တွေ့မြင်ရသည်။ သည်ကာလမှာ အများသတိပြုမိကြသည်က အဆောက်အအုံ ကြီးကျယ်ခမ်းနားခြင်းနှင့် စည်းဝေးပွဲများ ဣန္ဒြေကြီးလှခြင်း ဖြစ်သည်။

စောစောပိုင်း ရက်များအတွင်း အစည်းအဝေး ကျင်းပချိန် တိုတောင်းသည့်အခါ ဘာကြောင့်လဲ စဉ်းစားကြသည်။

သမ္မတနှင့် ဒုသမ္မတများ၊ ထို့နောက် ပြည်ထောင်စု ဝန်ကြီးအမည်စာရင်းများ ပေါ်ထွက်လာသည့်အခါ လူအများ ပို၍ စိတ်ဝင်စားလာကြသည်။ သည့်နောက် စိတ်ဝင်တစား ပြောဆိုဆွေးနွေးကြသည်က အဆိုပါ ရာထူးကြီးများအတွက် ရွေးချယ်တင်မြှောက်ခံရသူတို့ ရရှိမည့် လစာဝင်ငွေနှင့် အထွေထွေ အရပ်ရပ် အကျိုးခံစားခွင့်များအကြောင်း ဖြစ်သည်။

အဆိုပါ လခရိက္ခာများသည် များပြားသည်ဟု ဆိုမည်လား မဆိုနိုင်ဘူးလား ကိုလိုနီခေတ်က ရှိခဲ့သည့် ငါးထောင်စားဟုခေါ်သော နိုင်ငံရေး ရာထူးကြီး များနှင့် နှိုင်းစာသော် ဘယ်သူက ပိုများသလဲ၊ လုပ်ပိုင်ခွင့် ကြီးမားသော ပုဂ္ဂိုလ်တို့အား လခရိက္ခာ ပြည့်လျှံစွာ ပေးထားခြင်းဖြင့် အဂတိလိုက်စားမှုများ လျော့ပါးကင်းစင်စေနိုင်မည်လား၊ သို့မဟုတ် အဂတိသည် လစာဝင်ငွေနှင့် မသက်ဆိုင်ဘူးလား၊ စသဖြင့် အများသူငါကြားတွင် ဆွေးနွေးပြောဆိုသံများ ကြားရသည်။

ထို့နောက်တွင် အခြေခံဥပဒေဆိုင်ရာ ခုံရုံး၊ ပြည်နယ်နှင့် တိုင်းဒေသကြီး ဝန်ကြီးချုပ်များ၊ ဝန်ကြီးများ၊ တရားသူကြီးချုပ်၊ ရှေ့နေချုပ်၊ ရွေးကောက်ပွဲ ကော်မရှင် ဥက္ကဋ္ဌ စသည်တို့အတွက် အမည်စာရင်း တင်သွင်းခြင်း၊ အတည်ပြု ခြင်းများ တွေ့ရှိရပြီး၊ ၎င်းနောက်၌ လွှတ်တော် ကော်မတီများ ဖွဲ့စည်းခြင်း

အဖွဲ့ဝင်စာရင်းများ ကြေညာခြင်း စသည်များ ပြုလုပ်သည့်အခါ အများပြည်သူ စိတ်ဝင်စားသောအရာတစ်ခု ပါဝင်လာပြန်သည်။

ယင်းက၊ ပြည်သူ့လွှတ်တော်နှင့် အမျိုးသားလွှတ်တော်တို့တွင် အစိုးရ၏ အာမခံချက်များ၊ ကတိများနှင့် တာဝန်ခံချက်များ စိစစ်ရေး ကော်မတီများ ဖွဲ့စည်းခြင်းနှင့် အမျိုးသား လွှတ်တော်၏ အဆိုပါကော်မတီတွင် တိုင်းရင်းသား ကော်မတီတစ်ခုမှ ပုဂ္ဂိုလ်တစ်ဦးအား ဥက္ကဋ္ဌအဖြစ် တာဝန် ပေးအပ်ခြင်း ဖြစ်သည်။

အဆိုပါ စိစစ်ရေး ကော်မတီများ၏ တာဝန်မှာ

(က) ပြည်ထောင်စု အစိုးရက ၎င်း၏ အာမခံချက်များ၊ ကတိများနှင့် တာဝန်ခံချက်များကို မည်သည့် အခြေအနေအထိ အကောင် အထည်ဖော် ဆောင်ရွက်ပြီးဖြစ်ကြောင်းနှင့်

(ခ) အဆိုပါ အာမခံချက်များ၊ ကတိများနှင့် တာဝန်ခံချက်များကို ပြည်ထောင်စုအစိုးရက ဆောင်ရွက်ပြီးဖြစ်လျှင် ထိုသို့ဆောင်ရွက်ခြင်းမှာ သတ်မှတ်သော ကာလအတွင်း ဆောင်ရွက်ပြီးခြင်း ရှိ မရှိနှင့် မူလသတ်မှတ်ချက် အတိုင်း ပြီးစီးခြင်း ရှိ မရှိ၊ ... တို့ကို စစ်ဆေးစိစစ်ကာ သက်ဆိုင်ရာ လွှတ်တော် အသီးသီးသို့ လုပ်ထုံးလုပ်နည်းများအတိုင်း အဆင့်ဆင့် တင်ပြကြရန်ဖြစ်ပြီး ၎င်းအတွက် လုပ်ပိုင်ခွင့်များလည်း အပ်နှင်းထားသည်။

ဤသည်မှာ အာဏာသုံးရပ် အပြန်အလှန် ထိန်းညှိစေမှုသဘောအရ ဥပဒေပြုအာဏာကိုင်စွဲသူ (လွှတ်တော်) က အုပ်ချုပ်ရေး အာဏာသုံးစွဲသူ (အစိုးရနှင့် အစိုးရအဖွဲ့ဝင် ဝန်ကြီးများ၊ ဝန်ကြီးဌာနများမှ တာဝန်ရှိပုဂ္ဂိုလ်များ) ၏ လုပ်ဆောင်ချက်များအား ထိန်းကျောင်းသော အစီအစဉ်တစ်ရပ်ဟု ဆိုနိုင်ရာ ၎င်းကော်မတီ၏ ဆောင်ရွက်ချက်များ တကယ်လက်တွေ့၌ မည်မျှ ထိရောက် မှန်ကန်စွာ ဖြစ်ပေါ်မည်နည်း ဟူသည်ကို စောင့်ကြည့်ကြရမည် ဖြစ်သည်၊

နောက်ပိုင်း အစည်းအဝေးများတွင် မေးခွန်းများ မေးမြန်းခြင်း၊ ဖြေကြားခြင်း အဆိုတင်သွင်းခြင်းနှင့် ယင်းအား လက်ခံဆွေးနွေးရန် သင့် မသင့် သက်ဆိုင်ရာ လွှတ်တော်၏ အဆုံးအဖြတ်ရယူခြင်း၊ လက်ခံသော အဆိုများကို ဆွေးနွေးခြင်း ပြီးနောက် ယင်းနှင့် စပ်လျဉ်း၍ လွှတ်တော်၏ အဆုံးအဖြတ်ရယူခြင်း အစီအစဉ်များ ပါဝင်လာသည်။ အချို့သော တိုင်းပြည်များ၌ သည်အစီအစဉ် များတွင် အဆိုများ၊ ဥပဒေကြမ်းများ၊ ပေါ်လစီမူဝါဒများ၊ တိုင်းပြည်အရေးကြီးသော ပြဿနာများကို လွှတ်လပ်ပွင့်လင်းစွာ ငြင်းခုံဆွေးနွေးကာ ဆွေးမြင်ကြားသိဖူးသည့် ပရိသတ်က သည်အစီအစဉ်တွင် ဘာတွေ သိမ်းဆောက်

မြင်တွေ့ရမလဲ စောင့်ကြည့်ကြသည်။

ယခု အစည်းအဝေးများတွင်လည်း မေးမြန်းချက်၊ အဆိုပြုချက်များ
ကဏ္ဍနယ်ပယ် အတော်စုံလင်တာ တွေ့ရသည်။

ဒေသယာပိုင်ဆိုင်ခွင့် အပါအဝင် လယ်ယာမြေဆိုင်ရာ ပြဿနာများ
သဘာဝဘေးရန် တားဆီးကာကွယ်ရေး၊ သတ္တုနှင့် ကျောက်မျက် တူးဖော်ရေး
လုပ်ငန်းများကြောင့် သဘာဝပတ်ဝန်းကျင် ပျက်စီးမှုများ လျော့ပါးအောင်
ထိန်းသိမ်းရေး၊ လမ်းပန်းဆက်သွယ်မှု တယ်လီဖုန်း သုံးစွဲမှု စသည့် ကူးသန်း
ဆက်သွယ်ရေးများ တိုးတက်ကောင်းမွန်ရေး၊ လာဘ်ပေးလာဘ်ယူကို
နိုင်ငံ့ဝန်ထမ်းတို့၏ လစာနှုန်းထားများ တိုးမြှင့်ရေးအစီအစဉ်၊ ပြည်သူ့စစ်မှုထမ်း
ဥပဒေ၊ အုပ်ချုပ်ရေး၊ စီမံခန့်ခွဲရေး ကဏ္ဍများတွင် တိုင်းရင်းသားများ ပါဝင်ခွင့်
အသင်းအဖွဲ့များ ဖွဲ့စည်းခွင့်၊ ဝင်ငွေနည်း ပြည်သူများအတွက် ဆေးကုသခွင့်
အာမခံချက်ရှိသော ကျန်းမာရေးစနစ် ထူထောင်ရေး၊ ပညာရေးစနစ် ပြန်လည်
သုံးသပ်ရေး၊ စသည့် တစ်နိုင်ငံလုံးနှင့်ဆိုင်သော ပြဿနာရပ်များအပြင် မိမိ
ဒေသအသီးသီးနှင့်ဆိုင်သော ကိစ္စရပ်များလည်း ပါဝင်သည်။

သို့သော် အကြိတ်အနယ် အပြန်အလှန် ဆွေးနွေးဝေဖန်သည့် လက္ခဏာများ
မတွေ့မမြင်ရ။ အချို့သော မေးခွန်းများကို ဖြေရာ၌လည်း အမေးနှင့်အဖြေ
ကွာဟခြင်း၊ မေးခွန်းကို ပြည့်ပြည့်ဝဝ မဖြေနိုင်ခြင်းများကိုလည်း နားထောင်သူတို့
သတိပြုမိကြသည်။ ယင်းနှင့် ပတ်သက်၍ မူလ မေးမြန်းသူ ကာယကံရှင်တို့က
ဖောဒကတက်သော မေးခွန်းများ ထပ်၍ မမေးမြန်းကြခြင်းမှာ ၎င်းတို့နှင့်
ဆိုင်သလော၊ အစည်းအဝေး စည်းမျဉ်းစည်းကမ်းများကြောင့်လော စဉ်းစားစရာ
ဖြစ်သည်။

အဆိုပြုချက် အများစု မအောင်မြင်သည်ကိုလည်း အများသတိပြုမိကြသည်။
စင်စစ်၊ လွှတ်တော် အစည်းအဝေး ဆုံးဖြတ်ချက်များတွင် ကိုယ်စားလှယ်အများစု
ရရှိသည့် ပါတီအဖွဲ့အစည်းတို့၏ မူဝါဒသဘောထားများ၊ ဦးစားပေး ရွေးချယ်
ချက်များက လွှမ်းမိုးနေမည်သာဖြစ်သည်။ အဆိုတင်သွင်းသည့် ကိုယ်စားလှယ်များ
အနေနှင့် ပြန်လည် ရှင်းလင်းဆွေးနွေးသူများကဲ့သို့ သုတေသနအဖွဲ့ ရုံးအဖွဲ့
များ၏ အကူအညီမရရှိခြင်း၊ လွှတ်တော်အစည်းအဝေး၏ လုပ်ထုံးလုပ်နည်းများ
အစီအစဉ် အသေးစိတ်များကို ကောင်းစွာမသိရှိ မကျွမ်းကျင်ခြင်း၊ ပြင်ဆင်ချိန်
ပြည့်ပြည့်ဝဝ မရခြင်းတို့ကြောင့်လည်း တစ်ပန်းရှုံးနေနိုင်ပါသည်။

မည်သို့ပင်ဖြစ်စေ၊ တစ်ချိန်က အများသူငါကြားတွင် လူသိရှင်ကြား

ပြောဆိုအပ်သော အရာများဟု မှတ်ယူထားခဲ့သည့်ကိစ္စ အတော်များများကို လွှတ်တော်တွင် မေးမြန်းခြင်း၊ အဆိုပြုခြင်း၊ ဆွေးနွေးလာကြခြင်းများမှာ နိုင်ငံရေးအရ အသစ် ဖြစ်ပါသည်။ ပြည်သူ့ကိုယ်စားလှယ်များအနေနှင့် မိမိ ဒေသနှင့် လူထုနှင့် တစ်သားတည်း နေထိုင်ကာ၊ ပြည်သူတို့၏ အခက်အခဲများ၊ ဆင်းရဲကျပ်တည်းမှုများ၊ လူနေမှုဘဝ တိုးတက်ရေးနှင့် စပ်လျဉ်းသည့် ပြည်သူတို့၏ ရိုးအင်ဆန္ဒများ စိတ်ကူးစိတ်သန်းများကို ထပ်တူခံစား နားထောင်မှတ်သားခြင်း၊ အပြန်ပြန်အလှန်လှန် စဉ်းစားဝေဖန်ခြင်း၊ ကျွမ်းကျင်သူတို့၏ အကူအညီကိုယူကာ စနစ်တကျ စီစဉ်ပြင်ဆင်ခြင်းများ ပြုလုပ်ပြီးမှ အစည်းအဝေးများသို့ တက်ရောက်မည်ဆိုက၊ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များ ကြားကပင် ထိရောက်သော မေးခွန်းများ၊ ပီပြင်သော အဆိုများ မေးမြန်း တင်သွင်းနိုင်ကြမည် ဖြစ်သည်။ သို့ဆိုလျှင်၊ မဲခွဲဆုံးဖြတ်သည့်အခါ အနိုင်မရသည့်တိုင် မိမိ မေးခွန်းများသည် ပြည်သူ့သဘောထားကို ပြည့်ပြည့်ဝဝ ထင်ဟပ်သည့် မေးခွန်းများ၊ မိမိအဆိုများသည် ပြည်သူ့အကျိုးစီးပွားနှင့် ညီညွတ်သည့် ဥပဒေများ ပေါ်ထွန်းအောင် တွန်းအားပေးနိုင်သည့် ပြည်သူ့ထောက်ခံမှု အပြည့်အဝ ပါဝင်သော အဆိုများအဖြစ် အလေးဂရုပြုခြင်း ခံရနိုင်ပါသည်။

အရေးကြီးသည်က ရွေးကောက်ပွဲမှ ထွက်ပေါ်လာသော လွှတ်တော် အဆုပ်ရုပ်တို့တွင် ဆွေးနွေးဝေဖန်ကြသည့် အကြောင်းအရာများ အတည်ပြု ဆုံးဖြတ်ချက်များသည် ပြည်သူ့ဆန္ဒနှင့် မကင်းကွာဖို့ ပြည်သူ့အကျိုးစီးပွားနှင့် ညီညွတ်ဖို့ဖြစ်သည်ဟု တင်ပြလိုပါသည်။

[ ၁၆ မတ် ၂၀၁၁ ]

## ဗဟုဝါဒယဉ်ကျေးမှု ပြန့်ပွားမှ ဒီမိုကရေစီ ထွန်းကားမည်

လွှတ်တော်များတွင် မေးမြန်းခြင်း၊ ဖြေကြားခြင်း၊ အဆိုတင်သွင်းခြင်း ဆွေးနွေးခြင်း၊ လက်ခံခြင်း၊ ငြင်းပယ်ခြင်း စသည်များအားဖြင့် နိုင်ငံရေး အသွင်သဏ္ဌာန်တစ်ရပ် ပေါ်ပေါက်လာသည်ကို တွေ့မြင်ရသည်။

တိုင်းပြည်နှင့် စပ်လျဉ်းသည့် ပေါ်လစီမူဝါဒ ချမှတ်ခြင်း၊ အကောင်အထည်ဖော် ဆောင်ရွက်ခြင်းတို့ကို အစိုးရက မိမိဘာသာ လုပ်ဆောင်နေရာက ယင်းကိစ္စ များနှင့် စပ်လျဉ်းသည့် စစ်ကြောဝေဖန်မှုများကို စိစစ်လက်ခံလာသော သဘော ဖြစ်သည်။

မူဝါဒ ဆွေးနွေးဝေဖန်မှုများ ထိရောက် ပီပြင်လာရန်အတွက်မှု မတူ ကွဲပြားသော အယူအဆများကို ပွင့်လင်းစွာ ထုတ်ဖော် ပြောဆိုကြ၍ ယင်းတို့အား နားလည်မှုရှိစွာ သိမှတ်နာကြားတတ်သည့် ဗဟုဝါဒ အလေ့အထများ လူအများ ကြားတွင် ထွန်းကားလာဖို့ လိုသည်။ သည်အတွက်၊ ယခင် အစဉ်အမြဲ ညွှန်ကြားခိုင်းစေလေ့ ရှိခဲ့သူများတွင် နားထောင်သော အလေ့အကျင့်များနှင့် ယခင် တစ်သမတ်တည်း နားထောင်လုပ်ကိုင်လေ့ရှိခဲ့ကြသူများတွင် မိမိ သိရှိ သည်များ မိမိ စိတ်ကူးစိတ်သန်းများကို ဖွင့်ဟပြောဆိုသော အလေ့အကျင့်များ ပြုစုပျိုးထောင်ကြဖို့ လိုပေမည်။

တိုင်းပြည်၏ အရေးကိစ္စများကို လူအများ ပါဝင်ဆွေးနွေးသည့်အခါ ဘက်စုံ ထောင့်စုံမှ မလစ်လပ်အောင် ရှုကြည့်ကာ ပြဿနာကို ဖြေရှင်းနိုင်မည့် အကောင်းဆုံး နည်းလမ်းများ ရှာဖွေ တွေ့ရှိနိုင်ကြသည်။ ထို့ပြင် လူအများ ဆွေးနွေးညှိနှိုင်းရာမှ ထွက်ပေါ်လာသည့် သဘောတူညီချက်များအတိုင်း အကောင်အထည်ဖော်သည့်အခါ လုပ်ပိုင်ခွင့်အာဏာကို အများခွဲဝေခံစားရသော သဘော ရှိလာသည်။

ဤသည်မှာ ဒီမိုကရေစီ၏ လက္ခဏာတစ်ရပ်လည်း ဖြစ်ပါသည်။

သို့သော်၊ လူအများ ဆွေးနွေး ဝေဖန်ကြသည့်အခါ တစ်ဦးတည်း သို့မဟုတ် တစ်စုတစ်ဖွဲ့တည်း စဉ်းစားကြံဆစဉ်ကနှင့် ကွဲပြားသော အနေအထားများ ရှိလာပေမည်။ ယင်းက၊ မတူညီသော အယူအဆများ မတူညီသော စိတ်ဆန္ဒများ ထိတွေ့မိကြခြင်း ဖြစ်သည်။ သည့်အပြင် ယုံကြည်ကိုးကွယ်မှု၊ ယဉ်ကျေးမှု ထုံးဓလေ့နှင့် ဘဝနေထိုင်မှု ပုံသဏ္ဌာန်တို့ ကွဲပြားခြင်းကလည်း ဆွေးနွေးပွဲ ထဲတွင် ထင်ဟပ် ပါဝင်လာမည် ဖြစ်သည်။

သည်လို မတူညီမှုတွေ ပွင့်လင်းစွာ ပေါ်ထွက်လာဖို့နှင့်၊ ယင်းတို့ကြောင့် အငြင်းပွားမှုများ ပဋိပက္ခများ ဖြစ်ပေါ်မလာစေဖို့အတွက် အဓိက လိုအပ်ချက်တာ၊ အထက်က ပြောခဲ့သည့် ဗဟုဝါဒ အလေ့အကျင့် သို့မဟုတ် ဗဟုဝါဒ ယဉ်ကျေးမှု ဖြစ်သည်။

ဗဟုဝါဒ ကျင့်သုံးသော အဝန်းအဝိုင်းများတွင် မတူညီသူတို့အကြား ညှိနှိုင်း ဆောင်ရွက်ရာ၌ အများအတွက် ကောင်းကျိုးဖြစ်စေဖို့၊ သူရောကိုယ်ပါ အဆင်ပြေစေဖို့၊ သို့မဟုတ် အားလုံးကောင်းဖို့ (common good)ဟူသည်ကို တူညီသော ဦးတည်ချက်အဖြစ် ထားလေ့ရှိကြသည်။

သို့သော်၊ ထို 'အများကောင်းဖို့' ဆိုသော အရာသည် 'ဘာ' ဟူ၍ကား၊ ဆွေးနွေးပွဲများ မတိုင်မီ ကြိုတင် သတ်မှတ်ထားလေ့မရှိကြ။ မတူသူတို့ ဆွေးနွေးညှိနှိုင်းတိုင်ပင်မှုမှသာ ယင်းအရာ၏ အမျိုးအမည်ကိုလည်းကောင်း၊ ၎င်း၏ အတိုင်းအတာ အတိမ်အနက်ကို လည်းကောင်း ဖော်ထုတ်နိုင်ကြမြဲ ဖြစ်သည်။

ဆွေးနွေးညှိနှိုင်းကြသည့်အခါ အယူအဆမျိုးစုံတို့ကို တင်ပြကြ၊ ဝေဖန် ထောက်ကြ၊ ပြင်ဆင် ဖြည့်စွက်ကြ၊ ထောက်ခံ ဆွေးနွေးကြ၊ ဆန္ဒသဘောထား ပေးကြရင်း၊ တစ်စုံတစ်ရာသော လူစု၏ အယူအဆ သို့မဟုတ် ၎င်းတို့က ဆောင် တင်သွင်းသည့် လုပ်ငန်းလမ်းစဉ်သည် နဂိုမူလအတိုင်းသော်လည်းကောင်း၊ ပြင်ဖြည့်စွက်၍သော်လည်းကောင်း အများသဘောတူ လက်ခံသည့်အရာ အဖြစ် ထွက်ပေါ်လာမည် ဖြစ်သည်။

တစ်ဦးနှင့်တစ်ဦး အနေအထားချင်း မတူညီ၍ လိုလားချက်များလည်း ခြားသာစွာ ကွဲပြားသော လူစုများ တွေ့ဆုံကြသည့်အခါ တစ်ခါတစ်ရံ အငြင်းပွားမှုတို့ ပြင်းထန်တတ်ပါသည်။ သို့သော်၊ တစ်ဦးကိုတစ်ဦး တန်းတူ ညီတူများအဖြစ် သဘောထားကာ အပြန်အလှန် လေးစားစိတ်၊ မိမိ အမြင် ရှိသလို သူ့အမြင်လည်း ရှိလိမ့်မည်ဟု သိနားလည်စိတ်များ ရှိကြမည်ဆိုလျှင် တစ်ဦးနှင့်တစ်ဦး စကားပြောဆိုနိုင် ဆွေးနွေးညှိနှိုင်းနိုင်လိမ့်မည်။ တစ်ထောင့်တည်း သဘောတူညီချက် ထွက်မလာသည့်တိုင် သူရောကိုယ်ပါ လျှော့တန်တာ လျှော့ခြင်းဖြင့် ကွဲလွဲမှုများ လျော့ပါးနိုင်ပါသည်။

လွှတ်တော်များတွင် ကိုယ်စားလှယ်များနှင့် တာဝန်ရှိ ပုဂ္ဂိုလ်များ ဆွေးနွေး ပြောဆိုမှုတို့ ပိုမို နက်ရှိုင်းကျယ်ပြန့်ကာ အပြန်အလှန် သဘောထားတို့များ လာမည်၊ ကိုယ်စားလှယ်အသီးသီးနှင့် သက်ဆိုင်ရာ မဲဆန္ဒနယ်မှ ပြည်သူများအကြား

ဆက်သွယ်မှု တုံ့ပြန်မှုများ ရှင်သန်လာမည်၊ လွှတ်တော်တွင်း ဆွေးနွေးပွဲများ၏ အသွင်သဏ္ဍာန်နှင့် သဘောသဘာဝများကိုလည်းကောင်း၊ ဆွေးနွေးကြသော အကြောင်းအရာ အသေးစိတ် တို့ကို လည်းကောင်း၊ စာနယ်ဇင်းတို့က သုံးသပ်ချက် မှတ်ချက်များ၊ ပညာရှင်တို့၏ အသံ ပြည်သူတို့၏ အသံများနှင့်တကွ ဘူးလေးပြင်ကို ပြည့်စုံစွာ ဖော်ပြနိုင်ကြမည်ဆိုလျှင် ဒီမိုကရေစီ လှုပ်ရှားသက်ဝင် လာပြီ ဟုဆိုရမည် ဖြစ်ပေသည်။

[ ၁၈ မတ် ၂၀၁၁ ]

# မြန်မာလူ့အဖွဲ့အစည်းနှင့် လွတ်လပ်စွာ ဖွင့်ဟပြောဆိုသည့် အလေ့အထ

ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော် ဖွဲ့စည်းပုံအခြေခံဥပဒေပုဒ်မ ၃၅၄ ချင်၊

[နိုင်ငံသားတိုင်းသည် နိုင်ငံတော် လုံခြုံရေး၊ တရားဥပဒေစိုးမိုးရေး၊ ရပ်ရွာအေးချမ်းသာယာရေး သို့မဟုတ် ပြည်သူတို့၏ ကိုယ်ကျင့် တရားအကျိုးငှာ ပြဋ္ဌာန်းထားသည့် ဥပဒေများနှင့် မဆန့်ကျင်လျှင် အောက်ပါ အခွင့်အရေးများကို လွတ်လပ်စွာ သုံးစွဲ ဆောင်ရွက်ခွင့် ရှိသည်။

(က) မိမိ၏ ယုံကြည်ချက်၊ ထင်မြင်ယူဆချက်များကို လွတ်လပ်စွာ ထုတ်ဖော် ပြောဆိုခွင့်၊ ရေးသားဖြန့်ဝေခွင့်] ....

ဟူ၍ ဖော်ပြထားရာ၊ ဤသည်မှာ နိုင်ငံသားတို့အတွက် လည်းကောင်း၊ နိုင်ငံအတွက်လည်းကောင်း အသက်တမျှ အရေးပါသည့် မူလ အခွင့်အရေး တစ်ရပ်ကို သတ်မှတ်ပြဋ္ဌာန်းပေးထားခြင်း ဖြစ်သည်။

ထိုတန်ဖိုးရှိလှသော အခွင့်အရေးကို စာအုပ်ထဲတွင် မထားဘဲ တိုင်းပြည်နှင့် လူမျိုး အကျိုးဖြစ်ထွန်းရေးအတွက် ထိရောက်စွာ အသုံးပြုဖို့သည် နိုင်ငံသားတိုင်း၏ တာဝန် ဖြစ်သည်။

မိမိ ယုံကြည်ချက်၊ မိမိ အထင်အမြင် အယူအဆ။

အဲဒါသည် ဘာလဲ။

အဲဒါကို နှုတ်ဖြင့်သော်လည်းကောင်း စာဖြင့်သော်လည်းကောင်း အများသိအောင် ဖွင့်ဟ တင်ပြဖို့။

အဲသည်လို ဖွင့်ဟ တင်ပြတတ်သော အလေ့အထသည် တစ်ဦးချင်းသော လူတို့ လူရာဝင် လူတောတိုးဖို့အတွက် အရေးကြီးသလို၊ တိုင်းပြည်၌ အဲသည်လို လူမျိုးတွေ များပြားနေဖို့သည်လည်း တိုင်းပြည်အတွက် အရေးကြီးသည်။

အကြောင်းက၊ အထွေထွေ အပြားပြားသော စိတ်ကူးစိတ်သန်းတွေ၊ ထင်မြင်ချက်အမြင်တွေ၊ တီထွင် ကြံဆမှုတွေ ထွန်းကားရှင်သန်နေမှသာ တိုင်းပြည် တိုးတက်ပြည် ဖွံ့ဖြိုး တိုးတက်နိုင်သောကြောင့် ဖြစ်သည်။

ကမ္ဘာ့နိုင်ငံများတွင် brainstorming session ခေါ် ဦးနှောက်မုန်တိုင်းထ သည့် စည်းဝေးပွဲများကို အစိုးရဌာနကြီးများရော ကုမ္ပဏီလုပ်ငန်းကြီးများမှာပါ

ပြုလုပ်လေ့ ရှိကြသည်။ ရည်ရွယ်ချက်မှာ ခက်ခဲနေသော ပြဿနာတစ်ရပ်ကို အဖြေရှာရန်၊ သို့မဟုတ် မိမိတို့ လုပ်ငန်းဌာနအတွက် စိတ်ကူးကောင်း အကြံဉာဏ်ကောင်းများ ရရှိရန်အတွက် ဖြစ်သည်။

သည်လို စည်းဝေးပွဲများ ကျင်းပသူတို့၌ ရှိသည့် အခြေခံ စိတ်ဓာတ်တစ်ခုက လူတိုင်း လူတိုင်း၏ ခေါင်းထဲတွင် တန်ဖိုးရှိသော စိတ်ကူးစိတ်သန်းတစ်ခု ကိန်းအောင်း နေနိုင်သည်ဟု ယုံကြည်ခြင်းဖြစ်၏။ ပြဿနာအဖြေပေါ်စေမည့် စိတ်ကူးအစအနတစ်ခု လူတစ်ဦး တစ်ယောက်ထံမှ ထွက်ကျလာသော် အဲဒါကို အခြေတည်ကာ ဝိုင်းဝန်း ဆွေးနွေးခြင်းဖြင့် တကယ် အသုံးချ၍ရနိုင်မည့် စိတ်ကူးတစ်ခု ရုပ်လုံးပေါ်လာမည်ဟု ၎င်းတို့ ခံယူကြပြီး၊ ထိုအတိုင်း တကယ် လက်တွေ့ကျင့်သုံးကာ အကျိုးကျေးဇူးများလည်း ရရှိနေကြသည်။

လူတကာတို့၏ ဦးခေါင်းမှ စိတ်ကူးစိတ်သန်းတွေ ထုတ်ယူ စုစည်းသော နည်းကို လုပ်ငန်းဌာနများ ကျင့်သုံးကြသည့်နည်းတူ တိုင်းပြည်၏ အရေးကိစ္စများ အတွက် စဉ်းစားကြံဆကြရာ၌လည်း ဆီလျော်ရာ ပုံသဏ္ဌာန်အမျိုးမျိုးဖြင့် အကျယ် အပြန့် အသုံးပြုသင့်သည်။ အများနှင့်ဆိုင်သော ကိစ္စများတွင် အများသူငါ ပါဝင် ပြောဆိုနိုင်ကြသည့် အခါ ဒီမိုကရေစီသဘောအရ တရားမျှတမှုရှိသလို အများကြားက ထွက်ပေါ်သည့် တန်ဖိုးရှိသော အမြင်များကြောင့်လည်း တိုင်းပြည်အတွက် အကျိုးရလဒ် ကြီးမားနိုင်ပေသည်။

သို့သော်၊ လူအများစုဝေး ပြောဆိုကြသည့်အခါ တစ်ဦးတစ်ယောက်၏ အယူအဆသည် အခြားသူတစ်ဦးတစ်ယောက်အတွက် လက်မခံချင်စရာ မနှစ်မြို့စရာ ဖြစ်တာမျိုးလည်း တွေ့ရနိုင်သည်။ အဲဒါသည် ပြောသူ၏ အယူအဆ လွဲချော်ညံ့ဖျင်းခြင်းကြောင့် ဖြစ်နိုင်သလို၊ နားထောင်သူ၏ ခေါင်းထဲရှိ နဂိုအစွဲနှင့် ထိပ်တိုက် ဆန့်ကျင်နေသောကြောင့်လည်း ဖြစ်နိုင်သည်။

ဦးနှောက်မုန်တိုင်း၏ တန်ဖိုးကို ယုံကြည်ကြသူများကတော့ စိတ်ကူးကောင်း ရလိုလျှင် သည်အနေအထားမျိုးကို ခံနိုင်ရည်ရှိဖို့ လိုကြောင်း သဘောပေါက် ကြသည်။ ထို့ပြင်၊ အတွေ့အကြုံများသည့်အခါ ခံနိုင်ရည်လည်း ရှိလာတတ် ကြသည်။

စင်စစ်၊ အယူအဆ တစ်ခုကို လူတစ်ယောက်အား ပြောခွင့်ပြုရုံမျှနှင့် သူ့အယူ အဆကို မိမိ လက်ခံဖို့ တာဝန် မရှိကြောင်း လူတိုင်း သိကြ၏။

လွတ်လပ်စွာ ပြောဆိုခွင့်ကို တစ်ဘက်လူ ကျင့်သုံးသလို မိမိလည်း ကျင့်သုံး နေနိုင်သမျှ ကာလပတ်လုံး ပြဿနာ မရှိပေ။ ပြင်သစ် တွေးခေါ်ရှင်

ဘော်လတဲယား ထင်ထင်ရှားရှား ပြောခဲ့ဖူးတာ တစ်ခုရှိသည်။ 'ခင်ဗျား ပြောတာ ကျုပ် လက်မခံဘူး၊ ဒါပေမယ့် ခင်ဗျားရဲ့ ပြောဆိုခွင့်ကိုတော့ ကျုပ် သေသည်အထိ ကာကွယ်သွားမယ်' (I disapprove of what you say, but I will defend to the death your right to say it.) ဟူသော စကား။

သည်စကား သူ ဘာကြောင့် ပြောသလဲ။

တစ်ပါးသောသူ၏ စကားပြောဆိုခွင့်နှင့် မိမိကိုယ်တိုင်၏ စကားပြောဆိုခွင့်တို့ ချိတ်တွယ် ဆက်စပ်နေကြောင်း လူအများ မမေ့လျော့စေချင်သောကြောင့် ဖြစ်သည်။

မိမိ အယူအဆကို လွတ်လပ်စွာ တင်ပြ ပြောဆိုနိုင်ခြင်း ရှိ မရှိသည် ဥပဒေအရ ခွင့်ပြုမှု ရှိ မရှိနှင့်သာ သက်ဆိုင်သည် မဟုတ်၊ လူ့အဖွဲ့အစည်း၏ အစဉ်အလာ အလေ့အကျင့်များနှင့်လည်း သက်ဆိုင်သည်။

တချို့သော မိဘများသည် ဧည့်သည်စောင်သည် အိမ်လည်လာချိန် ကလေးတွေ စကားဝင်ပြောလျှင် ငေါက်ငမ်းတားမြစ်လေ့ရှိကြသည်။ ကလေးတွေ ခန့်ငြားအောင် ထိန်းသိမ်းခြင်း ဆိုဆုံးမခြင်းတို့သည် ကောင်းပါ၏။ သို့သော် အစ်သမတ်တည်း တားမြစ်သည့်အခါ ကလေးတွေ လူရှေ့သူရှေ့မှာ မပြောရဲ ဆိုရဲ ဖြစ်တတ်သည်။ သည်အခါ မရဲည်ရှယ်တဲ့ မိမိကလေး လူတောမတိုးအောင် ဘားဆီးသလို ဖြစ်သွား တတ်သည်။

ပညာသင်ကြားရာ၌လည်း ထိုနည်းရင်း ဖြစ်သည်။ ဆရာ သင်ပြသည့် အတိုင်း 'သည်' '၏' မလွဲ ကျက်မှတ် ဖြေဆိုသော အလေ့အကျင့်များသည့်အခါ ကိုယ်ပိုင်ဉာဏ် သုံးစွဲမှု အားနည်းသွားသကဲ့သို့၊ ကိုယ်ပိုင် အထင်အမြင် အယူအဆများကို ဖွင့်ဟပြောဆိုနိုင်စွမ်းလည်း နည်းပါးသွားတတ်သည်၊

ကလေးများ ကိုယ်ပိုင်ဉာဏ် မသုံးတတ်ခြင်းကြောင့် ဖြစ်ပေါ်လာသည့် အကျိုးဆက်တွဲ ပြဿနာက ကြီးပြင်းလာသည့်အခါ သူတစ်ပါးပြောသည့် စကားကို မစဉ်းမစား နားထောင် ခေါင်းညိတ်တတ်ခြင်း ဖြစ်သည်၊

ခေါင်းညိတ်သမားတွေ ရေငုံနှုတ်ပိတ်နေသူတွေ များသော လူ့အဖွဲ့အစည်း ဖြစ်ရပ်သည် ဖွံ့ဖြိုးတိုးတက်စရာမရှိ၊ လူတကာနှင့် ရင်ဆိုင်ယှဉ်ပြိုင်နိုင်စွမ်း မရှိ ဖြစ်နိုင်၊ ဦးနှောက်သုံးနေသော ကမ္ဘာ၊ ရှိသမျှ ဉာဏ်စွမ်းဉာဏ်စတွေ ထုတ်သုံး နေသော ကာလ၌ လူတကာထက် နိမ့်ပါးနောက်ကျနေရသော ဖြစ်သည်။

ချုပ်ပြောသော်၊

မိမိ ယုံကြည်ချက်၊ ထင်မြင်ယူဆချက်များကို ထုတ်ဖော် ပြောဆိုသော အလေ့အထသည် တစ်ဦးချင်း အရည်အသွေး မြင့်မားရေးရော တိုင်းပြည်တိုးတက်ရေး အတွက်ပါ အရေးကြီးသော အခြေခံ အချက်တစ်ရပ်ဖြစ်ရာ၊ သည်အလေ့အထ ထွန်းကား စည်ပင်လာဖို့ အများအားထုတ် ဆောင်ရွက်သင့်ကြပါသည်။ သည့်အပြင်၊ အခွင့်အရေးတို့ မည်သည် မယှဉ်င် မသုံးစွဲဘဲထားသော် ပျက်စီး ပျောက်ဆုံးသွားတတ်သော သဘောရှိကြောင်းလည်း အသိပေး တင်ပြလို ပါသည်။

[ ၂၅ မတ် ၂၀၁၁ ]

# ထူးခြားသော မိန့်ခွန်းများ

ကြားသေးမီက နိုင်ငံတော် သမ္မတ မိန့်ခွန်းများထဲမှာ ပြောကြားခဲ့သည့် စကားတွေက အသစ်တွေ ဖြစ်သည်။

အသစ်တွေ ဆိုသည်မှာ ဘယ်သူမှ မတွေးတော မပြောဆိုကြသေးသည့် အကြောင်းအရာများဟု ဆိုလိုသည်မဟုတ်။ တာဝန်ရှိ ပုဂ္ဂိုလ်တစ်ဦး၏ နှုတ်က ကြားရဖူးသည့် စကားများဖြစ်၍ အသစ် ဟုဆိုခြင်း ဖြစ်သည်။

ဖွဲ့စည်းပုံအခြေခံဥပဒေအရ နိုင်ငံ၏ အကြီးအကဲဖြစ်သော ပုဂ္ဂိုလ်က တိုင်းပြည်ကို အသိပေးရုံမက၊ နိုင်ငံ့အရေးကို စီမံခန့်ခွဲမည့် မိမိ လက်အောက်ရှိ အဖွဲ့များအဆင့်ဆင့်မှ ပုဂ္ဂိုလ်များကိုပါ ညွှန်ကြားခိုင်းစေသည့်သဘော ပြောကြားထားခြင်းဖြစ်ရာ သည်စကားများသည် အလွန်ထူးခြားနေသည်။

မိန့်ခွန်းများထဲက အစီအစဉ်များအတိုင်းသာ တကယ်လက်တွေ့ ဖော်ဆောင်လာမည် ဆိုလျှင် စီးပွားရေး၊ နိုင်ငံရေး၊ လူမှုရေး စသည့် နယ်ပယ်ပေါင်းစုံ၊ အုပ်ချုပ်ရေး၊ ဥပဒေပြုရေး၊ တရားစီရင်ရေး စသည့် မဏ္ဍိုင်ပေါင်းစုံတို့၌ အပြောင်းအလဲကြီးတွေ မြင်လာရစရာရှိသည်။

သို့သော်၊ ဆောင်ရွက်ရမည့် လုပ်ငန်းပမာဏက ကြီးမားလှပါသည်။

လူ့အဖွဲ့အစည်းတစ်ရပ်လုံးကို အိတ်သွန်ဖာမှောက်၊ တစ်ထောင့်မကျန် ပြောင်းလဲ ပြုပြင်ရမည့် ကိစ္စ။

တစ်ဦးတည်း တစ်ယောက်တည်း စိတ်အားထက်သန်ရုံနှင့် မပြီး၊ ကြီးမားသော အင်အားလိုသည်။ နိုင်ငံတော် သမ္မတ မိန့်ခွန်းတွင် သုံးနှုန်းခဲ့သည့် စကားလုံးမျိုးနှင့် ဆိုသော်၊ ဒေါင်လိုက်ရော ဘေးတိုက်ပါ ချိတ်ဆက်ထားသည့် ယန္တရားမျိုးလိုသည်။

အဲသည် ယန္တရားသည် အထက်မှအောက်သို့ သာမက၊ အောက်မှ အထက်သို့လည်း ပြန်လှန် လည်ပတ်နိုင်ရမည်။ အဲသည်ယန္တရား၏ လုပ်ငန်းစဉ်သည် ပွင့်လင်းမြင်သာမှု ရှိရမည်။ အဲသည်ယန္တရားမှာ ပါဝင်ဆောင်ရွက်သူတို့သည် မိမိအလုပ်ကို မိမိတာဝန်ယူသူ၊ တာဝန်ခံနိုင်သူ၊ ထောက်ပြကြားနိုင်သူများ ဖြစ်ရမည်။

ထို့ပြင်၊ အဲသည် ယန္တရားမှာ ပါဝင်နေသူတို့သည် အများပြည်သူတို့၏ သဘောထားများကိုလည်းကောင်း၊ မိမိတို့ ဆောင်ရွက်ချက်နှင့် စပ်လျဉ်းသည့်

အများပြည်သူ ဘက်က တုံ့ပြန်ချက်များကိုလည်းကောင်း အလေးထားသူမျာ
ဖြစ်ရမည်၊ အများ ပြည်သူတို့၏ မူလအခွင့်အရေးများကို ဟန့်တားပိတ်ပင်
မပြုသူ၊ ယင်းအခွင့်အရေးများ ကျင့်သုံးခံစားနိုင်အောင် ကူညီသူများ ဖြစ်ရမည်
ထို့ပြင်၊ အဲသည် ယန္တရားတွင် လည်ပတ် ပါဝင်နေသူတို့သည် အဂ
လိုက်စားခြင်း ကင်းသူ၊ လာဘ်ပေးလာဘ်ယူမှုကို ရှောင်ကြဉ်သူ၊ မိ
အပေါင်းအသင်းနှင့် ဆွေမျိုးသားချင်းများကို အထူးအခွင့်အရေး ဖန်တီးပေးခြ
ခရှိသူများ ဖြစ်ဖို့လိုသည်။

အဲသည်လို သန့်ရှင်းကောင်းမွန်သူများနှင့် ဖွဲ့စည်းထားသည့် သန့်ရှ
ကောင်းမွန်သော ယန္တရားမျိုး တည်ဆောက်နိုင်ရန်အတွက် သမ္မတက မိ
အဖွဲ့သားများကို တိုက်တွန်း နှိုးဆော်ခဲ့သည်။

သည့်အပြင်၊ အာဏာအရပ်ရပ် ကိုင်တွယ် သုံးစွဲကြမည့်သူတို့အ
အုပ်စိုးခံ ပြည်သူလူထုကို မေ့လျော့မထားရန်လည်း သတိပေး နှိုးဆော်သည်

ပြည်သူများသည် အစိုးရသစ်၏ အသွင်သဏ္ဌာန်နှင့် အနှစ်သာရ
လည်းကောင်း၊ လုပ်နည်းလုပ်ဟန်နှင့် အနာဂတ် အစီအမံများကို လည်းကော
စောင့်ကြည့်နေကြကြောင်း၊ ပြည်သူတို့အနေဖြင့် စနစ်တစ်ခု ကောင်း မကော
ဆုံးဖြတ်သည့်အခါ မိမိတို့၏ နေ့စဉ်လူမှုဘဝအပေါ် မည်သို့ အကျိုးသက်ရောက်
ရှိ မရှိ ဟူသည်နှင့် တိုင်းတာ ဆုံးဖြတ်ကြလိမ့်မည်ဖြစ်ကြောင်း မိန့်ခွန်းထဲတွ
ထည့်သွင်း ပြောကြားခဲ့သည်။

မှန်သည်။

အုပ်စိုးသူကို ပြန်လှန် ဖန်တီးနိုင်စွမ်း မရှိသည့် ကာလတွင်ရွေ
ရွေးကောက်ပွဲ စသည်များအားဖြင့် ပြန်လှန် ဖန်တီးနိုင်စွမ်းရှိသည့် ကာလ
တွင်ပါ ပြည်သူတို့သည် အုပ်စိုးသူအား ထိုအချက်နှင့်ပင် တိုင်းတာသတ်မှတ်
ဖြစ်သည်။

အများပြည်သူ့ သဘောထား၊ အများပြည်သူဘက်က ခံစားချက်
ခေါ်ကြသည့် ထိုအရာသည်ပင် အများပြည်သူ၏ အားဖြစ်၍၊ အားတို့ ထုံး
အတိုင်း သက်ဆိုင်ရာ နေရာအသီးသီး၌ သက်ရောက်မှု ရှိပေသည်။

မိန့်ခွန်းများထဲ၌၊

ပြည်သူတွေသည် အပြောင်းအလဲကို လိုချင်နေကြကြောင်းလည်း သမ္မတ
အလေးအနက် ပြောကြားခဲ့သည်။

ဒါသည်လည်း အမှန်ဖြစ်သည်။ သည့်အတွက်ကြောင့်ပင် အပြောင်းအလဲတွေ င်တိုက်အားတိုက် လုပ်ဆောင်ရန် တိုက်တွန်း ပြောဆိုနေသည့် နိုင်ငံတော် မ္မတ၏ စကားကို လူအများ စိတ်ဝင်စားကြခြင်း ဖြစ်သည်။

အမေရိကန်ပြည်တွင် အပြောင်းအလဲတွေ လုပ်ပါမည်ဟူသော ကတိစကားဖြင့် ားမား သမ္မတ ဖြစ်ခဲ့သည်။ မြန်မာပြည်သူများ၏ ပြောင်းလဲလိုသော က အမေရိကန်တို့ထက် ဘယ်မှာ နည်းနိုင်ပါမည်လဲ။

ပြည်သူတို့ လိုလားတောင့်တသော အပြောင်းအလဲ အနည်းငယ်သော ယ် လက်တွေ့ မြင်လာရလျှင် ပြည်သူအများ အပြေးအလွှား ထောက်ခံလာ လိမ့်မည်။

စနစ်ပြောင်းတာ၊ ခေတ်ပြောင်းတာ၊ လူတွေရော မူတွေပါ အကောင်းဘက်သို့ င်းလဲတာ မြင်လာရလျှင်ကား တစ်ခဲနက်သော ဩဘာသံကို ကြားရမှာ ချာသည်။

သို့သော်၊ အကောင်းမြင်စိတ် မွေးသောသူတွေပင် အတွေ့အကြုံအရ မကင်း ဖြစ်ကြတာတွေ ရှိသည်။

ပြောင်းမည်ဟု ကြွေးကြော်ရုံဖြင့် ပြောင်းလဲသွားမည်လား။

လူတွေ၏ အတွေးအခေါ် အကျင့်စရိုက်တွေ၊ ယင်းတို့မှာ အခြေတည်သည့် နည်းလုပ်ဟန်တွေ အမူအကျင့်တွေသည် ပြောင်းလဲရန် ခက်ခဲသော များ ဖြစ်သည်။ ကိုယ်ကျိုးရှာသူ၊ အဂတိလိုက်စားသူ၊ ရာထူးအာဏာကို သုံးစား ပြုတတ်သူ တစ်ယောက်သည် သူ့ဘာသာ အခြောက်တိုက် ောင်းဘက် ပြောင်းသွားဖို့ မဖြစ်နိုင်။ ထိန်းချုပ်ဟန့်တားခြင်း၊ ဆေးဖန် ာက်ပြုခြင်း၊ အပြစ်ပေး အရေးယူခြင်းများဖြင့်သာ သူ၏ အမူအကျင့်များ င်းလဲလာနိုင်သည်။

တစ်ဦးချင်း ပြောင်းဖို့ခက်သလို ယန္တရားတစ်ခုထဲက လူအများစု အမူအကျင့် င်းလဲလာဖို့သည်လည်း သာ၍ပင် ခက်ခဲသော အလုပ်ဖြစ်သည်။

ယန္တရားထဲမှာ အပြန်အလှန် ထိန်းချုပ်ဟန့်တားသော စနစ်ကို ည်သို့ ည့်သွင်းမည်လဲ။ သည်စနစ် ပီပြင်စွာ ကျင့်သုံးဖြစ်အောင် ဘယ်လိုစောင့် ောင်ရွက်မည်လဲ။ အုပ်စိုးခံ ပြည်သူတို့၏ ဆန္ဒသဘောထားများကို ယန္တရား က လူတို့ လေးစားလိုက်နာတတ်လာအောင်ကော မည်သို့သော ည်းလမ်းများဖြင့် လေ့ကျင့် ပျိုးထောင်မည်လဲ။

နိုင်ငံတော် သမ္မတက ကတိပြုလိုက်သော၊ သို့မဟုတ် မိမိ ထမ်းပိုးပါမည်ဟု ပြည်သူသို့ အသိပေး ကြေညာလိုက်သော တာဝန်မှာ ကြီးမားလှပါသည်။ ထိုတာဝန်ကို အောင်မြင်စွာ ထမ်းဆောင်နိုင်လျှင်ကား ရာဇဝင်ပြောင်သော ပုဂ္ဂိုလ်ဖြစ်ပေမည်။

[ ၁၉ ဧပြီ ၂၀၁၁ ]

# ဒီမိုကရေစီသို့ ရှေးရှုရာလမ်း

၂၀၁၀ ပြည့်နှစ် အကုန်ပိုင်းတွင် ပါတီစုံ အထွေထွေ ရွေးကောက်ပွဲတစ်ရပ် ကျင်းပခဲ့ပြီး ယခုအခါ ပထမအကြိမ် ပြည်သူ့လွှတ်တော် အစည်းအဝေးတစ်ခု စတင် ခေါ်ယူလျက်ရှိရာ နှစ်ပေါင်း ၂၀ ခန့် အကြာ၌ မြန်မာ့နိုင်ငံရေးသည် အစ်စုံတစ်ရာ ပြောင်းလဲခဲ့ပြီ ဟုဆိုရပေမည်။

မကြာမီပင် အစိုးရသစ်တစ်ရပ် ပေါ်ထွက်လာတော့မည်။

ထိုအစိုးရနှင့်အတူ မြန်မာ့နိုင်ငံရေးသည် မည်သို့ ပြောင်းလဲမည်လဲ။ အသွင်သဏ္ဌာန်ပိုင်းတွင် မည်သို့ အသစ်ဖြစ်ပေါ်ပြီး အနှစ်သာရပိုင်းတွင် သည့် တိုးတက်မှုများကို ပြည်သူတို့ ခံစားရမည်လဲ။

တစ်နည်းပြောသော်၊

၂၀၁၁ တွင် ကျွန်တော်တို့သည် နိုင်ငံရေးအရ မည်သည့် အခြေအနေ အဆင့်အတန်းလောက် ရောက်ရှိလာမည်လဲ။

အဲဒါသည် နိုင်ငံ့အရေး အလေးထားသူတို့အတွက် စဉ်းစားချင့်တွက်စရာ အစ်ခု ဖြစ်ရာ ယင်းသို့ တွက်ဆရာ၌ အထောက်အကူပြုရန်အတွက် နိုင်ငံရေး ဆွေးခေါ်ရှင် ရောဘတ်ဒေါလ် (Robert Dahl) ၏ စဉ်းစားပုံနည်းလမ်းတစ်ရပ်ကို မြင်မ်းဖော်ပြလိုသည်။

Polyarchy, Participation and Opposition အမည်ရှိ ကျမ်းတွင် ဒေါ်လ်က လူနည်းစုအုပ်စိုးမှုမှ လူများစုအုပ်စိုးမှုသို့ ကူးပြောင်းပုံ အမျိုးမျိုး အကြောင်း သုံးသပ်ဖော်ပြကာ နိုင်ငံရေးအနေအထား အမျိုးမျိုးကို အမည်နာမ များလည်း ပေးခဲ့သည်။

သူက တစ်ဦး သို့မဟုတ် ဦးရေ အလွန်နည်းသော အစုတစ်ခုတည်းက ကြီးစိုးလွှမ်းမိုးထားသော အုပ်စိုးမှုမျိုးကို အင်အားကြီးအုပ်စိုးမှု (hegemony) ဟုခေါ်ဆိုပြီး၊ အဲသည် အနည်းစုအတွင်း အာဏာခွဲဝေဆောင်ရွက်ပုံ အနေ အထားကို ပြင်ပက သိမြင်ခွင့် မရှိဘူးဆိုက ယင်းအား အလုံပိတ် အင်အားကြီး အုပ်စိုးမှု (closed hegemony) ဟု သတ်မှတ်သည်။

ယင်းအနေအထားသည် အများပြည်သူနှင့် အဝေးတွင်သာ ... သို့မဟုတ် အနည်းစုအုပ်စိုးမှုများထဲတွင် အပြင်းဆုံးစနစ် ဟုဆိုနိုင်...

ထိုအနေအထားရှိသော အုပ်စိုးမှုတစ်ခုသည် အနည်းငယ် ... အုပ်စိုးသူ လူနည်းစုအတွင်း ပို၍ လူမြင်သူမြင်ရှိသော ...

ရာထူးအာဏာ ခွဲဝေခြင်းမျိုး ရှိလာသော်၊ ယှဉ်ပြိုင်မှုရှိသည့် လူနည်းစုအုပ်စိုးမှုစနစ် (competitive oligarchy) ဖြစ်လာသည်ဟု ဒေါလ်က ဆိုသည်။

ဤအဆင့်၌ ယှဉ်ပြိုင်မှုနှင့် မြင်သာမှုဟူသော အင်္ဂါနှစ်ရပ် ရှိလာခြင်းကို အကြောင်းပြုကာ အုပ်စိုးသူသည် ယခင်အဆင့်ထက် သဘောထား ပျော့ပျောင်း ကျယ်ဝန်းလာသည်၊ လွတ်လပ်ပွင့်လင်းမှုဘက်သို့ ရွေးရှုလာသည်ဟု သူက မှတ်ချက်ပြုသည်။

ဒေါလ်က နောက်ထပ် ပြောင်းလဲနိုင်ပုံ တစ်မျိုးကိုလည်း ဖော်ပြသည်။

ယင်းက၊ အလုံပိတ်စနစ်ဖြင့် အုပ်စိုးနေသော အင်အားတစ်ရပ်သည် ဖွင့်ဟခြင်း၊ လူမြင်သူမြင် ယှဉ်ပြိုင်ခြင်းမျိုး မပြုသော်လည်း၊ အုပ်စိုးသူ အဝန်းအဝိုင်းထဲသို့ အခြားသောသူအချို့ သို့မဟုတ် အင်အားအချို့ကို ထည့်သွင်းကာ မိမိ အုပ်စိုးမှုကို အများ ပိုမို လက်ခံလာအောင် စည်းရုံးချဲ့ထွင်ခြင်းမျိုး ဖြစ်သည်။ ၎င်းနည်းလမ်းဖြင့် ပြောင်းလဲလာသော အနေအထားသစ်ကို မူ တိုးချဲ့ပါဝင်လာသော လူနည်းစုအုပ်စိုးမှု စနစ် (inclusive oligarchy) ဟု သူက သတ်မှတ်သည်။

ဤသည်က အလုံပိတ် အနည်းစု အုပ်စိုးမှုတစ်ခု ပြောင်းလဲသွားနိုင်သည့် မတူသော လမ်းကြောင်းနှစ်ခုကို ပြခြင်း ဖြစ်သည်။

ပထမလမ်းသည် ပိတ်ထားရာမှ ဖွင့်ဟသည့်ဘက်သို့ ရွေးရှုသောလမ်း ဖြစ်၍၊ ဒုတိယလမ်းသည်မူ အပိတ်ကို မဖွင့်သော်လည်း ပိတ်ထားသော အဝန်းအဝိုင်းကို ချဲ့ထွင်ကာ ပိုမို ပါဝင်ခွင့်ပြုသောလမ်း ဖြစ်သည်။

သို့သော် ပြောင်းလဲမှုသည် အဆိုပါ လမ်းကြောင်းနှစ်သွယ်အနက်မှ တစ်ခုခုသို့သာ ဦးတည်နိုင်သည် မဟုတ်ပါ။

ပထမလမ်းကြောင်း၏ လက္ခဏာများရော၊ ဒုတိယလမ်းကြောင်း၏ လက္ခဏာများပါ ပေါင်းစပ် ပါဝင်သည့် လမ်းကြောင်းတစ်ခုလည်း ရှိနိုင်ပါ သေးသည်။

ယင်းက၊ ပွင့်လင်းမြင်သာမှု၊ ယှဉ်ပြိုင်မှုနှင့် အများပါဝင်မှုတို့သို့ ဦးတည်သည့် တတိယလမ်းကြောင်း ဖြစ်ပါသည်။ ယင်းတတိယလမ်းကြောင်းဖြင့် ပြောင်းလဲဖြစ်ပေါ်လာမည့် အနေအထားသစ်ကို အများစုအုပ်စိုးသောစနစ် (polyarchy) ဟု ဒေါလ်က အမည်ပေးသည်။

စင်စစ်၊ ထိုတတိယလမ်းသည် ဒီမိုကရေစီစနစ်ဆီသို့ ရွေးရှုရာလမ်း ဖြစ်သည်။ ထိုလမ်းအတိုင်း လျှောက်လှမ်းသည်နှင့်အမျှ အနည်းစု၏ အလုံပိတ်

ခင်အားကြီးအုပ်စိုးမှုစနစ်မှ ဒီမိုကရေစီအသွင်သို့ တိုးတက် ကူးပြောင်းသွားခဲ့ခြင်းဖြစ်သည်။

သို့သော်၊ ဒေါလ်၏ သုံးသပ်ချက်အရ ယနေ့အထိ ကမ္ဘာတွင် ရာနှုန်းပြည့် ဒီမိုကရေစီဟု ဆိုနိုင်လောက်သော တိုင်းပြည်မျိုး မရှိသေးရာ၊ တတိယလှိုင်းအတိုင်း လျှောက်ခဲ့သည့် နိုင်ငံတို့ အမြင့်ဆုံးရောက်ရှိသည့် အနေအထားကို အများစုအုပ်စိုးသော စနစ် (ပေါ်လီအာခီ) ဟု သူက ခွဲခြား ပြောဆိုခဲ့ခြင်းဖြစ်သည်။

ပေါ်လီအာခီများသည် ဒီမိုကရေစီ ပြည့်ဝပြီ မဆိုနိုင်သည့်တိုင် ယနေ့ကမ္ဘာ၌ အုပ်စိုးခံပြည်သူတို့ မျှော်လင့်နိုင်သည့် အကောင်းဆုံး အနေအထား ဟုဆိုရပေမည်။

ရောဘတ်ဒေါလ်က တိုင်းပြည်တို့ နိုင်ငံရေးအရ ရွေ့လျားကူးပြောင်းနိုင်၊ ရပ်နေနိုင်၊ နောက်ပြောင်းပြန်နိုင်၊ ဘေးသို့ဖဲ့နိုင်သည့် အထက်က လမ်းကြောင်းများကို ဖော်ပြပြီးနောက်တွင် တိုင်းပြည်တစ်ပြည်သည် ဘယ်နေရာလောက်တွင် ရောက်နေသနည်း ဟူသည်ကို ပို၍ ရှင်းလင်းစွာ ချင့်တွက်ခန့်မှန်းနိုင်ရန်အတွက် ပုံပြပုံတစ်ခု ရေးဆွဲပြသသည်။ (ပူးတွဲပါပုံကို ကြည့်ပါ။)

ဖော်ပြပါ စတုဂံပုံတွင် ထောင့်လေးထောင့်၌ အုပ်စိုးမှုသဘောအရ နိုင်ငံတို့ ရောက်ရှိနေနိုင်သည့် အနေအထား ၄ မျိုးကို ပြထားသည်။

သို့သော် လက်တွေ့တွင် ကမ္ဘာ့နိုင်ငံများအနက် အရေအတွက် အများစုသည် အမည်နာမ ဖော်ပြထားသည့် ထိုထောင့်နေရာများထက်၊ အမည်နာမ တိတိကျကျ ဖော်ပြရန်ခက်သည့် အလယ်ကွက်လပ်ထဲက နေရာအနှံ့အပြားတွင် ရောက်ရှိနေကြသည်ဟု ဒေါလ်က ဆိုသည်။ အချို့သည် အလယ်ဗဟိုလောက်တွင် ရှိ၍၊ အချို့က A နှင့် နီးစပ်ကာ၊ အချို့က C နားရောက်နေနိုင်သည်။ ထို့နည်းတူ အချို့က B နှင့် C ကြား၊ အချို့က C နှင့် D ကြား စသဖြင့်—

စာဖတ်သူတို့အနေနှင့်လည်း ပုံကို ကြည့်ကာ ကျွန်တော်တို့ ဘယ်နားလောက် ရောက်နေပြီလဲ ချင့်တွက် ခန့်မှန်းနိုင်ကြပါလိမ့်မည်။ အဲသည်လို ခန့်မှန်းသည့်အခါ၊ တို့ ဒီနေရာမှာဟု လက်ညှိုးနှင့် ထောက်ပြရာ၌ လူအတော်များများပင် တူညီသော နေရာတစ်ခုကို ထောက်ပြနိုင်ကြသည်။ သို့သော် သည်နေရာမှသည် ဘယ်ဆီသို့ ဦးတည်ရွေ့လျားမည်၊ နောင် ၅ နှစ် ၁၀ နှစ်တွင် ဘယ်နေရာနားလောက် ရောက်လိမ့်မည်ဟု ခန့်မှန်းရာ၌မူ တစ်ခုတည်းသော တူညီကြလိမ့်မည် မထင်ပါ။

အကြောင်းက၊ ထည့်သွင်း စဉ်းစားစရာ အကြောင်းအချက်တွေ များသကဲ့သို့ တစ်ချက်ချင်းပေါ်၌ အလေးထားမှုချင်း မတူကြသောကြောင့်ဟု ဆိုချင်သည်။

မည်သို့ပင်ဖြစ်စေ လူအများ စုဝေးနေထိုင်ရာအရပ်၌ အချိန်တန်သော် အမှားနှင့် သဘော လွှမ်းမိုးလိမ့်မည်ဟု ယုံကြည်ကြောင်း တင်ပြလိုပါသည်။




[ပါဝင်မှု၊ လွတ်လပ်ပွင့်လင်းမှုနှင့် ဒီမိုကရေစီ]

[၂၆ ဧပြီ ၂၀၁၁]

# ဒီမိုကရေစီ၏ ကိုယ်ထူကိုယ်ထသဘော

ဒီမိုကရေစီဆိုသည်မှာ အများပြည်သူ့အုပ်စိုးမှုဟု အဓိပ္ပာယ်ရကြောင်း အများ သိကြသည်။

သို့သော် တိုင်းကြီးပြည်ကြီး နိုင်ငံကြီးများတွင် အုပ်စိုးသည့် အလုပ်ကို တစ်တိုင်းပြည်လုံး ဝင်ရောက် လုပ်ကိုင်နေနိုင်ခြင်း မရှိသည့်အခါ ကိုယ်စားလှယ်များ ရွေး၍ အုပ်စိုးစေသော စနစ်ကိုပင် အနီးစပ်ဆုံးအဖြစ် ကျင့်သုံးရသည်။

ထို့ကြောင့် ဒီမိုကရေစီဟူသည် ပြည်သူ့ကိုယ်စားလှယ်များ အုပ်စိုးသော အစိုးရ စနစ်ဟူ၍ ဖြစ်လာသည်။

ထိုကိုယ်စားလှယ်သည် ဘာကို ကိုယ်စားပြုသနည်း။ ပြည်သူ၏ ဆန္ဒကို ကိုယ်စားပြုရပါသည်။ ပြည်သူက မိမိ၏ ဆန္ဒကို ကိုယ်စားပြုနိုင်သော သို့မဟုတ် မိမိနှင့် ဆန္ဒချင်း နီးစပ်တူညီသည်ဟု မှတ်ယူရသော သူကို ဆန္ဒမဲ ပေးကာ မိမိ ကိုယ်စားလှယ်အဖြစ် ရွေးချယ်လိုက်သည်။

သို့သော် ဒီမိုကရေစီမှာပင် ပြည်သူတစ်ယောက်အနေနှင့် မိမိဆန္ဒကို အကောင်အထည်ဖော်ပေးမည့် ကိုယ်စားလှယ်တစ်ယောက် ရရှိဖို့မှာ လွယ်ကူသည် မဟုတ်ပါ။

မိမိ ကိုယ်စားလှယ်သည် ရွေးကောက်ပွဲတွင် အနိုင်မရသဖြင့် မိမိဆန္ဒကို ထိထိ ရောက်ရောက် အကောင်အထည်ဖော်ခွင့်မရှိသူ ဖြစ်သွားနိုင်သည်။

သည့်အပြင် ပို၍ စိတ်အားပျက်စရာကောင်းသည်က မိမိ ကိုယ်စားလှယ်သည် ရွေးကောက်ပွဲတွင် အနိုင်ရကာ ဆောင်ရွက်နိုင်ခွင့်တွေ အတိုင်းအတာတစ်ခုထိ ရှိပါလျက် မိမိ ဆန္ဒများကို အကောင်အထည်ဖော်ရန် ကြိုးစားအားထုတ်မှု မရှိခြင်း၊ သို့မဟုတ် မည်ကာမတ္တမျှသာ လုပ်ဆောင်ခြင်း ဖြစ်သည်။

သို့သော်၊ သည်အတွက် ဝမ်းနည်းစရာ မလိုပါ။

ကိုယ်စားလှယ်ဟူသည် မိမိကိုယ်တိုင် မဟုတ်သဖြင့် မိမိစိတ်တိုင်းကျ ဖြစ်ဖို့ မလွယ်ပါ။ ထို့ပြင် ၎င်းတို့သည်လည်း အများနည်းတူ လူများသာဖြစ်သည့် အားလျော်စွာ လူ့သဘာဝအလျောက် မေ့လျော့တတ်သော သဘောလည်းရှိပါသည်။ နောက် ၄–၅ နှစ်ကြာ၍ ကိုယ်စားလှယ် တချုပ်အသစ်ချုပ်ဆိုရမည့် အချိန်ရောက်သော အခါ၌ တစ်ခေါက် ပြန်ရောက်ချင် ရောက်လာနိုင်ပါသည်။

သို့ကြောင့် မိမိဆန္ဒ ဖြစ်မြောက်လိုလျှင် တုံးတမ်းစဉ်လာအရ ပြည်သူ့ကို့ အခွင့်အပ်သည့် အပိုင်းမှာ လွှဲအပ်သော်လည်း လုံးလုံးလျားလျားမှီခို၍ မနေသာပဲ

မိမိတို့ ကိုယ်တိုင်ကလည်း စောင့်ကြည့်ခြင်း၊ နှိုးဆော်ခြင်း၊ အကြံပေးခြင်း၊ ဝေဖန်ထောက်ပြခြင်း စသည်များ ပြုဖို့ လိုပေသည်။

သည်တွင် တစ်ခုရှိသည်က ကိုယ်စားပြု ဒီမိုကရေစီသမားတို့ တန်ဖိုးထားသည့် မဏ္ဍိုင်သုံးရပ် စနစ်ဖြစ်သည်။ အုပ်ချုပ်ရေး၊ ဥပဒေပြုရေး၊ တရားစီရင်ရေးဟူ၍ မဏ္ဍိုင်သုံးရပ် ခွဲခြားထားရှိကာ တစ်ခုကိုတစ်ခု အပြန်အလှန် ခဲ့ပြင်ထိန်းကျောင်းနိုင်သော စနစ်တစ်ခု ဖန်တီးပေးနိုင်လျှင် အုပ်စိုးသူတို့ အာဏာအလွဲသုံးစားမှု မပြုနိုင်အောင် တားဆီးကာကွယ်နိုင်ပြီဟု လူအများ မှတ်ယူကြသည်။

မှန်သည်။ အုပ်စိုးသူက အုပ်စိုးခံကို နှိပ်စက်ကလူမပြုနိုင်အောင် ထားရှိသည့် အစီအမံတစ်ခုအဖြစ် သည်စနစ်တန်ဖိုးရှိတာ အမှန်ပဲ ဖြစ်သည်။

သို့သော် မပြီးသေး။ သည်ဟာလောက်နှင့် စိတ်ချရပြီဟုမဆိုနိုင်။

၎င်းမဏ္ဍိုင်သုံးရပ်တို့သည် အများပြည်သူအတွက် မဟုတ်သည့် အခြားသော ရည်ရွယ်ချက်များဖြင့် ပေါင်းစည်းသွားနိုင်သော သဘော ရှိသေးသည်။ လူများနှင့် ဖွဲ့စည်းထားသည် မဟုတ်လား။

သည့်အပြင် ထိုမဏ္ဍိုင်များအနက် တစ်ခုသော မဏ္ဍိုင်က ကြီးစိုးလွှမ်းမိုးကာ အထိန်းအကွပ် ကင်းမဲ့သော အနေအထားကို ရယူသွားနိုင်တာမျိုးလည်း ရှိသည်။

ထို့ကြောင့် တစ်ဖန်၊ ရှိလာပြန်သည်က စတုတ္ထမဏ္ဍိုင်။

စတုတ္ထမဏ္ဍိုင်ဟု ခေါ်ဆိုသည့် စာနယ်ဇင်းမီဒီယာများကို မဏ္ဍိုင်သုံးရပ် မယိမ်းမယိုင်ရအောင် ထိန်းကျောင်းစောင့်ကြပ်မည့်အကူ မဏ္ဍိုင်တစ်ရပ်အဖြစ် အရေးတယူ ပြောဆိုကြတာရှိသည်။ ထိုစာနယ်ဇင်းမီဒီယာတို့ကလည်း မည်သူ့ရွေးကောက် တင်မြှောက်ခြင်းမပြုဘဲ မိမိဘာသာ ခန့်အပ်သည့် နိုင်ငံ့မဏ္ဍိုင် တစ်ခုအဖြစ် ဂုဏ်ယူကြသောသဘော ရှိသည်။

ဂုဏ်ယူသင့်တာ မှန်ပါသည်။

သို့သော် စတုတ္ထမဏ္ဍိုင်သည်လည်း လူများဖြင့်ပင် ဖွဲ့စည်းထားသည် ယိမ်းယိုင် တိမ်းစောင်းနိုင်သော မဏ္ဍိုင်တစ်ခုသာဖြစ်ကြောင်း အများပြည်သူတို့ သတိပြုဖို့ လိုသည်။

ထို့ကြောင့်၊ ဥစ္စာရှင်လို ဥစ္စာရင်ခဲ သဘောပြောရသော် အများပြည်သူတို့ အနေနှင့် မဏ္ဍိုင်သုံးရပ်နှင့်၊ ထို့နောက် အရန်တစ်ရပ်၊ ပေါင်း ၄ ရပ်တို့ ပုံအပ်ထား၍ မရနိုင်။

ထိုမဏ္ဍိုင်အားလုံးအား စောင့်ကြပ်ကြည့်ရှုသော တာဝန်ကို မိမိတို့ကိုယ်တိုင် ထမ်းပိုးကြဖို့ လိုသည်။

စောင့်ကြည့်ခြင်း ဝေဖန်ထောက်ပြခြင်းအလုပ်ကို လုပ်ကြမည့်အခါ အကြောင်းကိစ္စကို လိုက်ကာ ထိုမဏ္ဍိုင်လေးရပ်ထဲက သင့်တော်ရာ အသီးသီးကိုပင် အများပြည်သူတို့ သုံးစွဲသွား၍ ရနိုင်သည်။ နည်းလမ်းရှာဖွေကာ သုံးစွဲသွားကြဖို့လည်း လိုသည်။

သည့်အပြင် အရေးကြီးသည်က မဟုတ်တမန်တာတွေ မလုပ်အောင် စောင့်ကြပ်ရုံသာ မဟုတ်၊ ဟုတ်တာမှန်တာ၊ တိုင်းပြည်အတွက် အကျိုးရှိတာတွေ လုပ်ဆောင်ရာ၌ပါ တက်ကြွစွာ ပါဝင်ဖို့ ဖြစ်သည်။

ဒီမိုကရေစီသည် လူတိုင်း ပါဝင်မှ ရာနှုန်းပြည့် ဒီမိုကရေစီဖြစ်သည်။ သို့သော် ရာနှုန်းပြည့်မရနိုင်လျှင်ပင် အများစု ပါဝင်သည့် ဒီမိုကရေစီ ဖြစ်အောင်တော့ အားထုတ်ဖို့ လိုသည်။

သည်တွင်၊ အရေးကြီး အဖိုးတန်သည်က တူရာတူရာ၊ ဝါသနာပါရာ၊ စိတ်အား ထက်သန်ရာ၊ စိတ်ပူပန်ရာ၊ ဖြစ်စေချင်တာ၊ ဖြစ်မသွားစေချင်တာ၊ အသည်းအသန် တန်ဖိုးထားရာ၊ ရှုံးသွပ်ရာ ... စသည်တို့ကို အကြောင်းပြု၍ စုစည်းထားသည့် အများပြည်သူ့ အစုအဝေးများဖြစ်သည်။ အဲဒါတွေသည် ကြီးချင်လည်း ကြီးမည်၊ သေးချင်လည်း သေးမည်။ တိုင်းပြည်နှင့် ချီ၍ အလုပ်လုပ်ချင်လုပ်မည်၊ ကိုယ့်မြို့ ကိုယ့်ရွာကလေးမှာ လုပ်ချင်လုပ်မည်၊ အိမ်နီးစပ်ရာ တစ်ထောင့်တစ်ဌာနက ကိစ္စလေးကို ပူတောင့်ပန်းပင် လုပ်ချင်လုပ်မည်၊ အများနှင့်ဆိုင်သည့် ကိစ္စကြီးမှာ ပတ်သက်ပါဝင်တာ ဖြစ်ချင်ဖြစ်မည်၊ မိမိတို့ နစ်နာသည့်ကိစ္စမှာ တန်ရာတန်ဖိုးရအောင် လုပ်တာ ဖြစ်ချင်ဖြစ်မည် သူတစ်ပါး၏ ဒုက္ခများကို မျှဝေခံစားတာ၊ လျော့ပါး သက်သာအောင် ကူညီတာ ဖြစ်ချင်ဖြစ်မည်။

ဘာတွေပဲဖြစ်စေ၊ အဲဒါတွေသည် ပြည်သူကြားက ပြည်သူ့ကိစ္စတွေဖြစ်သည်။ ပြည်သူ့ဆန္ဒ ပြည်သူ့သဘောထားတွေလည်း ဖြစ်သည်။ အဲဒါတွေကို မဏ္ဍိုင် [illegible]ရပ် လေးရပ်က လူများ သိရှိနားလည်အောင် နီးစပ်တူညီရာ [illegible]ဝန်းအဝိုင်းများ၏ အားဖြင့် လုပ်ဆောင်ကြဖို့သည် အများပြည်သူတို့၏ တာဝန်ဖြစ်သည်။

တစ်နည်းဆိုသော် မဏ္ဍိုင်ကြီးတွေကြားမှာ မဏ္ဍိုင်ကလေးတွေ [illegible]အောင် တည်ဆောက်ရမည့်သဘော ဖြစ်သည်။

အဲဒါသည် ဒီမိုကရေစီလိုလားသူတို့ ဥစ္စာရင်ခဲ လုပ်ရမည့် အလုပ်ဖြစ်သည်။

အဲသည်လို လုပ်ကိုင်နိုင်လျှင် တိုင်းပြည်မှာ အရေးကြီးသောကိစ္စ ရှိလာတိုင်း တစ်မြို့လုံးနီးပါးလာ၍ စည်းဝေး ဆုံးဖြတ်ကြသည့် ခေတ်ဦးကာလ ဂရိမြို့နိုင်ငံ (city-state)များ၏ တိုက်ရိုက် ဒီမိုကရေစီစနစ်နှင့် အနှစ်သာရအရ အများကြီး နီးဆပ် တူညီသွားမည် ဖြစ်သည်။

အများပြည်သူ အုပ်စိုးမှုသဘော တကယ်ဖြစ်လာစေလိုလျှင် မိမိထောင့်ဌာန မိမိ စိတ်ဝင်စားရာ ကဏ္ဍမှာ၊ မိမိ စွမ်းဆောင်နိုင်သမျှ အတိုင်းအတာအထိ အများပြည်သူတို့ ပါဝင်ဆောင်ရွက်ကြဖို့ လိုပေသည်။

[ ၅ မေ ၂၀၁၁ ]

# အာဏာပိုင်စနစ်နှင့် အာဏာပြိုင်စနစ်

အာဏာဟူသည်ကား လူတစ်ဦးတစ်ယောက် လုပ်ဆောင်လိုစိတ် မရှိသည့်အရာကို လုပ်ဆောင်လာအောင် ဖန်တီးနိုင်သော စွမ်းအား ဟုဆိုလေ့ရှိကြပါသည်။

နိုင်ငံအုပ်ချုပ် မင်းလုပ်သူ၌ အာဏာလိုအပ်သည်။ အာဏာမရှိဘဲ တိုင်းပြည်နှင့် ချီသော အလုပ်ကို မလုပ်နိုင်။

သို့သော်၊ အာဏာတို့ မည်သည် ဖျက်ဆီးတတ်သော သဘောရှိသည်ဟုလည်း ဆိုကြသည်။ အာဏာများလေ ပျက်စီးလေ။

မည်သို့ ပျက်စီးသနည်း။

ပထမဝါကျကို ထပ်ဖြည့်ပါမည်။

အာဏာဟူသည် သူတစ်ပါး မလုပ်ချင်သည်များကို လုပ်လာအောင် တိုက်တွန်း ခိုင်းစေနိုင်သကဲ့သို့၊ မိမိ လုပ်ချင်ရာကို အတားအဆီးမရှိ လုပ်ဆောင်နိုင်သော စွမ်းအားလည်း ရှိစေသည်။

အဲဒါတွေသည်ပင် ပျက်စီးစေခြင်း အကြောင်းရင်းများ ဖြစ်သည်။

ဘာကြောင့်လဲ။

လူသည် အတ္တဗဟိုပြု စဉ်းစားတတ်သူ ဖြစ်သည်။

လူသည် ဆန္ဒ၊ ဒေါသ၊ ဘယာ၊ မောဟတည်းဟူသော အဂတိတရားများ ကင်းစင်နိုင်သောသူလည်း ဖြစ်သည်။

ထို့ပြင်၊ လူသည် အစွဲအာသာတတို့ စေ့ဆော်ရာသို့ လိုက်ပါတတ်သော သဘော လည်း ရှိသည်။ သည့်အပြင်၊ လူသည် သံယောဇဉ်တို့၏ ဆွဲဆောင်မှုကို တွန်းဆန်နိုင်အား နည်းပါးသည်။

ထို့ကြောင့်၊ လူ့အဖွဲ့အစည်းတစ်ရပ်အတွင်း လူတစ်ယောက်ကို မိမိကိုယ်တိုင် ဆောက်ရော အများသူငါအတွက်ပါ လုပ်ပိုင်ခွင့် အာဏာများ ပေးလိုက်သည့်အခါ အထက်ကပြောသည့် မကင်းနိုင်သော သဘာဝတို့အရ ပျက်စီးမှုများ ဖြစ်လာ တတ်သည်။

အဲသည် ပျက်စီးမှုဟူသည်များကို ချုပ်၍ပြောသော်၊ အာဏာကို အလွဲသုံးခြင်း၊ သို့မဟုတ် အဂတိလိုက်စားခြင်းဟူ၍ ဖြစ်သည်၊

မိမိ အကျိုးစီးပွား၊ မိမိ သံယောဇဉ်ရှိရာ ပုဂ္ဂိုလ်များ၏ အကျိုးစီးပွားအတွက် အာဏာကို မမှန်မကန် အသုံးပြုသည်။ တစ်ဖက်တွင် မိမိ နှစ်သက်သူ၊ မိမိ အာသာတထားရာ ပုဂ္ဂိုလ်များ၏ အကျိုး ပျက်စီးရာ ဖျက်စီးကြောင်းအတွက်

အာဏာကို တရားလက်လွတ် သုံးစွဲသည်။

တစ်နည်းပြောသော်၊ အာဏာနှင့် မထိုက်တန်သော အနေအထားသို့ ရွေ့လျားသွားခြင်း ဖြစ်သည်။

ထို့ကြောင့်လည်း၊ အာဏာသည် ဖျက်ဆီးတတ်သော သဘောရှိသည်။ အလုံးစုံသော အာဏာကား အလုံးစုံ ဖျက်ဆီးတတ်ချေသည် ဟုဆိုကြခြင်း ဖြစ်သည်။

အာဏာကြောင့် တစ်စုံတစ်ယောက် ပျက်စီးသော်၊ ၎င်း၏ အာဏာ သက်ရောက်ရာ နယ်ပယ်ရှိ အခြားသောသူအားလုံးတို့ ထိခိုက် နစ်နာကြရသော သဘောရှိသည်။

ထို့ကြောင့်လည်း၊ တစ်ဦးတစ်ယောက်တည်း၏ လက်မှာ အာဏာ အများကြီး မအပ်နှင်းမိအောင်၊ သို့မဟုတ် တစ်ဦးတစ်ယောက်တည်း၏ အလုံးစုံသော အာဏာတွေ ရရှိမသွားအောင် ထိန်းချုပ်ရန်အတွက် အုပ်စိုး နေရာမှာ နေရသူတို့ အစဉ်အဆက် စဉ်းစားကြံဆခဲ့ကြခြင်း ဖြစ်သည်။

ဤတွင် တွေ့ရှိလာသည့် နည်းလမ်းတစ်ခုက အာဏာများ ခွဲခြားပေးထားသော စနစ် ဖြစ်သည်။

သို့သော်၊ သူက ဟိုနေရာမှာ အာဏာသုံးလိမ့်မယ်၊ ခင်ဗျားက ဒီနေရာ အာဏာ သုံးပေတော့ဟူ၍ အပိုင်းလိုက် အကန့်လိုက် အပြီးအပြတ် အာဏာ အပ်နှင်းလိုက်၍ မရ။ အဲဒါဆိုလျှင် သူ့နေရာ သူ့အကန့်မှာ အလုံးစုံသော အာဏာကို သုံးစွဲပြီး အလုံးစုံ ပျက်စီးသူ ဖြစ်သွားလိမ့်မည်။

ထို့ကြောင့်၊ အလုပ်ဖြစ်ရန်အတွက် သူ့နေရာနှင့်သူ လုပ်ပိုင်ခွင့်အာဏာ ခန့်ခွဲပေးထားသော်လည်း၊ လုပ်ပိုင်ခွင့်ကို လွန်ကျူးစွာ သုံးစွဲလာလျှင် သို့မဟုတ် တလွဲအသုံးပြုလာလျှင် အခြားအာဏာရှိသူ တစ်ဦးတစ်ယောက်၊ တစ်ဖွဲ့တစ် သို့မဟုတ် တစ်ကဏ္ဍ တစ်ဌာနက ထိန်းချုပ်ဟန့်တားနိုင်ရန် နည်းစနစ်များလည်း ချမှတ်ထားရခြင်း ဖြစ်သည်။

ရှေးရောမခေတ်က အာဏာပိုင် သုံးဦးအဖွဲ့ (Triumvirate) ဟူသည် အုပ်စိုးသောစနစ် ရှိခဲ့သည်။ တစ်ဦးတည်း လက်ထဲ အာဏာအပ်ထားရသော စနစ် (dictatorship) နှင့် စာသော် အာဏာခွဲဝေမှု အနည်းငယ်ပိုသော သင့်တော်သည် ဟုယူဆကြသည်။

အာဏာပိုင်စိုးလွန်းသည့် သက်ဦးဆံပိုင် ဘုရင်စနစ် (absolute monarchy) ကို မနှစ်သက်သဖြင့် လူထုက တော်လှန်ကာ ဘုရင်ကို လူထုကိုယ်စားလှယ်များ

…တ်သော ဥပဒေစည်းကမ်းများဖြင့် ထိန်းချုပ်သည့် စည်းမျဉ်းခံဘုရင်စနစ် (constitutional monarchy) သို့မဟုတ် (limited monarchy) ဟုသည်ကို …င့်သုံးစေခဲ့တာမျိုးလည်း ရှိသည်။

အာဏာကို ကန့်သတ်ထိန်းချုပ်ရာ၌ ဒီမိုကရေစီနိုင်ငံတို့တွင် ကျင့်သုံးလေ့…သည့် အာဏာများ ခွဲခြားထားမှု (separation of powers)နှင့် အပြန်အလှန် …န်းညှိမှု (checks and balances) စနစ်များသည် ယနေ့အထိ လူတို့ စဉ်းစား …ဆရသမျှထဲတွင် အကောင်းဆုံးဖြစ်သည်။ အုပ်ချုပ်ရေး (အစိုးရအဖွဲ့)၊ …ရားစီရင်ရေး (တရားသူကြီး အဆင့်ဆင့်)နှင့် ဥပဒေပြုရေး (လွှတ်တော်များ) …တို့ လုပ်ပိုင်ခွင့်များ၊ ကျန်ကဏ္ဍများနှင့် အပြန်အလှန် ထိန်းချုပ်ခွင့်များ …သားရာ၊ နိုင်ငံစီမံအုပ်ချုပ်သော အလုပ်ကိုလည်း လုပ်နိုင်၊ အာဏာသုံးစွဲမှု …န်ကျွံရအောင်လည်း ထိန်းနိုင်သော သဘောရှိသည်။

ဒီမိုကရေစီနိုင်ငံတွင် အာဏာသုံးရပ်ခွဲဝေ ကန့်သတ်မှုအပြင်၊ လွတ်လပ်သော …ယ်ဇင်းများ၌လည်း ထိထိရောက်ရောက် ဝေဖန် ထောက်ပြခွင့်များရှိနေရာ၊ …ဏာထိန်းညှိမှုစနစ်ကို ထပ်ဆင့် အားဖြည့်ထားသည့်သဘော၊ လမ်းလွဲလာသော …ဏာကို လမ်းမှန်ပေါ် တွန်းတင်ပေးနိုင်ရန် ထိန်းကွပ် အာဏာ ပေးထားသော …ဘောဖြစ်သည်။

ထို့ပြင် ဒီမိုကရေစီနိုင်ငံများတွင် လွတ်လပ်စွာ ဖွဲ့စည်းထူထောင်ထားကြသည့် …ဏ္ဍနယ်ပယ်ပေါင်းစုံမှ အသင်းအဖွဲ့ ပေါင်းစုံတို့သည်လည်း ကဏ္ဍ …ီးသီးတွင် မိမိတို့ ဖြစ်စေလိုသည်များကို ကိုယ်တိုင် အကောင်အထည်ဖော်ခြင်း၊ …ခြားသူများပါ လုပ်ဆောင်လာအောင် ဆွဲဆောင် စည်းရုံးခြင်း၊ တွန်းအား …ခြင်းများ ပြုလုပ်လျက် ရှိကြရာ၊ မိမိတို့ကဏ္ဍ၌ မိမိတို့ဘာသာ လုပ်ပိုင်ခွင့် …ဏာများ ဖြန့်ကြက်ရယူထား ကြသည့် သဘောရှိရုံမက၊ မိမိတို့ ကဏ္ဍ …ပယ်တွင်းသို့ တခြားမှ အာဏာများ လွန်ကျွံသက်ရောက်မလာအောင် …ဆီးနိုင်ကြသော သဘောလည်း ရှိသည်။

တစ်နည်းပြောရသော်၊ အင်အားဖြင့် လွှမ်းမိုးလာမည့် အာဏာကို တွန်းလှန်နိုင် …ယ်ခံအာဏာများ မွေးမြူကြသော သဘောဖြစ်သည်။

တစ်သွေးတစ်သံသမားတို့ကမူ အာဏာအပြိုင်တွေ များသည့်အခါ …ဗလ ဆုညံသည်၊ နှေးကွေးသည်၊ တစ်ယောက်တစ်ပေါက်နှင့် လိုရာမရောက်နိုင် ဟုဆိုချင်ကြသည်။

ဒီမိုကရေစီသမားတို့ကမူ ဘယ်သူ၏ လိုရာခရီးလဲဟုသည်ကို မေးကြော…

ကြသည်။ အများ၏ လိုရာခရီးဖြစ်ဖို့ အလေးထားကြသည်။ ထို့ပြင် အသံ
စုံညီခြင်းသည် လွတ်လပ်ခြင်း၊ တန်းတူညီမျှခြင်းကို ပြသည်ဟုလည်း
ရှုမြင်သည်။ အဲသည်အခါမှသာ ဘယ်သူ့ဘယ်သူမှ အနိုင်အထက်ပြုနိုင်ခြင်း
မရှိသည့် တရားဥပဒေစိုးမိုးသော လူ့အဖွဲ့အစည်း ဖြစ်ပေါ်ပြီး၊ လူတိုင်း
လူတိုင်းသည် မိမိ တစ်ကိုယ်ရေ အကျိုး၊ ပတ်ဝန်းကျင် လူအများအကျိုးအတွက်
ဘာစ်ဦးချင်းသော်လည်းကောင်း၊ စုပေါင်း၍ သော်လည်းကောင်း ကိုယ်စွမ်းဉာဏ်
အပြည့်အဝဖြင့် ဆောင်ရွက်နိုင်ကြလိမ့်မည်ဟု ယုံကြည်ပေသည်။

[ ၆ မေ ၂၀၁၁ ]

# ပြောင်းလဲလိုစိတ်များ ထက်သန်ပြည့်ဝဖို့ လိုသည်

'နှစ်တစ်ခု ခေတ်တစ်ခုကို ပြောင်းလဲခဲ့ပြီ ဖြစ်ပါကြောင်း၊ ပြောင်းလဲသည့် ခေတ်စနစ်နှင့်အညီ အတွေးအခေါ်များ လုပ်နည်းလုပ်ဟန်များလည်း လိုက်ပြောင်းရသည် ဖြစ်ပါကြောင်း။'

(နိုင်ငံတော် သမ္မတ၏ ၂၀၁၁ ဧပြီ ၆ ရက် မိန့်ခွန်း)

ယခုဆိုလျှင် နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီကို ဖျက်သိမ်း၍၊ နိုင်ငံတော် သမ္မတဦးသိန်းစိန် ဦးဆောင်သော အစိုးရသစ်တစ်ရပ် ပေါက်ရောက်လာသည်မှာ ရက်ပေါင်း ၈၀ ကျော်မျှ ကြာမြင့်ပြီ ဖြစ်ပါသည်။

အစိုးရတစ်ရပ်ကို အကဲဖြတ်ရန်အတွက် အချိန်နည်းသေးသလို ရှိသော်လည်း ယခု စတင် မြင်တွေ့ရသည့် အနေအထားမှာပင် ရှေ့လာမည့် အသွင်သဏ္ဌာန်တို့ကို အတန်အသင့် မှန်းဆနိုင်ကြပြီ ဖြစ်သည်။

သည့်တွင်၊ အစိုးရသစ်တက်စက ပြောကြားခဲ့သည့် သမ္မတ၏ မိန့်ခွန်းများပါ စကားများ သို့မဟုတ် အများပြည်သူသို့ အသိပေးပြောဆိုခဲ့သည့် ကတိကဝတ်များကို ပြန်၍ အမှတ်ရကာ၊ ထိုစကားများအတိုင်း လက်တွေ့ဖြစ်အောင် အကောင်အထည်ဖော်မည့် လုပ်ငန်းတာဝန် မည်မျှ ကြီးမားလေးလံသည်ကို သတိပြုမိလာသည်။

- ဒီမိုကရေစီနိုင်ငံတော် တည်ဆောက်နိုင်ရေးအတွက်၊
  အုပ်ချုပ်မှုစနစ်ကောင်းမွန်ဖို့၊
  သန့်ရှင်းသော အစိုးရဖြစ်ဖို့၊
  ဒီမိုကရေစီ ကျင့်စဉ်များ ထွန်းကားဖို့၊
- သန့်ရှင်းသော အစိုးရဖြစ်ရေးအတွက်၊
  အဂတိတရား ကင်းရှင်းဖို့၊
  လာဘ်ပေးလာဘ်ယူခြင်း ကင်းဖို့၊
  လုပ်ပိုင်ခွင့်ကို တစ်လွဲအသုံးချတာတွေ မလုပ်မိဖို့။
- သည့်အပြင်၊ အုပ်ချုပ်ရေးအဖွဲ့အစည်းများက လုပ်ငန်းတာဝန်များ အကောင်အထည်ဖော် ဆောင်ရွက်ရာမှာ
  နိုင်ငံသားများ၏ မူလအခွင့်အရေးများကို ဟန့်တားပိတ်ပင်သည်ဆို မဖြစ်စေဖို့၊
  ပြည်သူများ၏ သဘောထားများ၊ တုံ့ပြန်မှုများကို အလေးထားဖို့

- စတုတ္ထမဏ္ဍိုင်ဖြစ်သော စာနယ်ဇင်းများ၏ အခန်းကဏ္ဍကိုအလေးထား

အစရှိသော အချက်များသည် အပြောင်းအလဲတစ်ရပ်ကို ဖော်ဆောင်တော့မည် ဖြစ်ကြောင်း ဖွင့်ဟကြေညာချက်များပင် ဖြစ်သည်။

ထို့ပြင်၊ သည်လို ဖော်ဆောင်နိုင်ရန်အတွက် 'ဗဟိုချုပ်ကိုင်မှုကို လျှော့ပြီး လုပ်ပိုင်ခွင့်အာဏာများကိုလည်း ယုံယုံကြည်ကြည် အပ်နှင်းခဲ့ပြီး ဖြစ်ကြောင်း ကိုပါ ပြောဆိုခဲ့သည်။

သည်တွင်၊ ဆက်လက် စဉ်းစားစရာ ကိစ္စတစ်ရပ် ပေါ်လာသည်။

အလုပ်တစ်ခု တာဝန်ယူ ဆောင်ရွက်နိုင်ရန်အတွက် လုပ်ပိုင်ခွင့်အာဏာ ရရှိဖို့ လိုကြောင်း အားလုံး သိကြသည်။ သို့သော်၊ အာဏာရသည့်အခါ ထိုအာဏာကို အလုပ်ဖြစ်မြောက်ရေးတွင် ထိရောက် မှန်ကန်စွာ အသုံးချသလား မချဘူးလားဆိုသော ကိစ္စ။

အကြောင်းက၊ အဲသည်အပေါ်မှာ ပြဿနာတွေ အမြဲ ကြုံရတတ်သောကြောင့် ဖြစ်သည်။

အစိုးရတစ်ရပ်၏ ရည်မှန်းချက်၊ သို့မဟုတ် ၎င်းချမှတ်လိုက်သည့် မူဝါဒလမ်းစဉ် များသည် အောက်ခြေရှိ ၎င်း၏ ယန္တရားအဆင့်ဆင့်တွင် နေရာယူထားသူ၊ လုပ်ပိုင်ခွင့် အာဏာရရှိထားသူတို့ အမှန်တကယ် လက်ခံ ယုံကြည်မှုရှိမှ၊ ထို့နောက် ယင်းသို့ ယုံကြည်သည့်အလျောက် ထက်သန် တက်ကြွစွာ လုပ်ကိုင်ကြမှသာလျှင် တကယ် လက်တွေ့ဖြစ်မြောက်လာနိုင်သည်။

သည်အတွက် အောက်အဆင့်များအရ စိတ်ဓာတ်ရေးရာ၌ ပြင်ဆင်မှုတွေ လိုသည်။




နိုင်ငံရေးစိတ်ဓာတ်။

မိန့်ခွန်းပါ ပြောကြားချက်တွေသည် စကားလုံးသက်သက်တွေ မဟုတ် နိုင်ငံရေး ယုံကြည်ချက်တွေ ဖြစ်ကြောင်း လက်ခံ သိမှတ်ဖို့ လိုသည်။

လက်ခံ သိမှတ်ရုံမက ထက်သန်စွာ ယုံကြည်ဖို့ လိုသည်။

အောက်အဆင့်ဆင့်က လူတွေ စိတ်ပိုင်းဆိုင်ရာအရ အသင့်ပြင်ဆင်ပြီး ဖြစ်မှသာ မိန့်ခွန်းပါ ပြောကြားချက်တွေ တကယ် အကောင်အထည်ဖော် ဖြစ်ကြမည်။

သည်အချက်ကို အလေးထားသဖြင့် နိုင်ငံတော် သမ္မတက ဧပြီ ၆ ရက် မိန့်ခွန်းတွင် 'စနစ်ပြောင်းသွားပြီဖြစ်သကဲ့သို့ ခေတ်လည်း လိုက်ပြောင်းရမည် ဖြစ်ပါကြောင်း၊ အပြောင်းအလဲကို လိုချင်နေသည့် ပြည်သူများ၏ ဆန္ဒကို

းသည်သဘောပေါက်ကြရမှာ ဖြစ်ပါကြောင်း၊ ဗဟိုက ချုပ်ကိုင်သည့်စနစ်အစား အောက်ခြေက အဆင့်ဆင့် တာဝန်ယူပြီး အထက်ကို ပြန်တာဝန်ခံသည့်စနစ်မျိုးဖြင့် ကြရမှာ ဖြစ်ပါကြောင်း၊ ထို့ကြောင့် အောက်ခြေက တောင့်တင်းခိုင်မာရန်၊ ကောင်းရန် လိုပါကြောင်း၊ အမှန်အလုပ်လုပ်ကြရမည့်သူများမှာ ညွှန်ချုပ်က ငြီး အောက်ခြေဝန်ထမ်းများ ဖြစ်ပါကြောင်း၊ ဝန်ကြီးများ ဒုတိယဝန်ကြီး များသည် စနစ်သစ်အရ ငါးနှစ်တစ်ကြိမ် ခေါင်းပြောင်းနေကြမှာ ဖြစ်ပါကြောင်း၊ ကြောင့် ညွှန်ချုပ်ကစပြီး အောက်ခြေ အဆင့်ဆင့်အထိ အဆင့်ဆင့်သော ထမ်းများ အရည်အချင်း ပြည့်ဝမှသာ ဝန်ကြီးဌာန၏ လုပ်ငန်းများ တ်လက်မြန်ဆန် မှန်ကန်မှာဖြစ်ကြောင်း ...' ဟူ၍ လည်းကောင်း၊

တစ်ဖန်၊ သည်အချက်ကိုပင် နိဂုံးချုပ်တွင် ထပ်မံ၍၊

'... စနစ်တစ်ခု ခေတ်တစ်ခုကို ပြောင်းလဲခဲ့ပြီ ဖြစ်ပါကြောင်း၊ ပြောင်းလဲ သည့် ခေတ်စနစ်နှင့်အညီ အတွေးအခေါ်များ လုပ်နည်းလုပ်ဟန်များလည်း က်ပြောင်းရမည် ဖြစ်ပါကြောင်း' ဟူ၍ လည်းကောင်း၊ အလေးအနက် ပြောကြားခဲ့ခြင်း ဖြစ်သည်။

သမ္မတက မလစ်လပ်ရအောင် ပြောသွားသော သဘောပင်။

သို့သော်၊ ခေတ်တစ်ခု စနစ်တစ်ခုပြောင်းဖို့ လှုပ်ရှားဆောင်ရွက်ကြရာတွင် ည်းရုံးလှုံ့ဆော်သံ၊ တိုက်တွန်း နှိုးဆော်သံတွေ သည့်ထက် များပြားကျယ်လောင်စွာ ားရဖို့ကောင်းသည်။

အဂတိ ကင်းစင်ရေး၊

လုပ်ငန်းယန္တရားများ သွက်လက်ထက်မြက်ရေး၊

ရှင်းလင်းမြင်သာမှုနှင့် တာဝန်ခံမှုရှိရေး၊

အများပြည်သူ့ဆန္ဒကို လေးစားလိုက်နာရေး၊ ... စသည့် အစိုးရကောင်း တ္တဏာ များကို ဖော်ထုတ်ပြောဆိုသည့် အသံတွေ အောက်အဆင့်ဆင့်မှာ င်ထပ်လာဖို့ လိုသည်။

အဲဒါမှသာ အမှန်တကယ် ပြောင်းလဲဖို့ အလားအလာတွေ ရှိသည်။

အပြောင်းအလဲ ကာလများမှာ၊ ဦးဆောင်သည့်အပိုင်းက ဝါဒသဘော ပြောင်းသည့်တိုင် ပိုနေမြဲ ကျားနေမြဲ အနေအထားမှာ မိမိအတွက် အခွင့်အ နေသော တချို့အစိတ်အပိုင်းများက ပြောင်းလဲမှု တံ့ဆိုင်းနေအောင် င့်ယှက်ဟန့်တားတာ၊ ကမောက်ကမတွေ မလိုအပ်သော ပြဿနာတွေ တီးကာ အပြောင်းအလဲကို စိတ်ပျက်ဖွယ်ဖြစ်အောင် လုပ်ဆောင်တာတွေ

ရှိတတ်သည်။

ထို့ပြင်၊ ဒီမိုကရေစီသဘောသို့ ကူးပြောင်းသည့်အခါ နိုင်ငံထိပ်ပိုင်းအဆင့်၌ အုပ်ချုပ်ရေး၊ ဥပဒေပြုရေး၊ တရားစီရင်ရေး အာဏာများကို အခွဲအစမှာပင် ခွဲခြားထားရှိသော်လည်း၊ အောက်ဘက် အချို့သော အဆင့်များတွင် လုပ်ငန်း သဘာဝအရ စီမံခန့်ခွဲရေးသမားတို့က အာဏာသုံးရပ်လုံးကို ကိုင်တွယ် သုံးစွဲ နေကြသည်များရှိရာ၊ ၎င်းနေရာဌာနများ၌လည်း တတ်နိုင်သမျှ ဒီမိုကရေစီ နည်းကျဖြစ်အောင် အထက်ပုဂ္ဂိုလ်တို့က စောစောပိုင်းမှာပင် ပြန်လည် ပုံစံချ ဆောင်ရွက်သင့်သည်။ သို့မှသာ ပြည်သူနှင့် တိုက်ရိုက် ထိတွေ့ရသည့်အပိုင်းတွင် ပြည်သူ့ဆန္ဒကို လေးစားဂရုပြုသည့် အလေ့အထများ ပြည့်ပြည့်ဝဝ ထွန်းကား နိုင်ပေမည်။



တစ်ဖန်၊

အစိုးရယန္တရားတို့၏ တာဝန်ခံပုဂ္ဂိုလ်များ သို့မဟုတ် အစိုးရ၏ ကိုယ်စားလှယ်များအဖြစ် ပြည်သူလူထုနှင့် ထိတွေ့ဆက်ဆံကြသည့် ညွှန်ချုပ် စသည့် ဝန်ထမ်း အဆင့်ဆင့်တို့ အစိုးရမူဝါဒများကို အကောင်အထည်ဖော်ရာ၌ သွက်လက်မြန်ဆန် မှန်ကန်ရေးတွင်၊ ငါးနှစ်တစ်ကြိမ် ခေါင်းပြောင်းနေကြမည့် ဝန်ကြီးများ ဒုဝန်ကြီးများက ၎င်းတို့ သက်တမ်းကာလတစ်လျှောက် တာဝန်ယူ ကြီးကြပ်ကြရုံဖြင့် မလုံလောက်၊ ပြည်သူတစ်ရပ်လုံး၏ ဝိုင်းဝန်း ထိန်းကျောင်းမှု ကိုလည်း ရယူသင့်သည်ဟု မြင်သည်။

ချုပ်ပြောသော်၊

ပြည်သူတို့၏ ဝေဖန် အကြံပြုချက်များကို အလေးဂရုပြုခြင်း၊ ယင်းတို့အား လက်ခံရယူရန် လမ်းကြောင်းများ ဖွင့်ထားခြင်း စသည်တို့အားဖြင့်သာ ပြည်သူ့ သဘောဆန္ဒကို လေးစားတန်ဖိုးထားကြောင်း ပြသနိုင်မည်၊ ယင်းသို့ ပြည်သူ့ သဘောဆန္ဒကို လေးစားတန်ဖိုးထားခြင်းဖြင့်သာ ဒီမိုကရေစီစနစ် ကျင့်သုံးသော အစိုးရဖြစ်နိုင်မည် ဟုဆိုချင်ပါသည်။

[ ၂၂ ဇွန် ၂၀၁၁ ]

# ဘယ်သူ့အတွက် ဥပဒေလဲ

နေကုန်တိုင်းဒေသကြီးလွှတ်တော် အစည်းအဝေးခန်းမတွင် ၂၀၁၁ ဇွန်လ ၂၄ ရက်နေ့က ကျင်းပသော တွေ့ဆုံပွဲ၌ ပြည်သူ့လွှတ်တော် ဥက္ကဋ္ဌ သူရဦးရွှေမန်းက လွှတ်တော်များ ခိုင်မာအားကောင်းရန်နှင့် လွှတ်တော်ကိုယ်စားလှယ်များ အစည်းအဝေး ပြည့်ဝအောင် ဆောင်ရွက်နေမှုများကိုလည်းကောင်း၊ ဆက်လက် ဆောင်ရွက်ရန် အစီအစဉ်များကိုလည်းကောင်း ရှင်းလင်း ပြောကြားခဲ့သည်။

သည်အနက် အဓိက အချက်တစ်ခုမှာ တည်ဆဲဥပဒေများ၊ နည်းဥပဒေများ၊ စည်းမျဉ်းစည်းကမ်းများနှင့် ဥပဒေသဘော သက်ဝင်သော အမိန့်ကြော်ငြာစာ၊ အမိန့်၊ ညွှန်ကြားချက်၊ လုပ်ထုံးလုပ်နည်း စသည်များကို စုစည်းလေ့လာ၍ ပယ်ဖျက်သင့်သည်ကို ပယ်ဖျက်၊ ပြင်ဆင်သင့်သည်ကို ပြင်ဆင်ကာ အသစ် ပြဋ္ဌာန်းသင့်သည်များကို ပြုစုမည့် လုပ်ငန်းအစီအစဉ် ဖြစ်ကြောင်းနှင့် ယင်းသို့ ဥပဒေများကို စုစည်းလေ့လာကာ သင့်မသင့် ချိန်ထိုး အကဲဖြတ်ရာ၌ အသုံးပြုသည့် တိုင်းတာချက်များတွင် ပြည်သူ့ အကျိုးစီးပွား၊ နိုင်ငံတော် အကျိုးစီးပွားတို့ကို ကာကွယ်စောင့်ရှောက်နိုင်ခြင်း ရှိမရှိ အစရှိသည့် အချက်များ ပါဝင်ကြောင်း ဖော်ပြခဲ့သည်။

ဥပဒေပြုမဏ္ဍိုင်နှင့် စပ်လျဉ်းသည့် ပြည်သူ့လွှတ်တော် ဥက္ကဋ္ဌ၏ ပြောကြားချက်များမှာ ထောင့်စေ့သည် ဟုဆိုရပါမည်။

သို့သော်၊ မဏ္ဍိုင်ကြီးများကို မော့်ကြည့်ရသည့် ပြည်သူတို့အနေဖြင့်မူ ဖြည့်စွက်ပြောဆိုစရာများ ကျန်ရှိနေပါသည်။

တစ်ချက်က၊ ဥပဒေများသည် ပြည်သူနှင့် နိုင်ငံတော်တို့၏ အကျိုးစီးပွားများအား ကာကွယ်စောင့်ရှောက်နိုင်မှု ရှိမရှိ အကဲဖြတ်သည်ဆိုရာ၌ ဘယ်အရာသည် ပြည်သူ့အကျိုးစီးပွား–နိုင်ငံတော်အကျိုးစီးပွားဖြစ်သလဲ ဟူသည့် ဆုံးဖြတ်ချက်၊ တစ်နည်းပြောသော် ဖွင့်ဆိုသူတို့၏ ခံယူချက်၊ သို့မဟုတ် နိုင်ငံရေး ယုံကြည်ချက်နှင့် ပတ်သက်သည်။

ဥပဒေများ သတ်မှတ်ပြဋ္ဌာန်းရာ၌ တိုင်းပြည်အာဏာပိုင်တို့ ကိုင်စွဲကျင့်သုံးသည့် နိုင်ငံရေးစနစ်နှင့် လျော်ညီစွာ လုပ်ကိုင်ဆောင်ရွက်လေ့ရှိကြသည်မှာ သဘာဝ ဖြစ်သည်။

ဥပမာ၊ ဆိုရှယ်လစ်စီးပွားရေးစနစ် တည်ဆောက်ရန် လုံးပန်းသည့်ခေတ်တွင် ဆိုရှယ်လစ်စီးပွားရေးစနစ်ကို ကာကွယ်သည့် ဥပဒေများ ပြဋ္ဌာန်းခဲ့၏။

လူမျိုးတစ်မျိုး ဘာသာတစ်ရပ် ကြီးစိုးသောအရပ်တွင် ၎င်းလူမျိုး၊ ၎င်းတို့ ကိုးကွယ်သော ဘာသာကို စောင့်ရှောက်မြှင့်တင်သော ဥပဒေမျိုး ပြဋ္ဌာန်းလေ့ ရှိကြ၏။

သည့်သဘောအရ၊ ခေတ်မီ ဖွံ့ဖြိုးသော ဒီမိုကရေစီနိုင်ငံတော်သစ် တည်ဆောက်ရန် မူဝါဒလမ်းစဉ် ချမှတ်ထားသော ကာလတွင် ဥပဒေများကို သယ်နှုတ်ခြင်း ပြင်ဆင်ခြင်း အသစ်ရေးဆွဲပြဋ္ဌာန်းခြင်းများ ပြုရန် သုံးသပ် ဆောင်ကြသည့်အခါ ဒီမိုကရေစီ၏ အနှစ်သာရများနှင့် ညီညွတ်ခြင်း ရှိ မရှိ ဟူသည်ကို အလေးထား စဉ်းစားဖို့ လိုမည်ဟု ရှုမြင်သည်။

ပြည်သူ့လွှတ်တော် ဥက္ကဋ္ဌက ပြည်သူများသည် အချုပ်အခြာအာဏာ၏ မူလ ပိုင်ရှင်များဖြစ်ကြောင်း၊ လွှတ်တော်သည် ပြည်သူ့ကိုယ်စားလှယ်များနှင့် ဖွဲ့စည်းထားသည့် အတွက် ပြည်သူများ၏ အာဏာအုပ်စိုးမှုသည် လွှတ်တော်၌ ရှိနေကြောင်းလည်း အလေးအနက် ပြောကြားခဲ့ရာ၊ ၎င်းအတိုင်း ညီညွတ်စေရန် အတွက်၊ ဥပဒေကြမ်းပြုစုခြင်း၊ ဥပဒေပြုရန် စဉ်းစားဝေဖန်ခြင်းများပြုသည့်အခါ အများပြည်သူ၏ ဆန္ဒသဘောထားများ ပါဝင်စေနိုင်မည့် အစီအမံများလည်း ချမှတ်ထားသင့်သည်။

အချို့သော ဥပဒေများသည် သက်ဆိုင်ရာ ပြည်သူတို့၏ ကဏ္ဍနယ်ပယ်ထဲက ဖြစ်စေ၊ ၎င်းတို့နှင့် ထိတွေ့နီးနှော၍ဖြစ်စေ ထွက်ပေါ်လာသင့်သည်။

ဥပမာ၊ လယ်ယာမြေဆိုင်ရာ ဥပဒေများတွင် လယ်သမားတို့၏ သဘောထား အမြင်များနှင့် လယ်ယာကျေးလက် အကျိုးစီးပွားကို ကာကွယ်စောင့်ရှောက်သည့် ရပ်တည်ချက်များ ပါဝင်သင့်သကဲ့သို့၊ စက်ရုံအလုပ်ရုံ အလုပ်သမားများဆိုင်ရာ ဥပဒေများတွင်လည်း အလုပ်သမားတို့၏ သဘောထားအမြင်များနှင့် ၎င်းတို့ အကျိုးစီးပွားကို ကာကွယ်စောင့်ရှောက်သည့် ရပ်တည်ချက်များ ပါဝင်ဖို့ လိုသည်။

ဥပဒေများကို အကဲဖြတ်ရာ၌ ဖွဲ့စည်းပုံ အခြေခံဥပဒေနှင့် ညီညွတ်ခြင်း ရှိ မရှိ ဟူသည်ကိုလည်း အရေးကြီးသော တိုင်းတာ စိစစ်ချက်တစ်ရပ်အဖြစ် ဥက္ကဋ္ဌက ဖော်ပြခဲ့သည်။



ဤသည်နှင့် စပ်လျဉ်း၍ ပြောစရာ နှစ်ချက် ရှိသည်။

တစ်ချက်မှာ ဖွဲ့စည်းပုံပါ နိုင်ငံသားများ၏ မူလအခွင့်အရေးများအပိုင်း ဖြစ်သည်။

ဖွဲ့စည်းပုံ အခြေခံဥပဒေ ပုဒ်မ ၃၄၇ တွင်၊ နိုင်ငံတော်သည် မည်သူ့ကိုမဆို

ဥပဒေအရာတွင် တန်းတူညီမျှ အခွင့်အရေး ရရှိစေရမည်။ ထို့ပြင် ဥပဒေ၏ အကာအကွယ်ကိုလည်း တန်းတူညီမျှစွာ ရယူပိုင်ခွင့်ပေးရမည် ဟူ၍ ပြဋ္ဌာန်းထားသည်။

လွှတ်တော်ဥက္ကဋ္ဌ၏ မိန့်ခွန်းတွင် ဥပဒေ၏ အထက်၌ မည်သူမျှ မရှိစေရ၊ ဥပဒေ၏ ပြင်ပတွင်လည်း မည်သူမျှ မရှိစေရ ဟူသောသဘောကို ရှင်းလင်းစွာ ပြောဆိုခဲ့ရာ ဖွဲ့စည်းပုံ၌ ဖော်ပြသည့် ဥပဒေအရာတွင် တန်းတူညီမျှ... ဟူသည်ကို ထပ်လောင်း အတည်ပြု ပြောဆိုရာရောက်သည့်အပြင်၊ တစ်ချိန်က ဖြစ်ခဲ့သည့်၊ ငွေများတရားနိုင်ခြင်း၊ မျက်နှာကြီးရာ ဟင်းဖတ်ပါခြင်းနှင့် အချို့သော ပုဂ္ဂိုလ်များက တရားစီရင်ရေးပိုင်းတွင် မလျော်ဩဇာသုံးခြင်းများကို ငြင်းပယ်လိုက်သော သဘောလည်း ဖြစ်သည်။

ပုဒ်မ ၃၄၇ ဒုတိယပိုင်းပါ။ ဥပဒေ၏ အကာအကွယ်ကို ရယူပိုင်ခွင့်ဆိုရာ၌၊... ဥပဒေနှင့်အညီ ခုခံချေပခွင့်ရှိစေရမည် (ပုဒ်မ ၃၇၅)။ ... စီရင်ပိုင်ခွင့်ရှိသော တရားသူကြီး၏ ချုပ်မိန့်မရဘဲ မည်သူ့ကိုမျှ ၂၄ နာရီထက် ပို၍ ချုပ်နှောင်ခြင်း မပြုရ (ပုဒ်မ ၃၇၆)။ ... သက်ဆိုင်ရာ ဥပဒေအရသာ ပြစ်မှုထင်ရှား စီရင်ရမည်။ ထို့ပြင် ယင်းဥပဒေအရ ချမှတ်နိုင်သော ပြစ်ဒဏ်ထက် ပို၍ ချမှတ်ခြင်းမပြုရ (ပုဒ်မ ၃၇၃)။ ... အစရှိသည်များ အပါအဝင် အခန်း (၈) တွင် ဖော်ပြထားသည့် မူလအခွင့်အရေးများ ရယူပိုင်ခွင့်ကို ညွှန်းဆိုသော သဘောဖြစ်ရာ၊ ဥပဒေများ ရေးဆွဲသည့်အခါ၌ ထိုအချက်များနှင့် မညီညွတ်ခြင်း၊ ဥပဒေသစ်ကြောင့် ပြည်သူ့အခွင့်အရေးများ ပွန်းပဲ့ဆုံးရှုံးခြင်း မဖြစ်ရအောင် ဂရုပြုသင့်သည်။

လွှတ်တော်ဥက္ကဋ္ဌ၏ မိန့်ခွန်းတွင် ပါဝင်သည့် နောက်အချက်တစ်ခုမှာ မဏ္ဍိုင်သုံးရပ်တို့ အပြန်အလှန် ထိန်းကျောင်းမှုစနစ်နှင့် ပတ်သက်သည်။

ဥပဒေပြုရေးတွင် အဓိကတာဝန်ယူထားသည့် လွှတ်တော်များနှင့် လွှတ်တော်ကိုယ်စားလှယ်များသည် နိုင်ငံတော်က ပြဋ္ဌာန်းထားသည့် ဥပဒေများကို တရားရေးဆိုင်ရာ ပုဂ္ဂိုလ်တို့က လက်တွေ့တရားစီရင်ရေးကိစ္စအတွက် အဓိပ္ပာယ်ဖွင့်ဆိုခြင်း၊ ယင်းတို့ကို ကိုင်တွယ်သုံးစွဲကာ စစ်ဆေးစီရင် ဆုံးဖြတ်ခြင်းများပြုရာ၌ ဥပဒေ၏ အနှစ်သာရများနှင့် တိမ်းစောင်းသွေဖည်ခြင်း မရှိရအောင် ထိန်းကျောင်းသည့်မတ်မှု ပြုသကဲ့သို့၊ အုပ်ချုပ်ရေးမဏ္ဍိုင်၏ စီမံဆောင်ရွက်မှုများနှင့် ပတ်သက်၍လည်း အထက်တွင် ဖော်ပြခဲ့သည့် အခြေခံဥပဒေပါ မူလအခွင့်အရေးများကို ထိပါးခြင်း မပြုရအောင် ဝေဖန်ထောက်ပြခြင်းအားဖြင့် မယိမ်းမယိုင်အောင် ထိန်းညှိပေးသင့်သည်။

ဤတွင် သတိပြုရန်တစ်ခုက အချို့သော အုပ်ချုပ်ရေးပိုင်းဆိုင်ရ
အဖွဲ့အစည်းများ အာဏာပိုင်များသည် သက်ဆိုင်ရာ ကဏ္ဍရပ်နှင့် စပ်လျဉ်း
ဥပဒေသဘော သက်ဝင်သည့် သို့မဟုတ် ဥပဒေနှင့် သက်ဆိုင်သည
အမိန့်ကြော်ငြာစာ၊ အမိန့်၊ ညွှန်ကြားချက်နှင့် လုပ်ထုံးလုပ်နည်းများ ထုတ်ပြန်
ရှိထားရာ အနှစ်သာရ သဘောအရပြောလျှင် တရားရေးမဏ္ဍိုင်၏ လုပ်ပိုင်ခွ
များကို တစ်စိတ်တစ်ပိုင်း ရရှိနေခြင်း ဖြစ်သည်။

ထို့ပြင်၊ ထိုညွှန်ကြားချက် လုပ်ထုံးလုပ်နည်း စသည်များအရ စီ
ဆောင်ရွက်ကြရာ၌ စစ်ဆေးစီရင်ခြင်း၊ ပြစ်ဒဏ်ချမှတ်ခြင်းများပါ လုပ်ကိုင်နိုင
ကြရာ အာဏာသုံးရပ်လုံး တစ်နေရာတည်း၌ စုဝေးမိသလို ဖြစ်နေသည
သည်လိုအနေအထားမျိုးသည် အုပ်ချုပ်ရေးပိုင်း၏ ကဏ္ဍနယ်ပယ် အတေ
များများတွင် ဖြန့်ကြက်တည်ရှိနေမည်ဆိုက မဏ္ဍိုင်သုံးရပ် အပြန်အလှ
ထိန်းကျောင်းမှု အားနည်းသွားနိုင်သည်။

ပြည်သူကြားမှာနေသည့် လွှတ်တော်ကိုယ်စားလှယ်တို့အနေနှင့် ယင်း
အုပ်ချုပ်ရေးမဏ္ဍိုင်၏ ကဏ္ဍနယ်ပယ်များ၌ ဖြစ်ပေါ်လာနိုင်သည့် ထိုအနေအထ
များကို သတိပြုကာ ဒီမိုကရေစီနည်းကျဖြစ်အောင် ထိန်းကျောင်းနိုင်ရေးအတွ
ဆောင်ရွက်သင့်ပါသည်။



ချုပ်ပြောရသော်၊

ဥပဒေပြုရေးမဏ္ဍိုင်တွင် အဓိကတာဝန်ယူထားသော ပြည်သူ့ကိုယ်စားလှယ်မ
အနေနှင့် နိုင်ငံ၌ ပြဋ္ဌာန်းလိုက်သော ဥပဒေတို့သည် ပြည်သူ့အကျိုးအတွ
ဖြစ်စေဖို့ မပြတ် အာရုံထားသကဲ့သို့၊ တစ်ဖက်၌ တရားစီရင်ရေးမဏ္ဍိုင်န
အုပ်ချုပ်ရေး မဏ္ဍိုင်တို့ တည့်မတ် မှန်ကန်အောင် ထိန်းသိမ်းစောင့်ကြပ်ရေး
အလေးဂရုပြု ဆောင်ရွက်ခြင်းဖြင့်သာ မိမိတို့ မဲဆန္ဒနယ်မှ ပြည်သူလူထု
အမှန်တကယ် ကိုယ်စားပြုသည့် သစ္စာရှိသော ပြည်သူ့ကိုယ်စားလှယ်မ
ဖြစ်နိုင်ကြလိမ့်မည်ဟု တင်ပြလိုပါသည်။

[ ၂၉ ဇွန် ၂၀၁

# ဒီမိုကရေစီထူထောင်ရေးပြဿနာ

နိုင်ငံတော် သမ္မတ ဦးသိန်းစိန်၏ ၂၀၁၁ ခုနှစ် မတ်လ ၃၁ ရက်နေ့ မိန့်ခွန်းတွင် အစိုးရ၏ လုပ်ငန်းစဉ်များနှင့် စပ်လျဉ်း၍ ပြောကြားရာ၌ ဒီမိုကရေစီကျင့်စဉ်များ ထွန်းကားရေးဟူသည်ကို တစ်ကဏ္ဍ ဖော်ပြခဲ့ပါသည်။

ဒီမိုကရေစီစနစ်ကို ကောင်းစွာ ကျင့်သုံးနိုင်ရန်အတွက်၊ အစိုးရအဖွဲ့အတွင်း၌ လည်းကောင်း၊ ဌာနဆိုင်ရာ အဖွဲ့အစည်းများ၌ လည်းကောင်း၊ ပြည်သူလူထု အတွင်းမှာလည်းကောင်း ဒီမိုကရေစီ ကျင့်စဉ်များ ထွန်းကားဖို့ လိုကြောင်း ပြောဆိုပြီး၊

ပြည်သူများအပိုင်းတွင်၊

လွတ်လပ်ခွင့်နှင့် အခွင့်အရေးများကို ကျင့်သုံးရာ၌ ဥပဒေနှင့်အညီ၊ ယဉ်ကျေးမှု ဓလေ့ထုံးစံများ ကျင့်ဝတ်များနှင့်အညီ ကျင့်သုံးရန် လိုအပ်သည်ဟူ၍ လည်းကောင်း၊

အုပ်ချုပ်ရေးဆိုင်ရာ အဖွဲ့အစည်းများအပိုင်းတွင်၊

အုပ်ချုပ်ရေးဆိုင်ရာ လုပ်ငန်းများ ဆောင်ရွက်ရာမှာ ဖြစ်စေ၊ ဥပဒေများ လုပ်ထုံးလုပ်နည်းများကို အကောင်အထည်ဖော်ရာမှာဖြစ်စေ နိုင်ငံသားများ၏ မူလ အခွင့်အရေးများကို ဟန့်တားပိတ်ပင်သကဲ့သို့ မဖြစ်စေဘဲ၊ အဆိုပါ အခွင့်အရေးများကို နည်းမှန်လမ်းမှန်နှင့် ပြည်ထောင်စု၏ အကျိုးစီးပွား၊ လူမှုအဖွဲ့အစည်း၏ အကျိုးစီးပွားများကို မထိခိုက်စေဘဲ ကျင့်သုံးနိုင်အောင် စည်းထိန်းကျောင်းပေးဖို့အတွက်သာ ရည်ရွယ်လုပ်ဆောင်ဖို့ လိုအပ်သည်ဟူ၍ လည်းကောင်း၊ ပိုင်းခြား ပြောဆိုခဲ့ပါသည်။

ဤသည်က ဒီမိုကရေစီသို့ ကူးပြောင်းရာ၌ ပြဿနာ အခက်အခဲတွေ ကြုံတွေ့ရနိုင်ကြောင်း တစ်စွန်းတစ်စ လှစ်ဟ ဖော်ပြလိုက်ခြင်း ဖြစ်ပေသည်။

သည်တွင်၊ ပြည်သူတို့အနေနှင့် ဦးစွာပထမ တိကျသေချာစွာ သိ[illegible]ရာ တစ်ခုက၊ ဒီမိုကရေစီသို့ ရောက် မရောက်ကို ဘယ်[illegible]တွေနှင့် တိုင်းတာမည်နည်း၊ သို့မဟုတ် အဘယ်လက္ခဏာတွေနှင့် ပြည့်စုံသော် ဒီမိုကရေစီဟု ဆိုနိုင်မည်နည်း၊ ဟူသောအချက် ဖြစ်သည်။

ဒီမိုကရေစီ၏ လက္ခဏာများအနက်မှ အရေးကြီးသော အချက်[illegible]ကို ချုပ်၍ ပြောသော်၊

ဒီမိုကရေစီဟူသည် အနှစ်သာရ သဘောအရ အများပြည်သူ သဘောဆန္ဒဖြ
အုပ်ချုပ်ခြင်း ဖြစ်သည်။

ယင်းကို လက်တွေ့ ကျင့်သုံးသောအခါ၊ ပုံမှန်ကျင်းပသည့် ရွေးကောက်
များတွင် ပြည်သူတို့ ရွေးကောက် တင်မြှောက်လိုက်သည့် ကိုယ်စားလှယ်များ
ပြည်သူတို့ ကိုယ်စား တာဝန်ယူ အုပ်စိုးကြသော အနေအထား ဖြစ်သွားပါသည်

ဤတွင်၊ သတိပြုရန်တစ်ခုက ရွေးကောက်ပွဲဆိုင်ရာ စည်းမျဉ်းစည်းကမ်းနှင့်
လုပ်ကိုင်ပုံအဆင့်ဆင့်တို့ တိကျမှန်ကန်မှသာ ပြည်သူ့ကိုယ်စားလှယ် စစ်စစ်များ
ရရှိနိုင်မည် ဟူသောအချက် ဖြစ်သည်။

ဒုတိယအချက်မှာ ပြည်သူ့ရပိုင်ခွင့်များနှင့် ပတ်သက်သည်။

ပြည်သူများသည် ဆန္ဒမဲပေးခြင်းမှသည် ဝင်ရောက် အရွေးခံခြင်း၊ ပါတီ
အဖွဲ့အစည်းများ ဖွဲ့စည်းခြင်း၊ စည်းရုံးဆော်သြခြင်း၊ မိမိသဘောဆန္ဒကို
လွတ်လပ်စွာ ဖော်ထုတ်ပြောဆိုခြင်း စသည့် အခွင့်အရေးများ ရရှိရပါမည်။

တတိယအချက်မှာ တရားဥပဒေစိုးမိုးရေးဖြစ်သည်။ တရားဥပဒေစိုးမိုး
ဟူသည်၌ တရားဥပဒေရှေ့မှောက်တွင် လူတိုင်း တန်းတူညီမျှရှိခြင်း၊ အခြေခံ
ဥပဒေပါ ရပိုင်ခွင့်များအား ပြည်သူတို့ ခံစားသုံးစွဲခြင်းကို အင်အားကြီးသူတို့
နှောင့်ယှက်ဟန့်တားမှု မပြုနိုင်အောင် သီးခြား လွတ်လပ်သော တရားစီရင်ရေး
စနစ်က ကာကွယ်စောင့်ရှောက်ခြင်း စသည်များ ပါဝင်သည်။

သည့်အပြင် လိုအပ်သည့် ပကတိအခြေအနေတချို့ ရှိပါသေးသည်။

သည်အထဲတွင်၊

အစိုးရ၏ မူဝါဒများရော၊ ဦးဆောင်ပုဂ္ဂိုလ်များကိုပါ လွတ်လပ်စွာ ဝေဖန်
ထောက်ပြနိုင်သည့် စာနယ်ဇင်းများ တည်ရှိဖို့၊ အစိုးရအာဏာ ရရှိရန်အတွက်
လွတ်လပ်စွာ ရပ်တည်ယှဉ်ပြိုင်နေသည့် နိုင်ငံရေးပါတီများ တည်ရှိဖို့၊ ပုံမှန်
ကျင်းပသည့် ရွေးကောက်ပွဲများတွင် ပြည်သူ့ဆန္ဒမဲ အများဆုံး ရရှိသူတို့
အာဏာရရှိကာ သိမ်မွေ့ညင်သာသော အစိုးရ အပြောင်းအလဲများဖြစ်ပေါ်စို့
စသည် စသည်များ ဖြစ်ပါသည်။

သည်ဟာတွေ ပီသပြည့်စုံစွာ ဖြစ်ပေါ်လာသော် နိုင်ငံ၌ ဒီမိုကရေစီစနစ်
ဖြစ်ထွန်းပြီ ဟုဆိုနိုင်ပါသည်။ ၎င်းအတိုင်း မဖြစ်သေးမီ ကာလကို
အကူးအပြောင်းကာလ သို့မဟုတ် မပီမသကာလ ဟုဆိုရပါမည်။

မပီမသမှ ပီသလာအောင်၊ သို့မဟုတ် မပီမသမှ ပို၍ မှေးမှိန်သော
အနေအထား ပြန်လည် ရောက်ရှိမသွားအောင် ဘာတွေ လိုပါမည်နည်း။

လောလောဆယ် မိမိအနေအထားကို ပြန်စဉ်းစားကြည့်ပါ။

ကျွန်တော်တို့ ရောက်ရှိနေသည်က၊ ယခင်အာဏာပိုင်စနစ်နှင့် ကာလရှည်ကြာ ချုပ်လာခဲ့ရာမှ ပြည်သူလူထု၏ နှစ်ပေါင်း ၂၀ ကျော် တောင်းဆိုမှုများအရ ဒီမိုကရေစီသို့ ကူးပြောင်းရန် အစပြုသည့် အနေအထား ဖြစ်သည်။

ထို့ကြောင့် အကူးအပြောင်းကိစ္စတွင် ပါဝင်လုပ်ဆောင်ပေးရမည့် သူများထဲ၌ အားထက်သန်သူများရော၊ မလိုလား မထက်သန်သူများပါ ရောနှောပါရှိနိုင်သည်။ ဒီမိုကရေစီလိုလားသော ပြည်သူများနှင့် ပြုပြင်ပြောင်းလဲရေးစိတ်ဓာတ် ထက်သန်သော ပြည်သူ့ကိုယ်စားလှယ်များ အားထုတ်ကြိုးပမ်းကြမှသာလျှင် ဒီမိုကရေစီ ပီပြင်အောင် တဖြည်းဖြည်း တွန်းရွှေ့သွားနိုင်လိမ့်မည်။

သည်တွင် သမ္မတပြောခဲ့သော စကားတချို့ကို ပြန်ကောက်ချင်သည်။

သမ္မတက၊ ပြည်သူများအနေနှင့် မိမိတို့၏ လွတ်လပ်ခွင့်နှင့် အခွင့်အရေးများကို ကျင့်သုံးရာတွင် ဥပဒေနှင့်အညီ ယဉ်ကျေးမှု ဓလေ့ထုံးစံများ ကျင့်ဝတ်များနှင့်အညီ ကျင့်သုံးဖို့ လိုအပ်ကြောင်း၊ ပြောဆိုပြီး၊ ယင်းအတွက်၊ အုပ်ချုပ်ရေးပိုင်ရာ အဖွဲ့အစည်းများက 'ထိန်းကျောင်းပေးရန်' လည်း လမ်းညွှန်သွားခဲ့ရာ ခံပွာယ် သဘောအရမူ၊

ပြည်သူများသည် မူလအခွင့်အရေးများကို ခံစားရာ၌ စည်းမျဉ်းစည်းကမ်းများနှင့် မညီညွတ်ခဲ့သော် ဟန့်တားခြင်း ပိတ်ပင်ခြင်း အရေးယူခြင်းခံရလိမ့်မည်၊ ဟူ၍ သက်ရောက်သည်။

သို့သော်၊ ဒါလည်း နည်းလမ်းကျသည် ဟုဆိုရပါမည်။

တစ်ဖက်တွင်၊ အုပ်ချုပ်ရေးပိုင်းဆိုင်ရာတို့၏ ဆောင်ရွက်ခြင်းများသည် နိုင်ငံသားတို့၏ မူလအခွင့်အရေးများကို ဟန့်တားပိတ်ပင်သကဲ့သို့ မဖြစ်အောင် သတိပြုဖို့ လမ်းညွှန်ထားတာလည်း ရှိပါသည်။ ဒါသည်လည်း တန်ဖိုးရှိပါသည်။ ခေတ်ဟောင်း စနစ်ဟောင်းက စိတ်ဓာတ်ဟောင်းတွေကြောင့် ဒီမိုကရေစီ အခွင့်အရေးများကို မကြည်ဖြူနိုင်သူများ ရှိနေနိုင်သည့်အတွက် ၎င်းတို့အား သတိပေး လမ်းညွှန်သော သဘောဟု မြင်ပါသည်။ သို့သော် သည်အပိုင်းတွင် မှန်မှန်ကန်ကန် ဖြစ်ရန်အတွက်၊ ပြည်သူတို့ဘက်က စောင့်ကြည့်ကြရမည့် နည်းလမ်းမကျဟု ယူဆသော် စာဒကတက်မှု၊ ထောက်ပြမှုများ ရှိလာမည် ဖြစ်ပါလိမ့်မည်။

သည်အတွက် ပြည်သူတို့ အားကိုးပြုရမည့် သူများသည် ပြည်သူ့ ကိုယ်စားလှယ်များ ဖြစ်သည်။

ထို့ကြောင့်၊ ပြန်စဉ်းစားသော်၊ ပြည်သူတို့အနေနှင့် အားကိုးလောက်သော
ကိုယ်စားလှယ်စစ်စစ်များ ရရှိရေးသည် အထူးအရေးကြီး ပြန်သည်။

စောစောက ရွေးကောက်ပွဲတွင် ပြည်သူ့ကိုယ်စားလှယ်စစ်စစ် မည်မျှရရှိ
လာမည့် ကြားဖြတ် ရွေးကောက်ပွဲတွင်ကော ဘယ်နှစ်ယောက် မျှော်လင့်
ပါမည်နည်း။

ပြည်သူကို အမှန်တကယ် ကိုယ်စားပြုသူတွေ များလာမှသာ ဒီမိုက
**စနစ်** ပေါ်ထွန်းဖို့ အလားအလာရှိပေမည်။

သည်အတွက် ထပ်စဉ်းစားစရာက ပြည်သူ့ကိုယ်စားလှယ်များ ထွက်ပေါ်
နိုင်ငံရေးပါတီများ ဖြစ်သည်။

နိုင်ငံရေးပါတီတို့ မည်သည် အများပြည်သူကြားက နိုင်ငံရေးစိ
ထက်သန်သူတွေ၊ ယင်းအနက်မှ အယူအဆချင်း နီးစပ်တူညီသူတွေ စုစည်
တည်ထောင်ကာ၊ ပါတီဝင်ထုက သတ်မှတ်ကာလအလျောက် ရွေးကော
တင်မြှောက်သည့် ပုဂ္ဂိုလ်တို့ ဦးဆောင်လုပ်ရှားသည့် အဖွဲ့အစည်းများဖြ
လိုသည်။ အဲဒါမှသာ စစ်မှန်သည်၊ သဘာဝကျသည်။ အဲဒါမှသာ သည်အထဲ
ထွက်ပေါ်လာသည့် ပြည်သူ့ကိုယ်စားလှယ်လောင်းများသည် ဒီမိုကရေစီစိတ်
ပြည့်ဝသူ၊ ဒီမိုကရေစီ အလေ့အကျင့်ကို တန်ဖိုးထားသူများ ဖြစ်လိမ့်မည်
ထိုနည်းတူ အဲသည်ပါတီတို့သည်လည်း ပြည်သူကို ကိုယ်စားပြုသောပါတီ
ဒီမိုကရေစီစနစ်ကို အမှန်တကယ် ထူထောင်မည့် ပါတီများ ဖြစ်လိမ့်မည်

စဉ်းစားကြည့်လျှင်၊

ချို့ယွင်းချက်တွေ၊ အားနည်းချက်တွေ၊ ပြုပြင်ပြောင်းလဲရန် လိုအပ်ချ
တွေက များပြားလှပါသည်။

သို့သော်၊

မိမိတို့ထက်ပင် ဖြစ်နိုင်ချေ နည်းသေးသည် ထင်ရသည့် တိုင်းပြည်များတွ
ဒီမိုကရေစီစနစ် ဖြစ်ထွန်းပေါ်ပေါက်ခဲ့သော သာဓကတွေ ကမ္ဘာ၌ များစွာရှိ
စိတ်အားထက်သန်သော ပြည်သူတို့ အားထုတ်ကြိုးပမ်းလျှင် တစ်နေ့သောအ
ဒီမိုကရေစီ ပန်းတိုင်သို့ မုချရောက်ရလိမ့်မည်ဟု မမိုတ်မသုံ ယုံကြည်ပါသည်

[ ၆ ဇူလိုင် ၂၀၁၁

# ပြည်သူ့အစိုးရခေတ်နှင့် စတုတ္ထမဏ္ဍိုင်

ထင်ခါတုန်းကတော့ စာနယ်ဇင်းလွတ်လပ်ခွင့် ဟူသည် မပြောကောင်းသော အရာတစ်ခု ဖြစ်ခဲ့သည်။

ယခုမူ၊ မကြာခင်က အသက်ဝင်လာသည့် ဖွဲ့စည်းပုံ အခြေခံဥပဒေနှင့်အတူ အိမ်း ယုံကြည်ချက်၊ ထင်မြင်ယူဆချက်များကို လွတ်လပ်စွာ ထုတ်ဖော်ပြောဆိုခွင့်၊ ရေးသား ဖြန့်ဝေခွင့်တို့သည်လည်း တရားဝင် တည်ရှိလာခဲ့ပြီ ဖြစ်သည်။

ကာလရှည်ကြာ လွတ်လပ်ခွင့်နည်းပါးခဲ့၍ သေးကွေးကြုံလှီခဲ့သော စာနယ်ဇင်းတို့ သည် ယခုအခါ၌ မိမိတို့ကိုယ်ကိုယ် မိမိတို့ နိုင်ငံ၏ စတုတ္ထ မဏ္ဍိုင်အဖြစ် ထူထောင်ကာ တိုင်းပြည်၌ ပြည်သူ့အစိုးရခေတ် ပီသစွာ ထွန်းပေါက်ရေးအတွက် စွမ်းစွမ်းတမံ ဆောင်ရွက်ကြရန် စိတ်အားထက်သန်စ ပြုလာကြပြီ ဖြစ်သည်။

မထက်သန်၍လည်း မဖြစ်ပေ။

အကြောင်းက၊ တိုင်းပြည်တစ်ပြည်၌ ဒီမိုကရေစီစနစ်ထွန်းကားရေး၊ သို့မဟုတ် ပြည်သူ့ကိုယ်စားလှယ် စစ်စစ်များ အုပ်စိုးသည့် ပြည်သူ့အစိုးရခေတ် ဖြစ်ရေးတွင် စတုတ္ထမဏ္ဍိုင်ဟု ခေါ်သော အမှီအခိုကင်းသည့် စာနယ်ဇင်းများ ရှိမှဖြစ် လိုအပ်သောကြောင့် ဖြစ်သည်။

အစိုးရပိုင်နှင့် အစိုးရဩဇာခံ စာနယ်ဇင်းများချည်းရှိသည့်အခါ ပြည်သူ တို့သည် တစ်ဖက်သတ် ပြောသောအသံကိုသာ နားခံနေရသည်။ မိမိသဘောကို ပြောဆိုခွင့် မရှိသကဲ့သို့၊ မိမိ ပြဿနာ မိမိ ဒုက္ခတို့ကိုလည်း တင်ပြခွင့်မရှိပေ။

သီးခြားလွတ်လပ်သော၊ သို့မဟုတ် ပြည်သူကြားက ထွက်ပေါ်သော ပုဂ္ဂလိက စာနယ်ဇင်းများရှိသည့်အခါ ပြည်သူသည် အုပ်စိုးသူကို ထောက်ပြသြဆုံး နိုင်သည်၊ စစ်ကြော ဝေဖန်နိုင်လာသည်၊ မိမိ ကိစ္စတွေကိုလည်း ထင်ရှားစွာ ပြောဆို နိုင်လာသည်။

လွတ်လပ်သော စာနယ်ဇင်းတို့သည် အစိုးရ ချမှတ်သော မူဝါဒတို့ ကောင်းမွန်ပုံ အကျိုးရှိပုံကို တင်ပြနိုင်သကဲ့သို့၊ မကောင်းချွတ်ယွင်းပုံ အကျိုးမဲ့ပုံ တို့ကိုလည်း လူထု သိအောင် တင်ပြနိုင်သည်၊ အလားတူ ဌာနဆိုင်ရာတို့ စီမံခန့်ခွဲမှု ညံ့ဖျင်းခြင်း၊ တာဝန်မဲ့ခြင်း၊ တရားစီရင်ရေးသမားတို့ လာဘ် ထိုးလာဘ်စားခြင်း စသည်တို့ကြောင့် ပြည်သူတို့ ထိခိုက်နစ်နာသည့်များကိုသော်

ယင်းတို့ကို ဖော်ထုတ်ခြင်းဖြင့် အစိုးရ ယန္တရားများ တည့်မတ်မှန်ကန်အောင်လည်း သတိပေးနှိုးဆော်နိုင်သည်။

ထို့ပြင် ငွေရှင်ကြေးရှင် လုပ်ငန်းရှင်ကြီးများက မနအင်အားဖြင့် လွှမ်းမိုး အနိုင်ယူခြင်း၊ လက်ဝါးကြီးအုပ် ချုပ်ကိုင်သောနည်းဖြင့် စီးပွားရေး အနိုင်ကျင့်ခြင်း သည့် လူမှုစီးပွားမတရားမှုများကိုလည်း စောင့်ကြည့် ဖော်ထုတ်ကာ ထိန်းကွပ်မှု ပြုနိုင်သည်။

တစ်ဖန်၊

စာနယ်ဇင်းတို့သည်၊ ပြည်သူများအား အုပ်စိုးခွင့်ရရန် ရည်ရွယ်လုပ်ကိုင်လျက် ရှိသည့် နိုင်ငံရေးသမားများနှင့် ၎င်းတို့ ဖွဲ့စည်းထားသည့် နိုင်ငံရေးပါတီများ အကြောင်းကို အများပြည်သူတို့ သိရှိအောင် တင်ပြသော အလုပ်ကိုလည်း ဆောင်ရွက်ပေးနိုင်သည်။

ဒီမိုကရေစီဟူသည် ပြည်သူ့ကိုယ်စားလှယ်များက တိုင်းပြည်ကို အုပ်စိုးသော စနစ်ဖြစ်ရာ၊ ကိုယ်စားလှယ်လောင်းအဖြစ် အရွေးခံသော ဘယ်ပုဂ္ဂိုလ်သည် ဘယ်သို့သော ရာဇဝင်ရှိသည်၊ ဘယ်သို့သော အယူအဆရှိသည်၊ ယနေ့ လူအများကြား အငြင်းပွားနေသည့် ဘယ်ကိစ္စတွင် သူ ဘယ်က ရပ်သည် စသည့် အချက်များကို မဲဆန္ဒရှင် ပြည်သူတို့ သိဖို့ လိုသည်။ ပုဂ္ဂိုလ်အကြောင်း ပါတီအကြောင်း၊ ၎င်းတို့၏ မူဝါဒများအကြောင်း၊ တိုင်းပြည်/ရစ်ရွာ၏ အရေးကြီးသော ပြဿနာများအကြောင်း နားလည် သိရှိသော ပြည်သူများ သည်သာ ပြည်သူ့ကိုယ်စားလှယ်ကောင်းများ ရွေးချယ်နိုင်မည်၊ ထိုမှ ဆက်ကာ ဒီမိုကရေစီနိုင်ငံ စစ်စစ်ကို ထူထောင်နိုင်မည် ဖြစ်သည်။

အဲသည်အတွက် ပြည်သူကို လက်ငင်း နိုင်ငံရေးဆိုင်ရာ အချက်အလက်၊ ကျောထောက်နောက်ခံ အနေအထား၊ ယင်းတို့အား ရှုထောင့်အမျိုးမျိုးမှ သုံးသပ်ထားသည့် သဘောထားအမြင်များ စသည်တို့ ဖြည့်တင်းပေးမည့် စာနယ်ဇင်းများ ရှိဖို့ လိုသည်။

ဒါတင်မက၊

စာနယ်ဇင်းများသည် ပြည်သူတွေအကြားတွင်နေ၍၊ ပြည်သူ့ခံစားချက် ပြည်သူ့ပြဿနာ ပြည်သူ့လိုအင်ဆန္ဒများကို ဆစ်ပိုင်းဝေဖန်ကာ ဘယ်အရေးကိစ္စ များကား အသည်းအသန် အရေးတကြီး ဖြေရှင်းဆောင်ရွက်ပေးရမည့် ကိစ္စများ ဖြစ်နေပြီ၊ ဘယ်ကိစ္စများကို သည်အတိုင်းထားသော် နောင်တွင် တိုင်းပြည်အတွက်

အိုးအိုးကြီး ကြုံတော့မည် စသည်များကိုလည်း ပြည်သူ့ကိုယ်စားလှယ်များ အဖွဲ့ တင်ပြတောင်းဆိုနိုင်သော သဘောရှိသည်။

အဲသည်လို လွတ်လပ်သော စာနယ်ဇင်းများ၊ သို့မဟုတ် ဒီမိုကရေစီ စနစ် ထွန်းကားအောင် တွန်းအားပေးနိုင်မည့် စာနယ်ဇင်းများ ဘယ်အခါ၌ ပေါ်ပေါက်နိုင် သနည်း။ တိုင်းပြည်၌ နိုင်ငံသားတို့၏ မူလအခွင့်အရေးများကို ခံစားလိုက်နာသည့် ဒီမိုကရေစီစနစ် ထွန်းကားသောအခါမှသာ ထိုစာနယ်ဇင်း တို့ ပေါ်ပေါက်နိုင်သည်။

တစ်နည်းပြောသော်၊

လွတ်လပ်သော စာနယ်ဇင်းနှင့် ဒီမိုကရေစီ၊ သို့တည်းမဟုတ် စတုတ္ထ မဏ္ဍိုင်နှင့် ပြည်သူ့အစိုးရခေတ်။

သည်နှစ်ခုသည် အပြန်အလှန် အမှီသဟဲပြုနေသည်။

တစ်ခု လုံးလုံးလျားလျားရှိပြီးမှ နောက်တစ်ခု ဖြစ်ပေါ်သည်မဟုတ်။

တစ်ခုကို တစ်ခု အပြန်အလှန် အားပေးထောက်ကူရင်း နှစ်ခုလုံး ပြီးရသည်။

မရှိရာမှ ရှိလာကြသည့်သဘော။

လူ့အဖွဲ့အစည်းတစ်ရပ်အတွင်း ပြောင်းလဲ ဖြစ်ပေါ်လာသည့် သဘော။

သည်လို အသွင်ကူးပြောင်းမှုနှင့် စပ်လျဉ်း၍ တစ်ဦးတည်း အာဏာပိုင်စနစ်မှ အများအာဏာပိုင်စနစ်သို့ ကူးပြောင်းသော တိုင်းပြည်များတွင် တွေ့ရလေ့ရှိသည့် အနေအထားတစ်ရပ်က၊

အာဏာသည် တစ်ဦးတစ်ယောက်တည်း လက်တွင်ရှိရာက တစ်ဦးထက် ပိုသော ပုဂ္ဂိုလ်များ၊ သို့မဟုတ် အစုအဖွဲ့များသို့ ဖြန့်ခွဲထွက်သည်။ ခွဲထွက်သော အာဏာအစုများအကြား အာဏာပြိုင်မှု၊ အပြန်အလှန် ထိန်းကွပ်မှုတို့နှင့်အတူ ၎င်းတို့၏ အာဏာပိုင်ဆိုင်မှုကို အသိအမှတ်ပြုပေးမည့် ပြည်သူသူတို့ သည်လည်း လွတ်လပ်ခွင့်စေစု ရရှိလာသည်။ ထိုအထဲတွင် စာနယ်ဇင်းသမားတို့ သည်လည်း တစ်ခုအဖြစ် ပါဝင်လာသည်။ ထိုအခါ ယခင်က အုပ်စိုးသူတစ်ဦးတည်း ယက်ဝါးကြီးအုပ် လုပ်ကိုင်ခဲ့သည့် သတင်းဖြန့်ချိမှု အလုပ်ကို ပြည်သူ့ကြားခ ဂျာနလိကတို့ ရရှိလာသည်။ စတင် လွတ်လပ်လာသော စာနယ်ဇင်းသမားသည် အာဏာကိုင်တွယ် သုံးစွဲသူတို့အား အများပြည်သူ့ကိုယ်စား စောင့်ကြည့်ထိန်းကွပ် သော တာဝန်ကို ထမ်းဆောင်လာသည်၊ သည်အခါ အုပ်စိုးသူတို့အား

သန့်ရှင်း၍ ပွင့်လင်းမြင်သာသော အစိုးရအဖြစ်သို့ ကူးပြောင်းဖြစ်အောင် အားပေးထောက်ကူနိုင်လာသည်။ သည့်အပြင်၊ ပြည်သူ့လိုလားချက် ပြည်သူ့အသံများကို ထင်ဟပ်ဖော်ပြပေးခြင်းအားဖြင့် နိုင်ငံရေးအာဏာ ရရှိထားသော သူတို့တိုင်းပြည်အတွက် မူဝါဒ ချမှတ်ရာ၌ အမှန်တကယ် ပါဝင်သင့်သည်များ မကျွန်ရစ်ရအောင်၊ ဦးစားပေး ဆောင်ရွက်ရမည့်အရာများ နောက်တန်းရောက်မနေအောင် ထောက်ပြနှိုးဆော်နိုင်လာသည်။

ဤသို့အားဖြင့် တိုင်းပြည်သည် ဒီမိုကရေစီလမ်းကြောင်းပေါ်၌ ဦးတည်ရွေ့လျားရင်း စာနယ်ဇင်းတို့သည်လည်း နိုင်ငံထူထောင်ရေးတွင် အရေးပါသည့်စတုတ္ထမဏ္ဍိုင်အဖြစ် တည်ရှိလာသည်။

အဲဒါသည် အဆင်ပြေအောင်မြင်သွားသော အရပ်ဒေသတို့၌ တွေ့ရသည့်ဖြစ်စဉ်သဘောကို ဖော်ပြခြင်း ဖြစ်သည်။

အဲသည်လို ဖြစ်ရန်အတွက် အခြားသော အခြေအနေ အရပ်ရပ်အပြင် အထူး ဂရုပြုရမည့် လိုအပ်ချက်ကြီးတစ်ရပ် ရှိနေသေးသည်။

အဲဒါက စတုတ္ထမဏ္ဍိုင် တည်ဆောက်ရာ၌ ပါဝင်ကြမည့် စာနယ်ဇင်းသမားများကိုယ်တိုင်နှင့် ပတ်သက်သည်။

ယေဘုယျအားဖြင့်မူ စတုတ္ထမဏ္ဍိုင်ဟူသည် တိုင်းပြည်၏ အာဏာမဏ္ဍိုင်ကြီး သုံးရပ်ဖြစ်သည့် အုပ်ချုပ်ရေး၊ ဥပဒေပြုရေး၊ တရားစီရင်ရေးမဏ္ဍိုင်များ မယိမ်းယိုင် ရအောင် ထိန်းကျောင်း တည့်မတ်ရမည့် မဏ္ဍိုင်ဟူ၍ဆိုလေ့ရှိရာ အဲသည် မဏ္ဍိုင်တွေကို အပြစ်အနာအဆာ ထောက်ပြကာ ဝေဖန်ကွပ်ညှပ်မည့် မိမိကိုယ်တိုင်က တောင့်တင်းခိုင်မာဖို့ လိုသည်။

တောင့်တင်းခိုင်မာသော စာနယ်ဇင်းတစ်ရပ်ဟူသည် အင်္ဂါနှစ်ရပ်နှင့်ပြည့်စုံရသည်။ ပထမတစ်ရပ်က စာနယ်ဇင်း အရည်အသွေး ပြည့်ဝမှုဖြစ်၍ ဒုတိယတစ်ရပ်မှာ သမာသမတ်ကျမှု (ဝါ) ဖြောင့်မတ်မှန်ကန်မှု ဖြစ်သည်။

စာနယ်ဇင်း အရည်အသွေး ဟူသည်ကို သည်နေရာတွင် အကျယ် မပြောတော့ပါ။ သို့သော် အရည်အသွေး ပြည့်ဝမှသာ စွမ်းဆောင်နိုင်ရည် ရှိမည်၊ သို့မှသာ အင်အားကြီးသည့် အခြားသော မဏ္ဍိုင်ကြီးများအား ထိန်းကျောင်းသည်ဆိုသော အလုပ်မျိုး လုပ်နိုင်လိမ့်မည်ဟု ပြောလိုခြင်း ဖြစ်သည်။

သမာသမတ်ကျခြင်း၊ ဖြောင့်မတ်မှန်ကန်ခြင်း ဟူသည်လည်း တစ်ပါးသူတို့၏ မှားယွင်းချွတ်ချော်မှုများကို ပုံပြင်ဝေဖန်မည်ဆိုသော သူတို့၌ မလွဲမသွေ ရှိထားရမည့် အရည်အချင်းတစ်ရပ် ဖြစ်သည်။

အဲသည် အင်္ဂါနှစ်ရပ်နှင့် ပြည့်စုံအောင် မိမိတို့ကိုယ်ကို လေ့ကျင့်ပျိုးထောင်ခြင်းမှသာ စတုတ္ထမဏ္ဍိုင်ဟူသော စွမ်းပကားကို ပိုင်ဆိုင်သည့် စာနယ်ဇင်းများအပြင် ပြည်သူ့အစိုးရခေတ်ကို တည်ဆောက်ရာ၌ ထိရောက်စွာ ပါဝင်နိုင်ကြမည် ဖြစ်သည်။

[ ၂၂ ဇူလိုင် ၂၀၁၁ ]

# စိမ်းထဲ့ကန်သာ တွေ့ဆုံပွဲက ဘာရလဒ်တွေ ထွက်ပေါ်လာမည်လဲ

ဒေါ်အောင်ဆန်းစုကြည်နှင့် ပြည်ထောင်စုဝန်ကြီး ဦးအောင်ကြည်တို့ တွေ့ဆုံမည့် သတင်းကြောင့် ပြည်သူတို့ ယေဘုယျ ဝမ်းသာမျှော်လင့်မှု ရှိခဲ့ကြမည် ဖြစ်သော်လည်း၊ ဇူလိုင် ၂၅ ရက်နေ့က တွေ့ဆုံအပြီး ထွက်ပေါ်လာသည့် သတင်းထုတ်ပြန်ချက်နှင့် သတင်းထောက်များ၏ အမေးကို ဖြေကြားချက်များ အရမှု၊ ပြည်သူလူထုအတွက် လတ်တလော အံ့ဩစရာအကြောင်းများ မတွေ့ရှိရပေ။

သို့သော်၊ အကောင်းဘက် ရှုမြင်သူတို့အတွက်မူ နှစ်ဦးသဘောတူ ထုတ်ပြန်သည့် သတင်းထုတ်ပြန်ချက်၊ သတင်းထောက်တို့အား ခွင့်ပြုထားသည့် သုံးခုသော မေးခွန်းတို့ကို ဖြေကြားချက်များအရ မျှော်လင့်ချက် အစအနများ မြင်တွေ့ရသည် ဟုဆိုနိုင်သည်။

တွေ့ဆုံမှုအတွက် နှစ်ဖက်စလုံးက အပြုသဘောရှုမြင်ပြီး ကျေနပ်အားရှေ ရှိကြောင်း ဆိုသည်။

ဆွေးနွေးသော အကြောင်းအရာသည် ပြည်သူလူထု ကိုယ်စိတ်နှစ်ပါ းချမ်းသာရေးအတွက် နှစ်ဖက် ပူးပေါင်းဆောင်ရွက်နိုင်မည့် အခွင့်အလမ်းများ အကြောင်း ဖြစ်သည် ဟုဆိုသည်။

ဆွေးနွေးရာ၌ တရားဥပဒေစိုးမိုးရေးကိစ္စ၊ စိတ်ဝမ်းကွဲပြားမှု ပပျောက်ရေး ကိစ္စနှင့် အများပြည်သူ အကျိုးဖြစ်ထွန်းစေမှုကိစ္စတို့လည်း ပါဝင်သည်ဟု ဆိုသည်။

ဆက်လက်၍ ထပ်မံဆွေးနွေးရန်လည်း သဘောတူညီခဲ့ကြကြောင်း ပြောဆိုသည်။ သို့သော် နောက်တစ်ကြိမ် တွေ့ဆုံမည့် အချိန်ကာလနှင့် စပ်လျဉ်း၍ ခန့်မှန်း၍မရ၊ သင့်လျော်သောရက် ဟုဆိုသည်။

မေးခွန်းများကို ဖြေကြားရာ၌ တိကျသော အချက်အလက်များ မတွေ့ရ မယုတ်မလွန် အဖြေများနှင့် ကောင်းမွန်သော အကျိုးရလဒ်ကို မျှော်လင့်ကြောင်း များသာ ဆိုကြသည်။

အေပီ သတင်းထောက်က၊ ဒီတွေ့ဆုံပွဲဟာ National Reconciliation*

[*မှတ်ချက်။ ။National Reconciliation ဟူသည်ကို အမျိုးသား ပြန်လည်သင့်မြတ်ရေး၊ အမျိုးသားရင်ကြားစေ့ရေး၊ အမျိုးသားပြန်လည် စည်းလုံးညီညွတ်ရေး၊ စသဖြင့် ဘာသာပြန်ဆိုသုံးစွဲလေ့ရှိကြပါသည်။]

အတွက် ခြေလှမ်းသစ်တစ်ရပ် လှမ်းတာလို့ ခေါ်ဆိုလို့ ရပါသလား ဟူသော အမေးကို ဖြေကြားရာ၌ ဝန်ကြီး ဦးအောင်ကြည်က၊ ပူးပေါင်း ဆောင်ရွက်ဖို့ ကိစ္စတွေ၊ ရှေ့လျှောက်လုပ်သွားစရာ ကိစ္စတွေ အများကြီးရဲ့ အစ ခြေလှမ်း တစ်ခုလို့ ပြောမယ်ဆိုရင်တော့ ပြောနိုင်ပါတယ် ဟုဆိုခဲ့သည်။ ထို့ပြင် ပူးတွဲ သတင်းထုတ်ပြန်ချက်တွင် ဆွေးနွေးသည့် အကြောင်းအရာ ခေါင်းစဉ်များ ဖော်ပြရာ၌လည်း 'စိတ်ဝမ်းကွဲပြားမှု ပပျောက်ရေးကိစ္စ' ဟု သုံးနှုန်းခဲ့ရာ reconciliation ဟူသည်၏ အတိုင်းအတာ အတိမ်အနက်နှင့် စပ်လျဉ်း၍ နှစ်ဖက် ဆက်လက် ညှိနှိုင်းရဦးမည့် သဘောဖြစ်သည်။

ကျွန်တော်တို့ တိုင်းပြည်တွင် ဘယ်သူတွေနှင့် ဘယ်သူတွေ စိတ်ဝမ်းကွဲပြားနေသနည်း၊ ကွဲပြားမှုတွေ ဘယ်ရွေ့ဘယ်မျှရှိ၍ ဘယ်ကွဲပြားမှုက ပို၍ အရေးကြီးသနည်း၊ ဘယ်အကြောင်းအရာများကို အခြေခံကာ ကွဲပြားကြ၍၊ ဘယ်အရာတို့က ကွဲပြားမှုကို အားပေးသည့် ထပ်ဆင့် အကြောင်းများ ဖြစ်သနည်း။ ယခု ဆွေးနွေးသူများအနေနှင့် ဘယ်ကွဲပြားမှုများသည် မိမိတို့နှင့် သက်ဆိုင်သည်၊ ယင်းအနက် ဘယ်အရာသည် အဓိက ဖြစ်သည်၊ သို့မဟုတ် သော့ချက်ပြဿနာဖြစ်သည်ဟု ရွေးချယ် သတ်မှတ်မည်နည်း၊ စသည်တို့နှင့် စပ်လျဉ်း၍ နှစ်ဖက် လက်ခံမှုပေါ်တွင် မူတည်ကာသာ ဆွေးနွေးညှိနှိုင်းရန် သဘောတူညီကြမည့် ပြဿနာအမျိုးအမည်စာရင်းများ တိတိကျကျ ထွက်နိုင်လိမ့်မည်ဟု ခန့်မှန်းရသည်။

တစ်နေ့က ဆွေးနွေးခဲ့သည့် ယေဘုယျ ခေါင်းစဉ်များထဲတွင် တရားဥပဒေစိုးမိုးရေး ကိစ္စ ဟူသည်လည်း ပါဝင်ခဲ့သည်။

တရားဥပဒေစိုးမိုးရေးကို ဘာကြောင့် ဆွေးနွေးရသနည်း။

ရှုမြင်ပုံ မတူ၍ ဖြစ်လိမ့်မည်။

ဤသည်နှင့် ဆက်စပ်၍၊

တရားဥပဒေစိုးမိုးရေး ဟူသည်ကို ယခုအခါ တရားရေး မဏ္ဍိုင်၏ အကြီးအကဲ ဖြစ်လာသော ပုဂ္ဂိုလ်တို့က အများပြည်သူသို့ ဖွင့်ဆို ရှင်းလင်း ပြောဆိုခြင်းများ ပြုလုပ်သင့်သည်ဟု မြင်သည်။

အစိုးရသစ် ပေါ်ပေါက်ပြီးသည့်နောက်တွင်၊ အုပ်ချုပ်ရေးမဏ္ဍိုင်၏ အကြီးအကဲ ဖြစ်သည့် နိုင်ငံတော်သမ္မတက နိုင်ငံအနှံ့ ကြားသိအောင် မိန့်ခွန်းများအားဖြင့် မိမိတို့၏ သဘောထားအမြင်များနှင့် လုပ်ငန်းအစီအစဉ် များကို ဖွင့်ဟ ပြောဆိုခဲ့သည်။

ထို့နောက်တွင် ဥပဒေပြုရေးမဏ္ဍိုင်၏ အကြီးအကဲတစ်ဦးဖြစ်သည့် ပြည်သူ့လွှတ်တော် ဥက္ကဋ္ဌကလည်း၊ မီဒီယာမဏ္ဍိုင်၏ စွမ်းဆောင်နိုင်မှု အတိုင်းအတာ ပမာဏနှင့် ဆောင်ရွက်ရန် ရည်ရွယ်ထားသည့် လုပ်ငန်းအစီအစဉ် များသည် အများပြည်သူ ကြားသိအောင် ရှင်းလင်း ပြောဆိုခဲ့သည်။

ဘာသာရေးမဏ္ဍိုင်အနေနှင့်မူ မဏ္ဍိုင်၏ ဖွဲ့စည်းပုံသစ်တွင် လုပ်ငန်းယန္တရား မည်သို့မည်ပုံ လည်ပတ်မည့် အကြောင်းနှင့်၊ ပြောင်းလဲလာသော ခေတ်စနစ်နှင့် အညီ မည်သို့မည်ပုံ ပြောင်းလဲ ကျင့်ကြံကြရမည့်အကြောင်း တာဝန်ရှိသူ အဆင့်ဆင့်သို့ ညွှန်ကြားခြင်း၊ ရှင်းလင်းပြောဆိုခြင်း၊ စိစစ်ခြင်း၊ ထိန်းကျောင်း ဆောင်ရွက်ခြင်းများ ရှိလိမ့်မည် ဖြစ်သော်လည်း၊ အဆိုပါ ပြောင်းလဲလာသော သဘောထားများ၊ လုပ်ငန်းသဘာဝနှင့် လက်တွေ့ တရားစီရင်ရေး အနေအထား များကို အများပြည်သူသို့ တိုက်ရိုက်ဖြစ်စေ၊ တစ်ဆင့်ခံအားဖြင့်ဖြစ်စေ အသိပေး ပြောဆိုဖို့ လိုအပ်နေသေးသည် ဟုရှုမြင်သည်။

ဆွေးနွေးပွဲနှင့် စပ်လျဉ်း၍ ထုတ်ပြန်ရာ၌ ပြည်သူကို ဦးထိပ်ထားသော စကားနှစ်ရပ် ပါရှိကြောင်းလည်း သတိပြုမိကြပါလိမ့်မည်။

ပြည်သူလူထု ကိုယ်စိတ်နှစ်ပါး ချမ်းသာစေရေးနှင့်၊

အများပြည်သူ အကျိုးဖြစ်ထွန်းစေမှု၊ ဟူသည်တို့ ဖြစ်သည်။

ဒုတိယစကားမှာ ကြားနေကျဖြစ်၍ ပြည်သူအများနားတွင် များစွာ သက်ရောက်မှု မရှိပေ။ ထို့ပြင်၊ ရှေးအတွေ့အကြုံများအရ၊ ပြည်သူ့အကျိုးအတွက် ဟူသော ဆောင်ရွက်ချက်တို့သည်လည်း ပြည်သူ့လိုအင်ဆန္ဒနှင့် ထပ်တူကျလှသည် မရှိခဲ့ပေ။ သို့သော်၊ ပြည်သူလူထု ကိုယ်စိတ်နှစ်ပါး ချမ်းသာစေရေးဟူသော စကားပါလာသည့်အခါ ပြည်သူ့ဆန္ဒကို ထည့်သွင်း စဉ်းစားကြောင်း အလေးထား ဖော်ပြသောသဘောဖြစ်၍ မျှော်လင့်ချက် ရှိလာသည်။

စင်စစ်၊ ပြည်သူလူထုအဖို့ မီဒီယာ၏ ဘိုးစဉ်ဘောင်ဆက် သားစဉ်မြေးဆက် ဘဝများ မြှုပ်နှံရာဖြစ်သည့် မီဒီယာတိုင်းပြည်၏ နိုင်ငံရေး၊ စီးပွားရေး အခြေအနေများ တိုးတက် ကောင်းမွန်လာဖို့ မျှော်လင့်တောင့်တခဲ့သည်မှာ ကာလတာရှည် ကြာမြင့်ခဲ့ပြီ ဖြစ်သည်။

စိမ်းလဲ့ကန်သာ တွေ့ဆုံမှုမှ ကောင်းသော အပြောင်းအလဲ တစ်စုံတစ်ရာ စတင် ပေါ်ပေါက်လာမည်ဆိုလျှင် ပြည်သူတို့ အုန်းအုန်းကျွက်ကျွက် ထောက်ခံ ကြိုဆိုကြမည် ဖြစ်သည်။

ထိုတစ်စုံတစ်ရာသည် မည်သို့သော ပုံသဏ္ဌာန်အားဖြင့် ပေါ်ပေါက်လာမည်များ စောင့်မျှော်ကြည့်ရှုရပေဦးမည်။

[ ၂၇ ဇူလိုင် ၂၀၁၁ ]

# ခါချဉ်ကောင်အချင်းချင်း စစ်ခင်းကြသည့်အခါ

ဗဟေသာက စီမံလဲ့ကန်သာတွင် ဆွေးနွေးကြသည့်အခါ စိတ်ဝမ်းကွဲပြား
ပေးဆောက်ရေး ဟူသော ကိစ္စတစ်ရပ် ပါဝင်ကြောင်း သိရ၏။

ဘယ်သူတွေ ဘယ်ဝါတွေ စိတ်ဝမ်းကွဲပြားကြ၍၊ စိတ်ဝမ်းကွဲပြားမှုတို့
အတိုင်းအတာ အတိမ်အနက်က ဘယ်ရွေ့ဘယ်မျှ ရှိသည်ဟု သဘော
ရှုမြင်ကြသလဲ ဟူသည်ကိုမူ ဆွေးနွေးကြသူများသာ သိလိမ့်ဦးမည်။

သို့သော်၊ စိတ်ဝမ်းကွဲပြားမှုမှနေ၍ မည်မျှ ကြီးမားသော ဆိုးကျိုး
သက်ရောက် နိုင်ကြောင်းကိုမူ အားလုံး စဉ်းစားနိုင်ကြသည်။

ပထမဆုံး

စိတ်ဝမ်းကွဲပြားမှုဆိုတာ ဘာလဲ။

အတူတကွ နေကြသူအချင်းချင်း စိတ်သဘောချင်းမတူတာ ဖြစ်သည်
မတူသည် ဆိုရာမှာ တော်ရုံမဟုတ်၊ သူ့သဘောနဲ့သူ ရှိပါစေ ဟူ၍ မထားနိုင်
သူ့မှာ အဲသည် သဘောရှိနေတာကိုပင် သည်းမခံနိုင်တာမျိုး ဖြစ်သည်
အဲသည် စိတ်ထားမျိုး အပြန်အလှန်ရှိလာသည့်အခါ တစ်ယောက်ကို တစ်ယော
စိတ်ပျက်တာ စိတ်ကုန်တာ ဒေါသထွက်တာတွေ ဖြစ်လာသည်။ အဲသည်
ဆက်ကာ တစ်ယောက်ကို တစ်ယောက် စိမ်းကားတာ၊ နာကြည်းတာ
အတေးအမှတ်ထားတာ၊ ရန်သူလို သဘောထားတာတွေ ဖြစ်လာသည်။

နောက်ဆုံးရလဒ်က မိသားစုတစ်စုထဲမှာ အဲသလို စိတ်ဝမ်းကွဲ
ပြင်းထန်လာလျှင် မိသားစု ပြိုကွဲသည်။

တိုင်းပြည်တစ်ပြည်ထဲမှာ အဲသလို စိတ်ဝမ်းကွဲမှု ပြင်းထန်လာလျှင်
တိုင်းပြည် ပြိုကွဲသည်။

ကြီးမားသော ဥပမာ သာဓကတွေ ကမ္ဘာမှာ ရှိသည်။

အမေရိကန်ပြည်တွင် တောင်ပိုင်းနှင့် မြောက်ပိုင်း ကျွန်စနစ်
အကြောင်းပြု၍ စိတ်ဝမ်းကွဲပြားခဲ့ကြသည်။ တောင်ပိုင်းက ကျွန်စနစ်
ထိန်းသိမ်းထားလိုသည်။ တောင်ပိုင်းသားတို့၏ လယ်ယာစီးပွားရေး
ကျွန်တို့၏ လုပ်အားပေါ်တွင် အခြေခံ တည်ဆောက်ထားရသောကြောင့်
ဖြစ်သည်။ မြောက်ပိုင်းသည် ကျွန်လုပ်အားမလိုအပ်။ ထို့ကြောင့်၊ လူလူချင်း
ခွဲခြားရာ၌ အဆိုးဝါး အရက်စက်ဆုံး ဖြစ်သည့် ကျွန်စနစ်ကို ငြင်း
ပြတ်ပြတ်သားသား ဆန့်ကျင်နိုင်ကြသည်။

တစ်တိုင်းပြည်တည်းမှာ ကျွန်စနစ်နှင့် သက်ဆိုင်သည့် ဥပဒေစည်းတားမြန်း တစ်ပြိုင်နက် ကျင့်သုံး၍ မရသည့်အခါ တစ်ဖက်ဖက်က လျှော့ပေးရသည့် [illegible]အထား ရောက်ရှိလာသည်။

ဘယ်သူကမှ မလျှော့နိုင်သည့်အခါ တစ်အိမ်တည်း နှစ်ခြမ်းကွဲသလို [illegible]လာသည်။

တစ်ဖက်နှင့် တစ်ဖက် အင်အားချင်းကလည်း သိသိသာသာ မကွာခြား၊ [illegible]လို မုန်းထားမှုများကလည်း သူ့ရောကိုယ်ပါ တူညီစွာ ပြင်းထန်လာသည့်အခါ [illegible]ည်တွင်းစစ် မီးကြီး ဟုန်းဟုန်းတောက်သည်။

မြောက်မြားစွာ သေကြေပျက်စီးကြပြီးနောက်၊ မြောက်ပိုင်းက အနိုင်ရ [illegible]သည့်အခါ ပြည်ထောင်စုကြီး မပြိုကွဲအောင် ထိန်းသိမ်းနိုင်ခဲ့သည် [illegible]ဆိုသည်။

အကယ်၍ တောင်ပိုင်းက အနိုင်ရပြီး တစ်နိုင်ငံလုံးကို သိမ်းပိုက်နိုင်ခဲ့မည် [illegible]ဆိုလျှင်လည်း အလားတူပင် ကြွေးကြော်ပေလိမ့်မည်။

ဘယ်သူကမှ အနိုင်မရဘဲ ကိုယ့်အပိုင်းကိုယ်သာ ထိန်းချုပ်ထားနိုင်သည့် [illegible]နေအထားမျိုးတွင် ရှည်ကြာနေလျှင်မူ တောင်ပိုင်းနှင့်မြောက်ပိုင်း လုံးလုံး [illegible]လျား ကွဲပြားသွားကာ အမည်နာမနှစ်မျိုးဖြင့် အမေရိကန်နှစ်နိုင်ငံ [illegible]သွားလိမ့်မည်။

စိတ်ဝမ်းကွဲရာက တိုင်းပြည် ပြိုကွဲတတ်သော သဘောကို ပြောခြင်း [illegible]သည်။

တစ်စိတ်တစ်ဝမ်း မညီလျှင် အင်အားချည့်နဲ့ကာ ရန်သူအစစ်တို့၏ [illegible]ကျက်ခြင်း ခံရနိုင်ကြောင်းကိုလည်း အီစွပ်ပုံပြင်တွင် အဘိုးအိုက သူ့၏ [illegible]းများအား ထင်းချောင်းနှင့် ထင်းစည်း ဥပမာဖြင့် သင်ကြား ပြသခဲ့သည်။

တစ်ချောင်းချင်းဆိုလျှင် အားမရှိ၊ အတူတကွ စည်းနှောင်ထားသော [illegible]အားရှိသည်။

ဤတွင် စဉ်းစားရန်က လူအချင်းချင်းကို ဘာနှင့် စည်းနှောင်ထားချက်များ [illegible]သောအချက် ဖြစ်သည်။

တစ်ယောက်ယောက်က အင်အားသုံးကာ ထင်းမှုချည်းသက်သက်ဖြင့် [illegible]အခိုင်အမာ ရစ်ပတ်တုတ်နှောင်ထားလိုက်လျှင် အချင်းချင်း ထိခိုက်မှု [illegible]ပံ့စဲကာ ငြိမ်သက်သွားနိုင်သည်။

သည့်အပြင်၊ တူညီသော လက်ငင်းဒုက္ခမှ လွှတ်မြောက်အောင် အတူတကွ

ရှန်းကန်ရန်အတွက်လည်း ညီညွတ်မှု ရကောင်းရနိုင်သည်။

သို့သော်၊ သည်က လွတ်မြောက်သော် နဂိုအတိုင်း ကိုယ့်သဘော ကိုယ်ဆောင်ကာ ပဋိပက္ခ ပြန်စနိုင်ကြသည်။

ထို့ကြောင့်၊ လူတစ်စု ညီညွတ်အောင် ဘေးလူတစ်စုံတစ်ယောက် အင်အားတစ်ခုဖြင့် စုစည်း ချည်နှောင်၍မရ။ လူလူချင်း ခိုင်မာစွာ ချည်နှော နိုင်သည်ကား သံယောဇဉ် နှောင်ကြိုးများသာ ဖြစ်သည်။

တစ်မိတည်းပေါက်သူတွေမှာ သံယောဇဉ် ရှိကြသည်။

အမိုးအကာ တစ်ခုတည်းအောက်မှာ အတူတကွ ဖေးမ နေထိုင်လာ သူတွေမှာ သံယောဇဉ် ရှိကြသည်။

တစ်လှေတည်းစီး တစ်ခရီးတည်း အဆင်ပြေစွာ သွားခဲ့ဖူးကြသူတွေမှာ သံယောဇဉ် ရှိကြသည်။ စိတ်တူသဘောတူ ကိစ္စတစ်ခုကို အတူတ ဆောင်ရွက်ဖူးကြသူတွေမှာ သံယောဇဉ် ရှိကြသည်။ အောင်မြင်ခြင်း၊ ဆုံးရှုံးခြင်း ချမ်းသာခြင်း၊ ဆင်းရဲခြင်းတွေ အတူတကွ မျှဝေခံစားခဲ့ကြသူတွေမှာ သံယော ရှိကြသည်။ တစ်ဦးကိုတစ်ဦး အသာစီးရချိန်မှာ အနိုင်မကျင့်၊ သူအားနည်းချိန် ကိုယ်က၊ ကိုယ်အားနည်းချိန်မှာ သူက၊ အပြန်အလှန် ဖေးမ ကူညီခဲ့ကြသူတွေ သံယောဇဉ် ရှိကြသည်။

အဲသည်သံယောဇဉ် နှောင်ကြိုးများကသာ လူအများကို ထင်းစည်းတစ်စည်း အားကောင်းခိုင်မာအောင် စုစည်းပေးနိုင်သည်။

တစ်ခါက ကြီးမားသော အင်အားတစ်ခုဖြင့် စုစည်းထားခဲ့သော ယူဂိုဆလ ဗီးယားနိုင်ငံတွင် ကာလရှည်ကြာ နှောင်တည်းခဲ့သော ကြိုးက သက်တမ်းကုန် ပြတ်သွားသည့်အခါ ဆက်၍ အတူတကွ နေထိုင်ချင်စရာ သံယောဇဉ် မရှိ၊ ဖုံးဖိထားခဲ့သော အငြိုးအာဃာတများသာ ရှိသဖြင့်၊ ဆင့်ကဲ ဆင့် အစိတ်စိတ် အမွှာမွှာ ကွဲပြားသွားခဲ့သည်။

ငြိမ်ငြိမ်သက်သက် ကွဲသွားသည် မဟုတ်၊ အစည်းပြေသော ထင်းချောင်း အချင်းချင်း အပြန်အလှန် ရိုက်ချိုးကြသလို ကသောင်းကနင်း ကွဲပြခြင်းမျိုးဖြစ် ပျက်စီးဆုံးရှုံးမှုတွေ ကြီးမားခဲ့သည်။

တစ်ချိန်က နီးစပ်သူတွေ အငြိုးတကြီး ရန်ဖြစ်ကြသည့်အခါ တစ်ဖက်လူ ချေမှုန်းဖို့ ကြိုးစားရင်း မိမိကိုယ်ကိုယ် အဆုံးစီရင်သလို အဖြစ်မျိုး ကြုံ တတ်သည်။

အာဖရိကတိုက် ရဝမ်ဒါနိုင်ငံမှာ ဟူတူနှင့် တွပ်ဆီလူမျိုးစုတွေ တစ်ယော

ရှိတာ တစ်ယောက် လက်မခံနိုင်သည့် အတိုင်းအတာထိ ကွဲပြဲခဲ့ကြသည်။ အရုပ်တစ်ပါးက လူများအဖို့တော့ ဟူတူရော တွပ်ဆီပါ အရှေ့အာဖရိကသား တွေပဲ၊ ရုပ်ဆင်းအင်္ဂါ မကွဲပြား အတူတူပါပဲဟု ထင်စရာရှိသည်။ သို့သော်၊ သူတို့ အချင်းချင်းကျတော့ ကွဲပြားရုံမက၊ ဟိုကောင်တွေသည် လူ့ပြည်မှာ ရှိသင့်သည့် သတ္တဝါတွေဟု မှတ်ယူသည်အထိ အရိုင်းအစိုင်းစိတ်ဝင်ကာ ခုတ်ထစ် သတ်ဖြတ်ခဲ့ကြသည်။

ကိုယ်က ခုတ်သည့်အခါ သူက ပြန်ခုတ်သဖြင့် သူရောကိုယ်ပါ သေကြသည်။ ချုပ်ကြည့်လိုက်တော့ စုပေါင်း သတ်သေခြင်း တစ်မျိုးပဲ ဖြစ်သည်။ ၁၉၉၄ ခုနှစ်က ရဝမ်ဒါမှ စုပေါင်း သတ်သေပွဲမှာ လူ ၈ သိန်းခန့် သေဆုံးခဲ့သည်ဟု ဆိုသည်။

လူလူချင်း စဉ်းစားဉာဏ်နည်းစွာ လုပ်ကိုင်ကြပုံက ပိုးကောင်မွှားကောင်လို အနိမ့်စား သတ္တဝါများလား ထင်ရသည်။

ဒါက၊ ခါချဉ်ကောင်တွေ စစ်ခင်းကြသည့်ကိစ္စ အမှတ်ရသောကြောင့် ပြောခြင်း ဖြစ်သည်။

အိမ်နားက သရက်ပင်နှစ်ပင်မှာ ခါချဉ်အုံနှစ်အုံ ရှိသည်။ သာမန် တွေ့နေကျ မြင်နေကျ မြန်မာခါချဉ်တွေပါပဲ။

တစ်နေ့မှာ ဘာဖြစ်သည် မသိ၊ သစ်ပင်နှစ်ပင်ကြားက မြောင်းကူးတံတား ပေါ်မှာ ခါချဉ်တွေ အချင်းချင်း ကိုက်ခဲနေကြတာ အံ့သြစရာ တွေ့ရသည်။ သစ်သားတံတား ထက်အောက် ဘေးဘီ အနံ့အပြားမှာ နှစ်ကောင်တစ်တွဲ ကိုက်ခဲနေကြသည်။

ခါချဉ်ကိုက်တာ ခံရဖူးပါသလား။ ခါချဉ်သည် ပါးစပ်အား အလွန်သန်သည်၊ သွားနှုတ်သီးကလည်း စူးရှသည်၊ လူတစ်ယောက်လုံး အမလေးဗျ ထအော်ရအောင် ကိုက်ခဲနိုင်သည်။

သို့သော်၊ ခါချဉ်ကောင် ခါး ဘယ်လောက်သေးသည်ဆိုတာလည်း သေသေချာချာ ကြည့်ဖူးလျှင် မြင်နိုင်ပါသည်။ ခါချဉ်ခါးမသန်သည့် အကြောင်း ဆိုရိုးစကားလည်း ရှိသည်မဟုတ်လား။

ခါချဉ်နှစ်ကောင် ကိုက်ကြသည့်အခါအား အလွန်သန်သည့် သွားပါးစပ်ဖြင့် တစ်ဖက် အကောင်၏ ခါးကို ကိုက်သည်။ တစ်ဖက်ကောင်ကလည်း အားနေသည့် သူ့ပါးစပ်ဖြင့် ဟိုအကောင်ကို အပြန်အလှန်ကိုက်သည်။ ခါးမှာ လည်း အလွန်ကြီးသည်။ ကိုယ့်ခါးနာသဖြင့် ပါးစပ်ဟမသွား၊ တစ်ကောင်ကို

အရှုံးမပေး။ သူရောကိုယ်ပါ မလွတ်တမ်း အပြန်အလှန် ကိုက်ခဲထားကြသည်
တစ်နေ့လုံး တံတားလေးပေါ်မှာ ခါချဉ်တွေ နှစ်ကောင်တစ်တွဲ ကိုက်နေကြသည်
နောက်နေ့ မနက် သွားကြည့်တော့ တံတားပေါ်မှာ ရှင်းနေပြီ။

လူတစ်ယောက်ယောက်က တံမြက်စည်းနှင့် လှည်းကျင်းလိုက်သောကြော
မဟုတ်။

နှစ်ကောင် တစ်တွဲ ကိုက်ခဲရင်း သေဆုံးသွားသော၊ သို့မဟုတ် ကျဆုံ
သွားသော မိမိတို့ အကောင်ကို အတွဲမှ ဖြုတ်ယူ၍ မိမိတို့ ဘက်အခြမ်းသ
သယ်ဆောင်စုပုံ (သင်္ဂြိုဟ်) ကြသောကြောင့် ဖြစ်သည်။

သစ်သားတံတားလေးအောက်မှာ ခါချဉ်အသေကောင်တွေ ဟိုဘ
တစ်ပုံနှစ်ပုံ သည်ဘက် တစ်ပုံနှစ်ပုံစီ တွေ့ရသည်။

အဲသည်တော့မှ သေသေချာချာ ကြည့်မိသည်။ သည်ခါချဉ်နှစ်ပုံ
အရောင် နည်းနည်း ကွဲသည်။

သာမန်အားဖြင့်တော့ လူတွေ မျက်စိမှာ ဟိုအထက်၌ အကိုင်းချင်း
ယှက်နေသော သရက်ပင်နှစ်ပင်မှာ နေကြသည့် ခါချဉ်တွေသည် အတူတူ
ဖြစ်သည်။

သူတို့အချင်းချင်းကတော့ အရောင်နည်းနည်း ကွဲတာကို အကြောင်းပြု
အသေကိုက်ကြသည်။

ရလဒ်က အပြန်အလှန် သတ်သေခြင်းပဲ ဖြစ်သည်။

သို့သော်၊ စဉ်းစားကြည့်ပါ။ လူအချင်းချင်း သတ်ကြသည့် အခါမှာတေ
သူချည်းသေ၍ ကိုယ်မသေဘူးလား။

[ ၃ ဩဂုတ် ၂၀၁၁

# ပဋိပက္ခမှ ငြိမ်းချမ်းရေးသို့

...အခါ၌ ငြိမ်းချမ်းရေးကို လိုလားသော အသံဗလံတို့သည် နေရာအနှံ့အပြားမှ ...ထွက်ပေါ်လျက်ရှိသည်။

ရိုးရိုး စဉ်းစားသော် အားလုံးက ငြိမ်းချမ်းရေးကို လိုလားလျှင် ငြိမ်းချမ်း...ရေးဖို့သာ ရှိသည်။

သို့သော်၊ ထောင့်အသီးသီးမှ ငြိမ်းချမ်းရေး ငြိမ်းချမ်းရေးဟု အသံပေးနေပြီး ...ကာတွေ့၌ နေးကွေးနေခြင်းသည် ငြိမ်းချမ်းရေး ဟူသည်နှင့် စပ်လျဉ်း၍ ...ခြင်ပုံများ မတူညီကြသောကြောင့် ဖြစ်သည်။

ဘယ်အနေအထားရှိသောအခါ ငြိမ်းချမ်းကြမည်လဲ။

ဘယ်ပုံသဏ္ဌာန်ဖြင့် ငြိမ်းချမ်းမည်လဲ။

အဲဒါကို သက်ဆိုင်သူ အသီးသီးက သဘောတူညီကြဖို့ လိုသည်။

သဘောမတူညီမချင်းကား ပဋိပက္ခတို့ ပြီးပြေကြလိမ့်မည်မဟုတ်။



...ပက္ခဟူသည် လူစုအချင်းချင်းကြား သဘောထားတွေ ကွဲလွဲကြ၊ အငြင်း...တွေ ဖြစ်ကြ၊ နင်ပဲငဆ ပြောဆိုကြ၊ ခိုက်ရန်ဖြစ်ပွားကြ၊ ပစ်ကြခတ်ကြ၊ ...ကော်ရင်ဆိုင် တိုက်ခိုက်ကြခြင်းများကို ဆိုလိုသည်။

တိုင်းပြည်တစ်ပြည်တည်း အတွင်းမှာ နေသည့် လူအုပ်စုအချင်းချင်း ...ကြား ဖြစ်ပွားသည့် ပဋိပက္ခတွေကြောင့်၊

လူတွေ သေကျေ ပျက်စီးရသည်။

အိုးမဲ့အိမ်မဲ့ ဖြစ်ရသည်။

မိသားစုဘဝတွေ ဖရိုဖရဲ ကစဉ့်ကလျား ဖြစ်ရသည်၊

ဥစ္စာရှိသူတို့ စည်းစိမ်ဥစ္စာ ဆုံးရှုံးကာ ဝင်ငွေလမ်းကြောင်းများ [illegible] ...မပြည့်စုံသူတို့မှာ ဝင်ငွေရှာရန် အခွင့်အလမ်း[illegible] ...င်းရဲငတ်မွတ်ရသည်။

ကလေးသူငယ်တို့ လွတ်လပ်ပျော်ရွှင်သော ကလေးဘဝကို [illegible] ...တဲ့သို့၊ ပညာရှာမှီးရန် အခွင့်အလမ်းများလည်း ဆုံးရှုံးရသည်။ [illegible] ...ဘုပ်အကိုင် အခွင့်အလမ်းများနှင့်၊ ပြည့်စုံသောဘဝ [illegible] ...င်လံင့်ချက်များ ကင်းမဲ့ရသည်။

တစ်တိုင်းပြည်လုံးအနေနှင့် ပြောသော်ကား၊ ဖွံ့ဖြိုးတိုးတက်မှု နည်းပါ
ဆင်းရဲမွဲတေခြင်း၊ ကျန်းမာရေး ပညာရေးနှင့် လူနေမှု အဆင့်အတန်း
နိမ့်ကျခြင်း၊ နိုင်ငံတကာထက် အောက်ကျနောက်ကျခြင်း စသည့် ဆိုးကျိုး
ဖြစ်ပေါ်ပေသည်။

ထို့ကြောင့်၊

ပဋိပက္ခတွေ ရှိနေခြင်းသည် တိုင်းပြည်အတွက် မကောင်းသကဲ့
ပြည်သူလူထု တစ်ဦးချင်းတို့အတွက်လည်း ကံကြမ္မာဆိုးခြင်း ဖြစ်သည်
ဆိုရလိမ့်မည်။



အဲသည် ပဋိပက္ခတွေ ဘာကြောင့် ဖြစ်ပေါ်သနည်း။

ပဋိပက္ခ အသီးသီးတွင် တစ်ဖက်စီက ပါဝင်ကြသည့် ကာယကံရှင်များ
မေးကြည့်ပါက တစ်ဖက်လူ၏ မည်သည့် ဆိုးဝါးသော လုပ်ရပ်ကြောင့် မိမိ
မလွှဲမရှောင်သာ မည်သို့ တုံ့ပြန်ရပါသည်ဟု ဖြေကြဖို့ များသည်။ ဆက်
မေးပါက သည်ပဋိပက္ခသည် မိမိတို့လက်ထက် မတိုင်မီ မည်သူ့ ခေတ်က
ကတည်းက စတင်ခဲ့၍၊ ပြဿနာမီးပွားချခဲ့သူများမှာ တစ်ဖက်လူတို့၏ ယ
အစဉ်အဆက် ပုဂ္ဂိုလ်များ ဖြစ်သည်၊ စသဖြင့် ရာဇဝင်အပေါက်လှန်
ပြောကြားနိုင်ပေသေးသည်။

ဤသည်က ပဋိပက္ခတွင် အသာစီးရနေသူများရော ရှန်းကန် ခုခံနေရသူများ
ပြောတတ်ကြသည့် စကားများ ဖြစ်သည်။

အဲသည် ပုဂ္ဂလ ဓိဋ္ဌာန်တွေက မျက်စိလည်စရာကောင်းသည်။ တစ်ဦးစီ
စကားမှာ ယုံကြည်လောက်စရာတွေလည်း ပါနေမည်ပဲ ဖြစ်သည်။ သို့သော်
ဘယ်လောက် ယုံကြည်နိုင်မည်လဲ၊ သူတို့စကားအသီးသီးမှာ အမှန် ဘယ်လော
ပါမည်လဲ စဉ်းစားစရာ ရှိသည်။

ဒါဆိုလျှင်၊ ဓမ္မဓိဋ္ဌာန်ကျသော အမြင် ဘယ်က ရမည်လဲ။

တိုင်းပြည်ဒေသပေါင်းများစွာက ပဋိပက္ခများကို ခွဲခြမ်းစိတ်ဖြာ
တူညီသော အကြောင်းအချက်တွေ ထုတ်ယူစုစည်းကြသော သုတေသီတို့က
ပဋိပက္ခများ ဖြစ်ပွားရသည့် အဓိက အကြောင်းရင်းသည် 'မကျေနပ်ခြင်း
ဖြစ်သည် ဟုဆိုသည်။

မှန်သည်။ မကျေနပ်ခြင်း။

ဘာကို မကျေနပ်ခြင်းလဲ။

တန်းတူညီမျှမှု မရှိခြင်းကို မကျေနပ်ခြင်း ဟုဆိုသည်။

နိုင်ငံရေးအရ တန်းတူညီမျှမှု မရှိခြင်း၊

စီးပွားရေးအရ တန်းတူညီမျှမှု မရှိခြင်း၊

လူမှုရေးအရ တန်းတူညီမျှမှု မရှိခြင်း စသည်များ ဖြစ်သည်။

လူတစ်စု၏ စိတ်၌ မိမိတို့သည် အခြားလူတစ်စုထက် ခံစားခွင့် နည်းနေသည်၊ နိုင်ငံ့အရေးကိစ္စတွင် ပါဝင်ဆောင်ရွက်ရန် အခွင့်အလမ်း ကိုလောက် မရ၊ စီးပွားတိုးတက်အောင် ဆောင်ရွက်နိုင်သော အခွင့်အလမ်း လည်း ၎င်းတို့ထက် နည်းပါးသည်၊ ထို့ကြောင့် မိမိတို့ လူနေမှုဘဝများ ကျနေရသည်ဟု ရှုမြင်သော်၊ ဒါမတရားဘူးဟု မှတ်ယူကာ၊ ၎င်းလူစု၌ ကျေနပ်စိတ် ဖြစ်ပေါ်လိမ့်မည်။ ၎င်းမကျေနပ်စိတ်က ဟိုတစ်ဦး သည် ယောက်မှသည် အများဆီသို့ ပြန့်ပွားကြီးထွားကာ ကြာရှည်တည်လာမည် သော်၊ ၎င်းလူစုနှင့် ၎င်းတို့ မကျေနပ်သည့် အခွင့်အရေးပိုရသူ လူစုအကြား ပက္ခတစ်ခု အစပြုပေပြီ။

ဤသို့ဖြင့် ကမ္ဘာ့နိုင်ငံ အများအပြားမှာ ပဋိပက္ခတွေ တည်ရှိခဲ့ကြခြင်း သည်။

တောင်ပိုင်းသားနှင့် မြောက်ပိုင်းသား၊

ပြည်မသားနှင့် ပြည်နယ်သား၊

မြို့ပြလူချမ်းသာများနှင့် ကျေးလက်ဆင်းရဲသားများ၊

မူလဒေသခံများနှင့် အသစ် ဝင်လာသူများ၊

အသားဖြူသူနှင့် အသားမည်းသူများ၊ အသားအရောင်တူသော်လည်း မျိုးအနွယ် ကွဲသူများ၊

အမျိုးအနွယ် တူသော်လည်း ကိုးကွယ်သော ဘာသာမတူသူများ၊

ဘာသာ တူသော်လည်း စကား မတူသူများ၊

စကား တူသော်လည်း ဝါဒ မတူသူများ၊ ဝါဒ တူသော်လည်း အုပ်စု တူသူများ၊

စသဖြင့်၊ ကွဲပြားခြားနားမှု အခွင့်အရေး မတူမှုတို့ပေါ်တွင် အခြေပြုကာ ကိုအတူတကွဟု တူရာတူရာ စုကြ၊ ယင်းသို့ တူရာစုကြခြင်းအပေါ် မူတည်ပြီး ရုတို့က ဘာတွေဟူ၍ အမျိုးအစား ခွဲခြားသတ်မှတ်ကြနှင့်၊ အဲသည်အပေါ်မှာ တော်ချာလည်ကာ ပဋိပက္ခတွေ သက်တမ်းရှည်ကြရခြင်း ဖြစ်သည်။



ပင့်လာတော့ ပြင်းထန်သော် အင်အားသုံးစွဲမှု၊ အကြမ်းပတမ်းမှုတွေ ရှိလာသည်။ အဲသည့်အခါ ထိခိုက်နာကျင်မှုတွေ၊ အငြိုးအာဃာတတွေ၊ ပြန်လည် လက်တုံ့ ပြန်လိုမှုတော့ အင်အားကို အင်အားဖြင့်သာ ရင်ဆိုင်နိုင်မည်ဟု ရှုမြင်မှုတွေကြောင့် ပဋိပက္ခများ ဆတက်လောင်သည်အထိ ကြီးကျယ်လာရသည်။

နိုင်ငံတကာမှ ပဋိပက္ခများကို စူးစမ်းလေ့လာကြသူတို့ကတော့ ပဋိပက္ခ ဖြေရှင်းသူတို့ အသုံးပြုလေ့ရှိသည့် နည်းလမ်းနှစ်ရပ်ရှိသည် ဟုဆိုသည်။

တစ်ခုက အင်အားသုံး ရှင်းလင်း နှိပ်ကွပ်သောနည်းဖြစ်၍၊

နောက်တစ်ခုက အရင်းခံ ပြဿနာကို ဖော်ထုတ်ကုစားသော နည်းဖြစ်သည် ဟုဆိုသည်။

အင်အားသုံး ဖြေရှင်းသောနည်းတို့သည် ရေတိုတွင် အောင်မြင်တတ်သည်။ အထူးသဖြင့် တစ်ဖက်က သိသိသာသာ အင်အားနည်းသောအခါ၊ သို့မဟုတ် ၎င်းတို့၏ မကျေနပ်ရခြင်း အကြောင်းရင်းများက ရေရာခိုင်မာမှု မရှိသည့်အခါ အင်အားသုံး ဖြေရှင်းမှုများအောက်တွင် ၎င်းတို့ ပျောက်ကွယ်သွားတတ်သည်။ သို့သော် ကျေနပ်မှု မရှိသူတို့ အင်အားများပြားမည်၊ ၎င်းတို့ မကျေနပ်ရခြင်း အကြောင်းရင်းတို့သည်လည်း ရေရာခိုင်မာမည်ဆိုလျှင်မူ အင်အားသုံး ဖြေရှင်း တို့သည် အရာမရောက်၊ ယင်းတို့ကြောင့် ထပ်ဆင့် မကျေနပ်မှုများသာ တိုးပွားကာ ရေရှည်၌ ပို၍ ကြီးမားသော ပဋိပက္ခများ ဖြစ်ပေါ်စေသည်။ အရင်းခံ ပြဿနာကို ကုစားသောနည်းဖြင့်သာ ပဋိပက္ခကို အမြစ်ပြတ်အောင် ဖြေရှင်းနိုင်သည်ဟု နိုင်ငံတကာမှ သာဓကများကို ပြကာ ၎င်းတို့ ကောက်ချက်ချကြသည်။

တစ်တိုင်းပြည်တည်းအတွင်းမှာ နေထိုင်ကြသူချင်း သွေးချောင်း စစ်ပွဲတွေ ကာလရှည်ကြာ ဆင်နွှဲခဲ့ကြပြီးကာမှ၊ သူရောကိုယ်ပါ ထိခိုက် ဆုံးရှုံးမှုတွေ များခဲ့ပြီ၊ သည်နည်းဖြင့် အောင်မြင်ဖွယ်လမ်းမရှိဟု ရှုမြင်ကာ စေ့စပ်ရေး စားပွဲပေါ် ရောက်ခဲ့ကြသူတွေ အများအပြား ရှိသည်။ စားပွဲဝိုင်းတွင် ထိုင်ကာ ဆွေးနွေးကြ၊ ငြင်းခုံကြ၊ ရန်ဖြစ်ကြ၊ ရပ်ဆိုင်းကြ၊ ပြန်လည် ဆွေးနွေး ကြနှင့် အကျိတ်အနယ် ကြိုးပမ်းကြပြီး နောက်မှသာ နှစ်ဖက်လုံး လက်ခံ နိုင်သော အနေအထားဖြင့် ငြိမ်းချမ်းရေးရယူ တည်ဆောက်နိုင်လေ့ရှိကြသည်။

ရှည်ကြာသော ပဋိပက္ခတို့ မည်သည် ဘက်ပေါင်းစုံသို့ ဖြန့်ကြက် အမြစ်တွယ် နေတတ်မြဲဖြစ်ရာ နေ့ချင်းညချင်းကား ရှင်းလင်း ပျောက်ကွယ်သွား လိမ့်မည် မဟုတ်။

သို့သော်၊ ညှိနှိုင်းဖြေရှင်းလိုသော ဆန္ဒများ ပြည့်ဝထက်သန်ကြမည်ဆိုလျှင်မူ တစ်နေ့သောအခါ၌ ပဋိပက္ခတို့ပြီးပြေ၍ သမမျှတသည့် ငြိမ်းချမ်းသောဘဝကို တည်ဆောက်နိုင်ကြမည် ဖြစ်ပါသည်။

[ ၁၀ ဩဂုတ် ၂၀၁၁ ]

# မီးစများနှင့် ရေမှုတ်များကြားက အကောင်းဘက် မျှော်လင့်ချက်

ငြိးခဲ့သည့်လများအတွင်း နိုင်ငံရေးနယ်ပယ်တွင် နေရာဌာနပေါင်းစုံမှ ထူးခြား သော အဖြစ်အပျက် ပေါင်းစုံတို့ အဆက်မပြတ် ပေါ်ထွက်ခဲ့သည်။

အဲသည်ဖြစ်ရပ်များထဲတွင် မီးစများရော ရေမှုတ်များပါ ရောနှော ပါဝင် နေရာ တိုင်းပြည်အရေး တွေးတောသူများအဖို့ သို့လော သို့လော ရင်မောစရာ ဖြစ်သည်။

သို့သော် တဖြည်းဖြည်း ဖြစ်ပေါ်လာသည့် အနေအထားများအရ အကောင်းဘက်သို့ ပြောင်းလဲမည့် မျှော်လင့်ချက် ရောင်ခြည်ကို မီးစနှင့် ရေမှုတ်များကြားတွင် တစ်စတစ်စ မြင်လာရသည် ဟုပြောချင်သည်။

တစ်နည်းပြောသော်၊ မဝံ့မရဲ မျှော်လင့်ချက်။

မဝံ့ရဲခြင်းကား ရှည်ကြာသော နှစ်ကာလများအတွင်း မျှော်လင့်ချက်တွေ အကြိမ်ကြိမ် ပျက်ပြယ်ခဲ့သောကြောင့် ဖြစ်သည်။

ရှေ့တစ်လှမ်းတိုးပြီးမှ နောက်နှစ်လှမ်း ဆုတ်သွားလေမည်လား၊

နှင်းခဲတွေ အရည်ပျော်ပြီ ရင်းနှီးပွင့်လင်းမှုတွေ ရှိလာပြီ ဆိုပြီးကာမှ ပျော်ကျသွားသော နှင်းခဲအောက်က ပြဿနာ အစိုင်အခဲတွေ ပေါ်ထွက်လာ လေမည်လား၊

အကောင်းဘက် မျှော်သူတို့အတွက် အဲသည်လို မဝံ့ရဲစရာ အကြောင်းတွေ ရှိနေသည်။

မည်သို့ပင်ဖြစ်စေ၊ အရေးပါသော ဖြစ်စဉ်တချို့ကို ပြန်ကြည့်သော်၊

ဇွန် ၂၈၊ ၂၀၁၁ နေ့တွင် ပြည်ထဲရေးဝန်ကြီးဌာနက ဦးအောင်ရွှေနှင့် ဒေါ်အောင်ဆန်း စုကြည်တို့အား အမျိုးသား ဒီမိုကရေစီအဖွဲ့ချုပ်နှင့် စပ်လျဉ်း၍ ဥပဒေနှင့်အညီ လိုက်နာဆောင်ရွက်ရန် အကြောင်းကြားစာပေးပို့ခဲ့သည်။

၎င်းအကြောင်းကြားစာသည် နောက်ဆုံး သတိပေးချက် ဖြစ်လေမည်လား၊ သည့်နောက်တွင် ပဋိပက္ခများနှင့် နှိပ်ကွပ်မှုများကို မြင်လာရလေမည်လား ဟူ စိုးရိမ်မကင်းမှုများ ရှိခဲ့ကြသည်။

ထို့နောက်တွင် စာပါ အကြောင်းအရာနှင့် စပ်လျဉ်း၍ အပြန်အလှန် ငြင်းခုံရေးသားမှုများလည်း ထွက်ပေါ်ခဲ့သည်။

သို့သော်၊ ၎င်းနောက် များမကြာမီပင် လူအများတို့ သတိထားစောင့်ကြည့် ကြသည့် အာဇာနည်နေ့ အခမ်းအနား အစီအစဉ်သည် နှစ်ဖက် သက်ဆိုင်သူတို့

ညှိနှိုင်းဆောင်ရွက်မှုဖြင့် အဆင်ပြေစွာ ပြီးမြောက်ခဲ့ပြီး၊ ဒေါ်အောင်ဆန်းစုကြည်၏ ခရီး အလည်အပတ်ခရီးစဉ်၌လည်း ပြဿနာ တစ်စုံတစ်ရာမျှ မပေါ်ပေါက်ခဲ့တာ တွေ့ရသည်။

ထို့နောက်တွင် အများမျှော်လင့်မထားသော အရာတစ်ခု ဖြစ်ပေါ်လာခဲ့သည်။

ပြည်ထောင်စုဝန်ကြီး ဦးအောင်ကြည်နှင့် ဒေါ်အောင်ဆန်းစုကြည်တို့ တွေ့ဆုံဆွေးနွေးကြခြင်း ဖြစ်သည်။ ဇူလိုင် ၂၅ ရက်နေ့ ပထမအကြိမ် တွေ့ဆုံအပြီး၊ နောက်နှစ်ပတ်ကျော်အကြာ ဩဂုတ်လ ၁၂ ရက်တွင် ထပ်မံ တွေ့ဆုံသည်။ ဒုတိယအကြိမ် တွေ့ဆုံအပြီး ပူးတွဲ သတင်းထုတ်ပြန်ရာ၌၊

တိုင်းပြည် တည်ငြိမ်အေးချမ်းရေးနှင့် ဖွံ့ဖြိုးတိုးတက်ရေးအတွက် ဒေါ်အောင်ဆန်းစုကြည်နှင့် နိုင်ငံတော်အစိုးရတို့ နှစ်ဖက် လက်တွဲ ဆောင်ရွက်မည် ဖြစ်ကြောင်း၊

မြန်မာနိုင်ငံတွင် ဒီမိုကရေစီစနစ် ဆက်လက် တိုးတက်ထွန်းကားစေရေး အတွက် လည်းကောင်း၊ စီးပွားရေးနှင့် လူမှုရေးလုပ်ငန်းများ ပိုမို ဖွံ့ဖြိုးတိုးတက် လာစေရေး အတွက် လည်းကောင်း အပြုသဘော ပူးပေါင်း ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

ပဋိပက္ခ အသွင်ဆောင်သော အမြင်သဘောထားများကို ရှောင်ရှားကြပြီး အပြန်အလှန် တူညီသော ပူးပေါင်း ဆောင်ရွက်ရေး လုပ်ငန်းစဉ်အတွက် ဦးတည်ချက်ထား၍ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

တွေ့ဆုံဆွေးနွေးမှုများ ဆက်လက် ပြုလုပ်သွားမည် ဖြစ်ကြောင်း၊ ဖော်ပြထားပြီး၊

သည်ရက်ပိုင်းအတွင်း ဒေါ်အောင်ဆန်းစုကြည်၏ ပထမဆုံး ပြန်လည် စတင်သည့် နိုင်ငံရေးခရီးစဉ် ဟုဆိုရမည့် ပဲခူးနှင့် သနပ်ပင်ခရီးတွင် နှစ်ဖက် ထိန်းသိမ်းဆောင်ရွက်သည့် လက္ခဏာများ တွေ့မြင်ရသည်ဖြစ်ရာ တွေ့ဆုံမှု အခြေအနေ တိုးတက်သည် သို့မဟုတ် ဆက်လက် ကောင်းမွန်နေသည်ဟု ယူဆရသည်။

တစ်ဖန်၊

မြောက်ပိုင်းဒေသ၌ ရတက်မအေးစရာ ပစ်ခတ်တိုက်ခိုက်မှုများ ဖြစ်ပွား နေရာက ပြန်လည် လျော့ပါးငြိမ်သက်သွားပြီး၊ ပုဂ္ဂိုလ်အဖွဲ့အစည်း အသီးသီးမှ အသွင်သဏ္ဌာန် အမျိုးမျိုးဖြင့် ပြောဆိုသည့်၊ ကမ်းလှမ်းသည့်၊ ဖိတ်ခေါ် ခဲ့ကြသည့် ငြိမ်းချမ်းရေး စကားသံတွေ ထွက်ပေါ်လာခဲ့သည်။

ငြိမ်းချမ်းရေးကို အာရုံပြုသူများလာသော် ငြိမ်းချမ်းမည့် အလားအလာ
လည်း ပိုများလာမည်ဟု မှတ်ယူရသည်။

သည့်အပြင်၊

မြောက်ပိုင်းက ရေကာတာများနှင့် ရေဝတီအရေးကိစ္စသည်လည်း ပဋိပက္ခ
အသွင်ဆောင်လာရာက ထိန်းသိမ်းဆောင်ရွက်မှုတို့ကြောင့် ပြန်လည် ငြိမ်သက်
လာတာ တွေ့ရသည်။

မီးထက် ရေက များလာသော သဘောပင်။

သည်ကြားထဲတွင် ထူးခြားမှုတစ်ခု မြင်လာရသည်။

ယခင်က၊ အမျိုးသားရင်ကြားစေ့ရေး စိတ်ဝမ်းကွဲပြားမှုများ လျော့ပါးရေး
အကြောင်းများ ပြောသည့်အခါ၊ အာဏာလက်ရှိ ပုဂ္ဂိုလ်တို့နှင့် အတိုက်အခံ
အင်အားစုများအကြား ရင်ကြားစေ့ရေး၊ လူမျိုးရေးလူများစုနှင့် လူမျိုးရေး
လူနည်းစုများ အကြား ရင်ကြားစေ့ရေး စသည်ဖြင့် တစ်ကဏ္ဍစီ ပိုင်းခြား
ပြောဆိုခဲ့ကြသည်။ အဲသည်အထဲမှာ ဘာကို အရင်စေ့မလဲ ဟူသည်လည်း
စဉ်းစားစရာ ဖြစ်ခဲ့သည်။ သို့သော် ပြီးခဲ့သည့် ဇူလိုင် ၂၈ ရက်နေ့တွင်
ဒေါ်အောင်ဆန်းစုကြည်က နိုင်ငံတော် သမ္မတ ဦးသိန်းစိန်နှင့် တိုင်းရင်းသား
အဖွဲ့အစည်း ၄ ခုသို့ အိတ်ဖွင့်ပေးစာ ရေးသားကာ အပစ်အခတ်ရပ်စဲရေးနှင့်
ငြိမ်းချမ်းရေးလုပ်ငန်းစဉ်များကို ပံ့ပိုးရန်အတွက် သူမအနေနှင့် ကိုယ်စွမ်းရှိသ
ပါဝင် ကြိုးပမ်းပေးရန် အသင့်ရှိကြောင်း ပြောဆိုလိုက်သည့်အခါ၊ အကယ်၍
၎င်းအတိုင်းသာဖြစ်မည်ဆိုက ရင်ကြားစေ့ရေးကိစ္စသည် တစ်ဆက်တည်း
တစ်တွဲတည်း ဖြစ်ပေါ်နိုင်သည့်သဘော ရှိလာသည်။

တစ်ဖန်၊ အာဃာတတို့ လျော့ပါးလာသည့် လက္ခဏာတစ်ရပ်ကို ဩဂုတ်
၁၆ ရက်နေ့ထုတ် အစိုးရသတင်းစာများ၌လည်း စတင် တွေ့ရှိရသည်။

၎င်းက၊ သတင်းစာများ နောက်ကျောတွင် စာမျက်နှာတစ်ဝက်
အဆက်မပြတ် နေရာယူ ဖော်ပြခဲ့သည့် ကြွေးကြော်သံများ လှုံ့ဆော်စာတန်းများ
ပျောက်ကွယ်သွားခြင်း ဖြစ်သည်။

အဲဒါတွေသည် အကောင်းဘက်သို့ မျှော်လင့်စရာ အနေအထားများ
ဖြစ်သည်။

နိုင်ငံ့အရေးအတွက် အကောင်းဘက် တွေးတော မျှော်လင့်သူတို့က ယခု
အချိန်အခါသည် နိုင်ငံအနေဖြင့် အာဏာပိုင်စနစ်မှ ဒီမိုကရေစီ စနစ်သို့
ရွေ့ပြောင်းစ ကာလအဖြစ် မှတ်ယူလိုကြသည်။ လောလောဆယ်တွင် အရာရာ

ပြည့်စုံသေးတာ အားလုံး သိကြသည်၊ သို့သော် ပြည့်စုံသော ဘက်ဆီသို့ ပြောင်းသည့် လက္ခဏာများ တွေ့ရလျှင် ကောင်းမွန်မည့် အနာဂတ်ကို တာ ကျေနပ်ကြလိမ့်မည်။

ပြည်သူတို့အနေနှင့်၊

ရွေးကောက်ပွဲများတွင် နိုင်ငံရေးအင်အားပေါင်းစုံတို့ ပါဝင်စေလိုကြသည်။ သည်အတွက် အဖွဲ့အစည်းများ တစ်ဦးချင်း ပုဂ္ဂိုလ်များအားလုံး လွတ်လပ်စွာ ည်းရုံးနိုင် ယှဉ်ပြိုင်နိုင်သော အနေအထားများ ဖြစ်ထွန်းစေချင်ကြသည်။

လွတ်လပ်၍ တရားမျှတသော ရွေးကောက်ပွဲများမှ တက်လာသူတို့ အစိုးရ အာဏာရရှိကာ သတ်မှတ်ထားသော သက်တမ်းကာလတစ်လျှောက် စွမ်းအား သူမျှ ဆောင်ရွက်ကြ၍၊ နောက်သက်တမ်းတွင် အရွေးမခံရသော်၊ အရွေးခံရသူ အား မနှောင့်မနှေး အာဏာလွှဲပြောင်းပေးသောစနစ် တိုင်းပြည်၌ ပေါ်ထွန်းတာ င်လိုကြသည်။

မိမိတို့ လိုလားသူကို တင်မြှောက်၍၊ မလိုလားသူကို ဖြုတ်ချနိုင်သော အနေအထား။

အဲသည်လို အနေအထားမျိုးတွင် မိမိတို့ လူမှုဘဝများ သာယာလှပ မိမ့်မည်ဟု ပြည်သူတို့ မြင်ယောင်မျှော်မှန်းကြသည်။

လက်ရှိ အခြေအနေမှသည် ပြည်သူအများ တွေ့မြင်လိုသည့် အထက်က အနေအထားမျိုးဆီ ရောက်ရှိဖို့ လမ်းခရီးမှာ ပြဿနာပေါင်း များစွာ ရင်ဆိုင် ဖြေရှင်းကြရဦးမည် ဖြစ်သည်။

သည်အတွက် တိုင်းပြည်ရှိ နိုင်ငံရေးအင်အားစုများအတွင်း မတူညီကွဲပြားမှု များကို တွေ့ဆုံဆွေးနွေး အဖြေရှာလိုသော စိတ်နှင့်၊ တိုင်းပြည်ငြိမ်းချမ်း သာယာ၍ ဖွံ့ဖြိုးတိုးတက်ရေးသည်သာ မိမိတို့၏ အဆုံးစွန် ရည်မှန်းချက် ဖြစ်သည်ဟု ယုံကြည်သောစိတ်များ ပြည့်ဝကြဖို့ လိုသည်။

ချုပ်ပြောသော်၊

အင်အားအများစုတို့၊ ဒီမိုကရေစီအပေါ် အမှန်တကယ် သက်ဝင်ယုံကြည် ကြ၍၊ ဒီမိုကရေစီ အလေ့အကျင့်များကို လေးစားလိုက်နာကြခြင်းဖြင့်သာ အများပြည်သူတို့၏ မျှော်လင့်ချက်များ လက်တွေ့ဖြစ်လာနိုင်မည်ဟု ဆိုချင် ပါသည်။

[ ၁၇ ဩဂုတ် ၂၀၀၁ ]

# ရွှေနိုင်အခြေနေကြောင်း ထိန်းကျောင်းခြင်းနှင့် ပြည်သူ့အကျိုးစီးပွား

၁။ ဩဂုတ် ၂၀၁၁ က စတင်သည့် ပထမအကြိမ် လွှတ်တော် ဒုတိယ ပုံမှန်
အစည်းအဝေးများမှာ ထူးခြားတာတစ်ခု တွေ့ရသည်။

အဲဒါက၊ ပြည်သူ့လွှတ်တော် အစည်းအဝေး၊ အမျိုးသားလွှတ်တော်
အစည်းအဝေး၊ ထို့နောက် လွှတ်တော်နှစ်ရပ်ပေါင်းနှင့် သမ္မတပါ တက်ရောက်သည့်
ပြည်ထောင်စုလွှတ်တော် အစည်းအဝေးတို့မှာ ပြောကြားခဲ့သည့် လွှတ်တော်
ဥက္ကဋ္ဌနှစ်ဦးနှင့် နိုင်ငံတော်သမ္မတတို့၏ မိန့်ခွန်းများတွင် 'ပြည်သူ' ကို ဦးထိပ်
ထားသော စကားတွေ အများအပြား ပါဝင်ခဲ့ခြင်း ဖြစ်သည်။

ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌ သူရဦးရွှေမန်းက၊

လွှတ်တော်ကိုယ်စားလှယ်များ အနေနှင့် ပြည်သူ့အသံ၊ ပြည်သူ့ဆန္ဒ
ပြည်သူ့သဘောထားနှင့် ပြည်သူ့မျှော်လင့်ချက်များကို အလေးထားကြရန်၊

ပြည်သူ့သဘောဆန္ဒများကို လွှတ်တော်သို့ သယ်ဆောင်လာပြီး နိုင်ငံတော်နှင့်
ပြည်သူတို့အတွက် အကျိုးဖြစ်ထွန်းစေမည့် ဥပဒေများ ပေါ်ထွန်းလာအောင်
ဆောင်ရွက်ရန်၊

နိုင်ငံသားတို့၏ မူလအခွင့်အရေး၊ ဒီမိုကရေစီအရေးနှင့် လူ့အခွင့်အရေး
များကို ကာကွယ်စောင့်ရှောက်ရန်နှင့်၊

(ယင်းသို့အားဖြင့်၊) တာဝန်ကျေသော သစ္စာရှိသော ပြည်သူ့ကိုယ်စားလှယ်
များအဖြစ် ပြုမူဆောင်ရွက်ကြရန် တိုက်တွန်း ပြောဆိုခဲ့သည်။

အမျိုးသားလွှတ်တော်ဥက္ကဋ္ဌ ဦးခင်အောင်မြင့်က ပြည်ထောင်စုလွှတ်တော်
အစည်းအဝေးတွင် နာယကအဖြစ် နှုတ်ခွန်းဆက်စကား ပြောကြားရာ၌
ယခုအကြိမ် လွှတ်တော်အစည်းအဝေးမှ စတင် ထုတ်ပြန်သည့်၊

ပြည်သူ့အသံ – လွှတ်တော်အသံ၊

ပြည်သူ့ဆန္ဒ – လွှတ်တော်ဆန္ဒ၊

ပြည်သူ့မျှော်လင့်ချက် – လွှတ်တော်က ဖော်ဆောင်ရွက်၊ ဟူသည့် ပြည်သူ့
ပဓာနပြု လွှတ်တော်ဆောင်ပုဒ်ကို ထည့်သွင်း ကြေညာ ပြောဆိုသွားပြီး၊

ပြည်ထောင်စုလွှတ်တော် အစည်းအဝေးတွင် ပြောကြားသည့် နိုင်ငံတော်
သမ္မတ ဦးသိန်းစိန်၏ မိန့်ခွန်းတွင်လည်း

မိမိတို့ အစိုးရအနေနှင့် ပြည်သူတွေ ဖြစ်နေတာ၊ ပြည်သူတွေ ဖြစ်ချင်တာ
များကို သိရှိကြောင်း၊ အပြည့်အဝ ဖြည့်ဆည်း ဆောင်ရွက်နိုင်အောင်လည်း

ကြိုးပမ်း ဆောင်ရွက်လျက်ရှိကြောင်း၊... ပြည်သူ့အစိုးရ ဖြစ်သည်နှင့်အညီ ပြည်သူလူထု အကျိုးစီးပွားကို အစွမ်းကုန် ကြိုးပမ်း ဆောင်ရွက်သွားမှာ ဖြစ်ကြောင်း စသဖြင့်၊ ပါရှိခဲ့ရာ အားလုံးပင် ကြိုဆိုရမည့် စကားများ ဖြစ်သည်။

စင်စစ်၊ ပြည်သူလူထုအနေဖြင့်၊ အဲသလို ပြည်သူကို အလေးအမြတ်ပြုသော စကားတွေ ရှေးတုန်းကလည်း ကြားဖူးခဲ့ကြပါသည်။ သို့သော် အပြောနောက်က အလုပ်ပါမလာသဖြင့် ယုံကြည်လေ့ မရှိခဲ့ကြ။

သို့သော်၊ သည်စကားတွေ မကြားရတာ၊ သို့မဟုတ် ယင်းသို့ နှုတ်ဖြင့်ပင် အလေးဂရုပြုခြင်း မခံရတာ ကြာနေခဲ့ပြီး၊ ယနေ့ကာလတွင်မှ တစ်ဖန် ပြန်ကြားလာရသည့်အခါ ပြည်သူတို့ ဝမ်းမြောက်ချင်သော သဘောရှိကြသည်။ သို့သော် မရဲတရဲ။

အတန်ကြာ စောင့်ကြည့်ပြီး၊ ပြည်သူကို အမှန်တကယ် အလေးအမြတ်ပြုသည့် လက္ခဏာတွေ ဟိုမှာ သည်မှာ မြင်လာရပြီဆိုလျှင်ကား ကျေးဇူးတင်ကြ သောက်ခံကြိုဆိုကြမှာ မုချ ဖြစ်သည်။

အုပ်စိုးခံပြည်သူတွေအနေနှင့် အစိုးရတို့ထံက မျှော်လင့်တာ နှစ်ခုပဲရှိသည်။

ပထမတစ်ခုက ပြည်သူကို အာဏာမပြဖို့၊ နှိပ်စက်ကလူမပြုဖို့ ဖြစ်သည်။ ပြည်သူတွေ 'မင်း'ဆိုတာကို ကြောက်ကြတာ အဲဒါတွေကြောင့် ဖြစ်သည်။ တရားဥပဒေနှင့်အညီ စီမံအုပ်ချုပ်မည်ဆိုလျှင်ပင် ပထမအဆင့်အဖို့ လုံလောက်ပြီ။

ဒုတိယအဆင့် မျှော်လင့်ချက်က တိုင်းပြည်ဖွံ့ဖြိုးတိုးတက်ရန်အတွက် တိုင်းပြည်၏ စွမ်းအား ပြည်သူ၏ စွမ်းအားများကို ဉာဏ်အမြော်အမြင်ရှိစွာ စီမံခန့်ခွဲပေးဖို့ ဖြစ်သည်။ အဲဒါ ဆောင်ရွက်နိုင်လျှင်ကား အစိုးရကောင်းဟု ဆိုကြလိမ့်မည်။

ပထမအဆင့်ဖြစ်သည့် အာဏာကိစ္စမှာ အုပ်စိုးသူတို့ မှန်ကန်စွာ ဆောင်ရွက်အောင် ကြပ်မတ်ပေးနိုင်မည့် အရာတစ်ခုက အာဏာများ ခွဲခြား ထားရှိကာ အပြန်အလှန် ထိန်းကျောင်းပေးသော စနစ် ဖြစ်သည်။

ယခု လွှတ်တော် အစည်းအဝေးများတွင် ဥက္ကဋ္ဌများက သည်ကိစ္စနှင့် စပ်လျဉ်း၍ ဂရုပြု ပြောဆိုသွားကြတာတွေ ကြားသိရသည်။

ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌက၊

သမ္မတက အုပ်ချုပ်ရေးအာဏာ ကျင့်သုံးပြီး လွှတ်တော်က ဥပဒေပြုအာဏာ ရယူဆောင်ရွက်နေသည့် ဖွဲ့စည်းပုံ အနေအထားကို ထောက်ပြကာ လွှတ်တော်က စည်းလုံးညီညွတ်စွာ ဆောင်ရွက်ကြဖို့ လိုကြောင်း အလေးပြီး

လွှတ်တော်က ပြဋ္ဌာန်းပေးလိုက်သော ဥပဒေများကို ထပ်ဆင့် ထုတ်ပြန်
အပ်နှင်းခြင်းခံရသော အဖွဲ့အစည်း အသီးသီး၏ ထုတ်ပြန်သော ဥပဒေ
ဖြစ်သည့် နည်းဥပဒေ၊ စည်းမျဉ်းဥပဒေ၊ စည်းကမ်းဥပဒေ၊ အမိန့်၊ ညွှန်ကြား
ကြော်ငြာစာ၊ လုပ်ထုံးလုပ်နည်း၊ လက်စွဲများသည် မူလလွှတ်တော်
ပြဋ္ဌာန်းခဲ့သော ဥပဒေနှင့် ညီညွတ်မှု ရှိ/မရှိကို ဆန်းစစ်နေရမည် ဖြစ်သကဲ့
နိုင်ငံတော်အတွင်းရှိ အဖွဲ့အစည်းများနှင့် နိုင်ငံသားအားလုံးက လိုက်
ကျင့်သုံးရေးနှင့် အပြန်အလှန် ထိန်းညှိ ကူညီ ဆောင်ရွက်ရေးအတွက် ပါ
ဆေးရမည် ဖြစ်ကြောင်း။

စသဖြင့် ပြောဆိုခဲ့ရာ၊ အုပ်ချုပ်ရေးပိုင်း ပုဂ္ဂိုလ်တို့ အာဏာသုံးစွဲ
လွဲချော် လွန်ကျူးမှု မရှိရအောင် ထိန်းကျောင်းကြရန် တိုက်တွန်းထားခြ
ဖြစ်သည်။

မဏ္ဍိုင်အချင်းချင်း ထိန်းကျောင်းခြင်းနှင့် စပ်လျဉ်း၍၊ အမျိုးသားလွှတ်တော
ဥက္ကဋ္ဌကလည်း၊

လွှတ်တော် ကိုယ်စားလှယ်များ အနေနှင့်၊

အဓိက တာဝန်မှာ ဥပဒေပြုရေးပင် ဖြစ်ကြောင်း၊

ထို့ပြင်၊ ပြည်သူတို့၏ အကျိုးစီးပွားကို ဖော်ဆောင်ရန်အတွက် လွှတ်တော
တွင် မေးခွန်းများ မေးမြန်းခြင်းနှင့် အဆိုများ တင်သွင်းခြင်းတို့ကိုလည်
ဆောင်ရွက်ခွင့် ရှိကြောင်း၊

(သို့သော်၊) အုပ်ချုပ်ရေးကဏ္ဍနှင့် တရားစီရင်ရေးကဏ္ဍများအား ထိန်းညှိမ
ဆိုလျှင်၊ ဥပဒေပြုခြင်း၊ မေးခွန်းမေးမြန်းခြင်း၊ အဆိုများ တင်သွင်းခြ
နည်းလမ်းများ ဖြင့်သာ ထိန်းညှိခွင့်ရှိကြောင်း၊

ကောင်းမွန်သော အုပ်ချုပ်မှုနှင့် သန့်ရှင်းသော အစိုးရ ဖြစ်ပေါ်
တရားစီရင်ရေး မဏ္ဍိုင်ကြံ့ခိုင်ရေးတို့အတွက် လွှတ်တော်၌ မေးခွန်းထုတ်သ
အခါ ပုဂ္ဂိုလ်ရေး တိုက်ခိုက်မှု မပါဘဲ မေးမြန်းနိုင်ကြောင်း၊ စသဖြင့် ပြောကြ
ခဲ့သည်။

လွှတ်တော်များက ထိုသို့ ပြောဆိုစဉ်၊ အုပ်ချုပ်ရေးအာဏာ
အကြီးအကဲဖြစ်သော သမ္မတကလည်း၊

ပြည်သူ့အစိုးရဖြစ်နေပြီ ဖြစ်တဲ့အတွက် ပြည်သူလူထု အကျိုးစီးပွား
ဦးထိပ်ထားရပါမယ်။ ပြည်သူလူထု စိတ်ကျေနပ်မှု၊ ပြည်သူလူထု စိတ်ချမ်းသာမှု
ထမ်းဆောင်ကြတဲ့၊ ပြည်သူလူထုတစ်ရပ်လုံးရဲ့ ယုံကြည်ကိုးစား အားထားမှု

...ထိုက်တဲ့ ပြည်သူ့ဝန်ထမ်းကောင်းများ ဖြစ်လာအောင် ပညာပေးခြင်း၊ ...တိပေးခြင်း၊ အရေးယူခြင်းများ ဆောင်ရွက်နေပြီ ဖြစ်ပါတယ်။ ခေတ်ပြောင်း...ပြီ ဖြစ်တဲ့အတွက် စနစ်ကိုပါ ပြောင်းလဲနိုင်ရေး ကြိုးပမ်းဆောင်ရွက်ကြရာမှာ ...ပ်နည်းလုပ်ဟန်တွေ၊ ကြိုးနီစနစ်တွေ ဆက်လက် ဆွဲကိုင်ထားသူတွေ၊ ...ဝန်သိမှု၊ တာဝန်ယူမှု ကင်းမဲ့ပြီး အဂတိလိုက်စားမှုများကိုလည်း ထိရောက်စွာ အရေးယူ ဆောင်ရွက်သွားမှာ ဖြစ်ပါတယ်။

စသဖြင့် မိမိဘက်က ဆောင်ရွက်ချက်ကို လွှတ်တော်သို့ အသိပေး ...ပြောကြားတာ တွေ့ရသည်။

ပထမနေ့ အစည်းအဝေးများတွင် လွှတ်တော် ကော်မတီနှင့် ကော်မရှင်များ ...ချဲ့ဖွဲ့စည်းခြင်း၊ ယင်းတို့အတွက် ဥက္ကဋ္ဌ အသီးသီး သတ်မှတ် တာဝန်ပေးခြင်း ...လည်း ပြုလုပ်တာ တွေ့ရသည်။

အဆိုပါ ဥက္ကဋ္ဌများထဲတွင် ယခင် အစိုးရလက်ထက်က ဝန်ကြီးအဆင့် ...ဝန်ယူခဲ့သူ အများအပြား ပါဝင်ပြီး၊ အဓိကအားဖြင့် ၎င်းတို့ ဆောင်ရွက် ...သည့် ဌာနနှင့် ဆက်စပ်ပတ်သက်သည့် လွှတ်တော်ကော်မတီများမှာပင် ...ဝန်ပေးထားရာ၊ အုပ်ချုပ်ရေး စီမံခန့်ခွဲရေး အတွေ့အကြုံ ရှိခဲ့သည့် ...တ်တော်ကော်မတီများက လက်ရှိ အုပ်ချုပ်ရေးအာဏာ ကိုင်တွယ်ကျင့်သုံးမည့် ...များအား ထိန်းကျောင်းမည့်သဘော ဖြစ်သည်။

ပြည်သူတို့အနေနှင့်ကား၊ အာဏာရှိသူတို့က ပြည်သူတို့အပေါ် အာဏာ ...န်ကဲစွာ အသုံးမပြုအောင် အာဏာမဏ္ဍိုင်အချင်းချင်း ထိန်းကျောင်းမှုပြုမည့် ...အစဉ် မှန်သမျှကို လက်ခံကြိုဆိုမည်သာ ဖြစ်သည်။

တိုင်းပြည်၌ တရားသဖြင့် အုပ်စိုးမှုရှိမည်၊ ပြည်သူ့အခွင့်အရေးများ ...ညီ့ဝစွာ ခံစားရမည်ဆိုလျှင် အားရကျေနပ်ပြီး၊ တိုင်းပြည် ဖွံ့ဖြိုးတိုးတက်ရေး ...ပါအဝင် နိုင်ငံ့အရေးကိစ္စမှန်သမျှ၌ တို့တိုင်းပြည် တို့တိစ္စ ဟူသော ...ာ်ခါတ်ဖြင့် တက်ကြွစွာ ဝိုင်းဝန်းလာကြမည် ဖြစ်ပါသည်။

[ ၂၄ ဩဂုတ် ၂၀၁၁ ]

# သတင်းကောင်းကို မျှော်ကာ ရင်တမမ

စာနယ်ဇင်းသမားသည် သတင်းကို မျှော်၏။

ငြိမ်၍ ဖောက်သည်ချချင်သောကြောင့် ဖြစ်၏။

ဘာသတင်းတွေလဲ။

ဘာတွေ ပြောင်းလဲဖြစ်ပေါ်နေသည်ဆိုသော သတင်းများ ဖြစ်၏။

အပြောင်းအလဲကို မကြိုက်သူများကတော့ သတင်းဟောဆိုလျှင် မကောင်း သတင်း ဟုထင်ကြ၏။

ဘာသတင်းမှ မကြားရလေ ကောင်းလေ။

ထို့ကြောင့်၊

No news is good news. ဘာသတင်းမှ မကြားရရင် အဲဒါကောင်းတာ ဆိုသောစကား ရှိခဲ့ခြင်း ဖြစ်၏။

လက်ရှိအခြေအနေမှာ ကိုယ့်အတွက် အရာရာ သာယာကောင်းမွန်နေ ကတော့ ထူးထူးခြားခြား အသံဗလံ ကြားချင်မည် မဟုတ်။ ကြားလျှင်လည် နားပိတ်ထားလိမ့်မည်။

ပါရီတစ်မြို့လုံး အုန်းအုန်းကျွက်ကျွက်ဖြစ်ကာ ဘက်စတီးထောင် လူစုလူဝေးနှင့် ဖျက်ကြ ဖွင့်ကြသည့် ပြင်သစ်တော်လှန်ရေးကြီး စတင်သော နေ့က ဘုရင်လူဝီ ၁၆ ၏ နေ့စဉ်မှတ်တမ်းတွင် Rien (Nothing) (ဘာမှ ဟုရေးထားကြောင်း ဆိုကြသည်။

သူက နားပိတ်ထားသောသဘော။

သို့သော်၊

လက်ရှိထက် ကောင်းသော အနေအထားကို မျှော်သော ပြည်သူက အပြောင်းအလဲတွေအကြောင်း ကြားချင်ပေလိမ့်မည်။

ဘာတွေ ဖြစ်သလဲ။ တစ်ခုခုဖြစ်လျှင် သတင်းကောင်း။

ဘာမှမကြားရလျှင် မကောင်း။ သို့လော သို့လော တွေးတောပူပန် ဖြစ်သည်။

ထို့ကြောင့် ကြားချင်ကြသည်။

'သတင်း' ကြားချင်သူများထဲမှာ သတင်းသမားတို့က အတက်ကြွ ဖြစ်သည်။ သည်ကနေ့ခေတ်မှာ စာနယ်ဇင်းမီဒီယာသမားဟု ခေါ်ကြသူများ

ဘာတွေ ထူးမလဲ၊ ဘာတွေ ပြောင်းမလဲ၊ နောက်ထပ် အသစ် အသစ် ဘာတွေ ကြားလာရမလဲ။ မျှော်လင့်မထားသည့် ဘယ်အခြင်းအရာတွေ ပေါ်လာမည်လဲ။

သန့်ကနဲ ကြားလျှင် အပြေးအလွှား နားစွင့်၊

ပြီးလျှင် အပြေးအလွှား သွားပြော။

အဲ၊ အဲသည်မှာ သတိထားစရာတစ်ခု ရှိပြန်သည်။

သတင်းတစ်ခုသည် ဟိုလူ့အတွက် ကောင်းသောသတင်း ဖြစ်နိုင်ချိန်မှာ သည်လူ့အတွက် မကောင်းသောသတင်း ဖြစ်နိုင်ကြောင်း အထက်မှာ ပြောခဲ့သည်။

အဲသည်ခါ၊ ကောင်းတာ ကြားရသူက ဝမ်းသာ၍ မကောင်းတာ ကြားရသူက ဒေါသထွက်သည်။

ထို့ကြောင့်၊ သတင်းတွေ ပေးနေသည့် စာနယ်ဇင်းတစ်စောင်တည်းကိုပဲ ကြိုက်သူက ကြိုက်၊ မကြိုက်သူက မကြိုက်။

သည်ကနေ့ ကြိုက်သူက နောက်တစ်နေ့ ဟိုသတင်းတစ်ပုဒ်အတွက် မကြိုက်။

အဲသလိုတွေ ဖြစ်တတ်သည်၊ သို့သော် တော်ရုံ မကြိုက်တာတော့ ပြဿနာမရှိ။

ရှေးတုန်းကတော့၊ မကောင်းသတင်း သယ်ဆောင်လာသူအား သုတ်သင် ပစ်လိုက်သည် ဆိုတာမျိုး ရှိခဲ့သည်။

နှစ်ရက်နှင့်နှစ်ည မအိပ်ဘဲ ပြေးလွှားကာ အဝေးစခန်းမြို့ ကျဆုံးသွားကြောင်း သတင်းပေးပို့လာသော ခြေမြန်တော်အား ရုတ်တရက် ဒေါသဖြင့် ရင်ဝကို ဓားနှင့်ထိုး စီရင်လိုက်ခြင်းမျိုး ဖြစ်သည်။

ကံဆိုးသော သတင်းသမား။

သည်နေ့ခေတ်မှာတော့ အဲသည်လို ဓလေ့မျိုး မရှိတော့ပါ၊

'... ဆုံးပြီ' ဆိုသော ကြေးနန်းစာ လာပို့သူအား ဆဲရေးတိုင်းထွာသည်ဟု ပြောဆိုသံ ကြားရလေ့ မရှိ။ (သေချာအောင်ကား စာပို့သမားတို့ကို မေးမြန်းကြည့်ဖို့ လိုလိမ့်မည်။)

မည်သို့ဖြစ်စေ၊ သတင်းသမားသည် ကောင်းသော သတင်းကိုသာ ပို့ချင်သည်။ လူအများက ကောင်းတယ်ဟေ့ဟု ဆီးကြိုမည့် သတင်းကောင်းမျိုးကိုသာ မောင်းကြေး နင်းခတ် ကြေညာချင်သည်၊

'ကမ္ဘာစစ်ကြီး စတင်ပြီ' ဆိုသော သတင်းမျိုးကို မဖြန့်ချိ၊ မဝေငှချင်။

သို့သော် အများက သတင်းဆိုးဟု ဆိုကြမည့် အဲသည်သတင်းမျိုးကိုလည်း အများကို အသိပေးဖို့တော့ သူ့မှာ တာဝန်ရှိပြန်သေးသည်။ သည်တော့၊ အဲဒါမျိုးကိုလည်း ဝတ္တရားအရ ဖော်ပြရသည်ပေါ့။

သို့သော်၊

'စစ်ကြီး ပြီးဆုံးပြီ' ဆိုတာကိုတော့ အားရပါးရ ပျော်ရွှင်မြူးတူးနေကြမည့် စစ်သည်များ အရပ်သူအရပ်သားတို့၏ ရုပ်ပုံများနှင့်တကွ ဝေဆာစွာ ဖော်ပြဆလိမ့်မည်။

အဲဒါက၊

သတင်းသမားသည် စာဖတ်သူတို့အား သတင်းအချက်အလက် ပေးချင်သည်၊ သို့သော် ကောင်းသော သတင်းအချက်အလက်တွေကို ပို၍ တက်ကြွရွှင်လန်းစွာ ပေးချင်သည်ဆိုတာ ဖော်ပြလိုခြင်း ဖြစ်သည်။



ဘာကြောင့် သည်ကိစ္စကို ရှည်လျားစွာ အစချီနေသနည်း။

မြန်မာစာနယ်ဇင်းသမားတွေမှာ ယခုတလော သတင်းတွေ များပြားနေသောကြောင့် ဖြစ်သည်။

အရင်တုန်းက အစိုးရ ပွဲကြီးလမ်းကြီးများကို တက်ခွင့်ရခဲ့လှသော သတင်းသမားတွေ၊ အထူးသဖြင့် ယခုအခါ စတုတ္ထမဏ္ဍိုင်ဟု သိမှတ်ခေါ်ဝေါ်ခြင်း ခံလာရသော ပြည်တွင်း သတင်းဂျာနယ်သမားတွေ နေပြည်တော်နှင့် ရန်ကုန်မှာ သတင်းပွဲတွေ နိုင်အောင် တက်ဖို့ မလွယ်သလို ဖြစ်နေသည်။

အကြောင်းက အရင်တုန်းက လျှို့လျှို့ဝှက်ဝှက် လုပ်ကြသည့် အလုပ်အတော်များများပင် ပြည်သူကြားသို့ ဆင်းချလာနေသောကြောင့် ဖြစ်သည်။ တစ်ဖက်တွင် စာနယ်ဇင်းတို့၏ ဖော်ပြခွင့် နယ်ပယ်ကလည်း ကျယ်ဝန်းလာနေသည်။

အပတ်စဉ်ထုတ် ဂျာနယ်၏ စွမ်းအားနှင့် လိုက်မမီ၊ နေ့စဉ်ထုတ် သတင်းစာများနှင့်မှ အလျင်မီအောင် ဆောင်ရွက်နိုင်မည့်သဘော ဖြစ်နေသည်။

များပြားလာနေသော အဲသည် သတင်းများထဲမှာ အများပြည်သူအတွက် သတင်းကောင်း ဘယ်လောက်ပါသနည်း။ အများပြည်သူတွေ၏ အထင်အမြင်က ဘယ်သို့ရှိကြသနည်း။

ပတ်ဝန်းကျင်မှာ အကဲခတ်၍ ရသမျှကတော့၊

ယခင်က ကောင်းလိမ့်မည်ဟု မမျှော်လင့်ခဲ့သူ အတော်များများ အကောင်းတွေ ဖြစ်လာနိုင်သည်ဟု မျှော်လင့်လာကြတာ တွေ့ရသည်။

သို့သော်၊ အတော်များများပင်၊ ကောင်းပြီ၊ ကောင်းမှာ သေချာပြီဟု စိတ်တုံးတုံးချ မမျှော်လင့်ရဲ။ အသက်အောင့်ပြီး စောင့်နေကြတာတွေ ရှိသေးသည်။

ဟိုဟာဖြစ်လာမလား၊...

သည်ဟာကော၊...

ပြီးလျှင်...၊

အဲဒါတွေ မြင်လာရပြီဆိုလျှင်တော့ ပြည့်ပြည့်ဝဝ သေချာကြတော့မည်။

လောလောဆယ်တော့ မျှော်လင့်ခြင်းနှင့် စိတ်မချမသေချာနိုင်သေးခြင်း ကြားမှာ ရင်တမမ ဖြစ်နေကြသည်။

သည်ကြားထဲမှာ အသက်ပင် ကောင်းကောင်း မရှူနိုင်။

အသက်ဝအောင် မရှူနိုင်သဖြင့် သူများထက် မောနေကြသူများထဲတွင် ဟိုခြံဝ သည်ခြံဝ၊ ဟိုဂိတ် သည်ဂိတ်များမှာ တိုးဝှေ့ စောင့်ဆိုင်းရသည့် စာနယ်ဇင်းသမားတွေ ထိပ်ဆုံးက ဖြစ်သည်။

စာနယ်ဇင်းသမားသည် သတင်းကောင်းတွေ ပေးလိုလှပြီ။

'စစ်ကြီး ပြီးပြီ'၊ ဆောရီး၊ 'တိုင်းပြည်ကြီး ကောင်းပြီ' ဟူသောသတင်းကို အော်ဟစ် ကြွေးကြော် ပြောဆိုနိုင်မည့် အခါသမယကို ခြေဖျားထောက် စောင့်မျှော်လျက်ရှိကြောင်း အစီရင်ခံလိုပါသည်။

[ ၂ စက်တင်ဘာ ၂၀၁၁ ]

# ဒီမိုကရေစီနှင့် လူ့အခွင့်အရေး

ယခုအခါ၌ မြန်မာနိုင်ငံတွင် ဒီမိုကရေစီ ဆိုသော စကားလုံးကို အစိုးရပိုင်းရော အများပြည်သူတို့အကြားတွင်ပါ တွင်တွင်ကျယ်ကျယ် သုံးစွဲလာနေတာ တွေ့ရသည်။

နိုင်ငံရေးနှင့် စပ်လျဉ်းသည့် စကားမျိုး ပြောဆိုသည့်အခါ ရှေ့ကြည့် နောက်ကြည့် ဟူသည့် သတိအနေအထားမျိုးဖြင့် ပြောဆိုကြခြင်းမျိုးလည်း လျော့ပါးလာတာ သတိပြုမိသည်။

ကြောက်ရွံ့မှု ကြီးစိုးသော အနေအထား ပျက်ပြယ်သွားရန်အတွက် အခြေအနေနှင့် အချိန်ကာလ တစ်စုံတစ်ရာ လိုအပ်ဦးမည် ဖြစ်သော်လည်း ပြောသင့်ဆိုသင့်သော နိုင်ငံရေးစကားတို့ကို ဝ္ဝမြွေ့ရဲစွာ ပြောဆိုမှုများကိုကား မြင်တွေ့လာနေကြရပြီ ဖြစ်သည်။

ချုပ်ပြောသော်၊

ဒီမိုကရေစီ ဝန်းကျင်တစ်ရပ် စတင်ဖြစ်ပေါ် တည်ရှိလာနေသော သဘော ဖြစ်သည်။

ယခု စက်တင်ဘာ ၁၅ ရက်တွင် အပြည်ပြည်ဆိုင်ရာ ဒီမိုကရေစီနေ့ အခမ်းအနားတစ်ရပ်ကို နိုင်ငံတော်အစိုးရက ကြီးမှူး၍ ကျင်းပရန် စီစဉ်လျက် ရှိရာ၊ မြန်မာနိုင်ငံ၌ ဒီမိုကရေစီ တည်ရှိမှုသည် ပို၍ တရားဝင်လာ ခိုင်မာလာမည် ဖြစ်သည်။

ဒီမိုကရေစီနှင့်အတူ အခြေခံ လူ့အခွင့်အရေးများကို အများပြည်သူတို့ ပို၍ ပြည့်ဝစွာ ခံစားခွင့်ရလာမည် ဖြစ်သကဲ့သို့ တရားဥပဒေ၏ ကာကွယ် စောင့်ရှောက်မှု အောက်၌ မိမိအကျိုး၊ အများသူငါအကျိုး၊ တိုင်းပြည်အကျိုး တို့အတွက် ကိုယ်စွမ်းဉာဏ်စွမ်း ရှိသမျှ လွတ်လပ်စွာ အားထုတ်လုပ်ကိုင်ခွင့် များလည်း ရရှိလာကြမည်ဟု မျှော်လင့်ရသည်။

လူ့အခွင့်အရေးနှင့် ပတ်သက်၍၊ စက်တင်ဘာလ ၅ ရက်နေ့က 'မြန်မာနိုင်ငံ အမျိုးသား လူ့အခွင့်အရေး ကော်မရှင်'ကို ဖွဲ့စည်းလိုက်ကြောင်း အစိုးရက ထုတ်ပြန် ကြေညာပြီး ၎င်းကော်မရှင်သည် ဖွဲ့စည်းပုံ အခြေခံ ဥပဒေပါ နိုင်ငံသားများ၏ မူလအခွင့်အရေးများကို မြှင့်တင်ရေးနှင့် ကာကွယ်ရေး တို့ကို ဆောင်ရွက်ရန်အတွက် ဖြစ်ကြောင်း ဖော်ပြထားရာ၊ သည်ကဏ္ဍအတွက် အသစ်ဖြစ်ပေါ်မှုတစ်ရပ် ဟုဆိုနိုင်သည်။

အမျိုးသား လူ့အခွင့်အရေး ကော်မရှင်အနေနှင့် မည်သည့်အချိန်တွင် လုပ်ငန်းများ စတင်၍၊ မည်သို့မည်ပုံ ဆောင်ရွက်ကြမည်၊ မည်သည့် အတိုင်းအတာထိ တီထွင်ကြံဆ လုပ်ကိုင်ကြလိမ့်မည် ဟူသည်ကို မသိနိုင်သေး သော်လည်း၊ သည်ကော်မရှင်သာ ထိရောက်စွာ လုပ်ကိုင် ဆောင်ရွက်နိုင်မည် ဆိုက မြန်မာနိုင်ငံတွင် ဒီမိုကရေစီ အလေ့အကျင့်များ ထွန်းကားရေးအတွက် များစွာ အထောက်အကူပြုမှာ သေချာသည်။

တစ်ဖက်တွင် လွှတ်တော်များ၌ ကဏ္ဍပေါင်းစုံ နယ်မြေဒေသပေါင်းစုံတို့မှ အခြေအနေ အရပ်ရပ်တို့နှင့် စပ်လျဉ်း၍ မေးမြန်းခြင်း၊ အဆိုတင်သွင်းခြင်း၊ ဆွေးနွေးခြင်း၊ ဥပဒေကြမ်း တင်သွင်းခြင်း စသည်များကို လုပ်ကိုင်လျက်ရှိပြီး၊ အပြန်အလှန် ပြောဆိုချက်များကို အစိုးရမီဒီယာများနှင့် ပုဂ္ဂလိက စာနယ်ဇင်း များတွင် ဖော်ပြလျက်ရှိရာ၊ နိုင်ငံရေးရာနှင့် စပ်လျဉ်း၍ တရားဝင် ဆွေးနွေးမှု နယ်ပယ် ကျယ်ဝန်းလာသော သဘော ဖြစ်သည်။

သို့သော်၊ သည်မျှနှင့် မလုံလောက်သေးပေ။

နိုင်ငံ့အရေး ဆွေးနွေးမှုတို့ကို စာနယ်ဇင်းစာမျက်နှာများပေါ်တွင် မီဒီယာ သမားများ၊ ကျွမ်းကျင်သူပညာရှင်များ၊ သက်ဆိုင်ရာကဏ္ဍအလိုက် စိတ်ဝင်စားသူ အလေးထားသူများ တက်ကြွစွာ ပါဝင်ဆောင်ရွက်လာကြမည်၊ အများပြည်သူတို့ ကလည်း အခြေခံ လူ့အခွင့်အရေးများကို ခံစားသုံးစွဲကာ၊ မိမိတို့အယူအဆ မိမိတို့ခံစားချက် မိမိတို့လိုလားချက်များကို လွတ်လပ်ပွင့်လင်းစွာ ပြောဆိုလာ ကြမည် ဆိုလျှင်မူ၊ တိုင်းပြည်ကိစ္စတွင် လူအများစုတို့၏ သဘောဆန္ဒစုံ ပါဝင်သည့် ဒီမိုကရေစီသဘော ပို၍ ဖြစ်ထွန်းလာပေမည်။

သို့သော်၊ ဤနေရာ၌ အရေးကြီးသော လိုအပ်ချက်တစ်ရပ် ရှိသည်။ အဲဒါက ဒီမိုကရေစီစနစ်၏ သဘော၊ အထူးသဖြင့် ဒီမိုကရေစီ၏ ကိုယ်ထူးကိုယ်ထ သဘောကို လူအများ သိမြင်ကြရေး ဖြစ်သည်။

ကုလသမဂ္ဂက ကြီးမှူး၍၊ နှစ်စဉ် နိုင်ငံတကာ၌ စက်တင်ဘာ ၁၅ ရက်နေ့ များတွင် အပြည်ပြည်ဆိုင်ရာ ဒီမိုကရေစီနေ့ အခမ်းအနားများ ကျင်းပကြသော ဟောပြောပွဲ ဆွေးနွေးပွဲ စသည်များ ပြုလုပ်ခြင်းသည် အဲသည် ဒီမိုကရေစီ အသိအမြင်များ လူအများကြားတွင် ပြန့်ပွားစေရေးအတွက်ဖြင့် ဖြစ်သည်။ အများပြည်သူတို့အနေဖြင့်၊

- ဒီမိုကရေစီ ဟူသည် အများပြည်သူတို့ အုပ်စိုးသော စနစ် ဖြစ်သည်။ 'ဒီမိုကရေစီ နိုင်ငံတွင် ပြည်သူသည် အချုပ်အခြာအာဏာပိုင် ဖြစ်၍

လွှတ်တော်များ၊ အစိုးရများသည် ပြည်သူတို့ကိုယ်စား တာဝန် ထမ်းဆောင်ရခြင်း ဖြစ်သည်။

- ကိုယ်စားလှယ်များ ခန့်အပ်ထားသည် ဆိုသည့်တိုင်၊ ပြည်သူသည် မိမိ စိတ်ဝင်စားသော တိုင်းပြည်ရေးရာတို့၌ ကိုယ်စားလှယ်များမှ တစ်ဆင့် သာမက မိမိကိုယ်တိုင်အနေနှင့်ပါ စည်းရုံး ဆော်သြ လုပ်ဆောင်ခွင့် ရှိသည်။
- ဒီမိုကရေစီနိုင်ငံတွင် လွတ်လပ်၍ တရားမျှတသော ရွေးကောက်ပွဲများကို သတ်မှတ်ထားသော သက်တမ်းကာလအလျောက် ပုံမှန် ကျင်းပရမည်။ ၎င်း၌ ပြည်သူတို့ ပါဝင်ရွေးချယ်ခံခွင့်၊ ထောက်ခံဆန္ဒမဲပေးခွင့် စည်းရုံး ဆော်သြခွင့်များ ရှိသည်။
- ထိုရွေးကောက်ပွဲများတွင် အများစု အနိုင်ရသူတို့သည် သတ်မှတ်ကာလ တစ်ခု အတွက် တိုင်းပြည်ကို စီမံခန့်ခွဲခွင့် အာဏာရရှိကြတာ မှန်သော်လည်း ၎င်းတို့၏ ဆောင်ရွက်မှုများသည် တရားဥပဒေအတိုင်းသာ ဖြစ်ရသည်။ ၎င်းတို့၌ အာဏာမရှိသူ လူနည်းစုများနှင့် လူတစ်ဦးချင်းတို့၏ မူလ ရပိုင်ခွင့်များကို ထိပါးခွင့် မရှိ။
- ဒီမိုကရေစီစနစ် ဟူသည် ပြည်သူတို့၏ အခြေခံလူ့အခွင့်အရေးများနှင့် အပြန်အလှန် ချိတ်တွယ်လျက်ရှိသည်။ လူ့အခွင့်အရေးများ မရှိဘဲ ဒီမိုကရေစီ မရှိနိုင်သကဲ့သို့၊ ဒီမိုကရေစီ တည်တံ့လိုလျှင်လည်း လူ့အခွင့် အရေးများအား ထိန်းသိမ်းကာကွယ်မှုကို အရေးကြီးဆုံး တာဝန်အဖြစ် ဆောင်ရွက်ရသည်။
- လူ့အခွင့်အရေးများကို လေးစားတန်ဖိုးထားခြင်းနှင့်အတူ၊ ဒီမိုကရေစီ လူ့အဖွဲ့ ၏အစည်းများသည်၊ အယူအဆ မတူသူများကို သည်းခံသော အလေ့ ရှိကြသည်။ မိမိ အယူအဆကို အလေးထားသကဲ့သို့ သူတစ်ပါး မှာလည်း သူ့အယူအဆနှင့်သူ ရှိနိုင်သည်ကို သိမှတ်လက်ခံကြသည်။ အယူအဆ မတူသူတို့သည် တူညီရာတို့၌ ပူးပေါင်းဆောင်ရွက်ကြပြီး ကိစ္စရပ်တစ်ခုနှင့် စပ်လျဉ်း၍ မတူသော အယူအဆများ အပြိုင်ဖြစ်လာ သည့်အခါများတွင်လည်း၊ တစ်ဖက်နှင့်တစ်ဖက် အပေးအယူ အလျှော့ အတင်းပြုခြင်းဖြင့် ပဋိပက္ခမပွားအောင် ထိန်းသိမ်းကြရ၊ ထိုအကြောင်း ကြောင့်ပင် ဒီမိုကရေစီ လူ့အဖွဲ့အစည်းများ၌ ငြိမ်းချမ်းမှုနှင့်အတူ ဖွံ့ဖြိုး တိုးတက်မှုတို့လည်း ဒွန်တွဲ တည်ရှိကြခြင်း ဖြစ်သည်။

- ဒီမိုကရေစီနိုင်ငံတွင် ပြည်သူများ၌ အခြေခံအခွင့်အရေးများသာ ရှိသည် မဟုတ်၊ တာဝန်များလည်း ရှိကြသည်။ ယင်းအနက် အဓိကတစ်ရပ်မှာ နိုင်ငံ့အရေးကိစ္စတို့တွင် တတ်စွမ်းသမျှ ပါဝင်ဆောင်ရွက်ခြင်း ဖြစ်သည်။ နိုင်ငံရေးရာကို မျက်ခြည်မပြတ် ကြည့်ကာ၊ လိုအပ်လျှင် ပါဝင်ခြင်း အားဖြင့်သာ မိမိတို့၏ ရပိုင်ခွင့်နှင့် လွတ်လပ်ခွင့်များ မဆုံးရှုံးရအောင် ထိန်းသိမ်းကာကွယ်နိုင်မည် ဖြစ်သည်။

စသည်၊ စသည့် ဒီမိုကရေစီ၏ အခြေခံ သဘောသဘာဝများကို နားလည် သဘောပေါက်ကာ၊ မိမိအကျိုးအတွက် မိမိဘက်က ဆောင်ရွက်ရမည့် တာဝန်များကို ကျေပွန်စွာ ဆောင်ရွက်မှသာ ကာလအပိုင်းအခြား တစ်ခုချင်း အတွက် သူတစ်ပါးတို့အား လွှဲအပ်ပေးထားသည့် အချုပ်အခြာအာဏာကို ပိုင်ရှင်များကိုယ်တိုင်အဖြစ် အတိုင်းအတာတစ်ခုအထိ မိမိတို့ ဆက်လက် ထိန်းချုပ်နိုင်လိမ့်မည်။

အဲသည်အခါမှသာ၊ မိမိတို့ လူ့အဖွဲ့အစည်းအတွင်း ဒီမိုကရေစီ အလေ့ အကျင့်များ ထွန်းကားတည်ရှိကာ၊ ရသင့်ရထိုက်သည့် အခြေခံရပိုင်ခွင့်နှင့် လွတ်လပ်ခွင့်များကိုလည်း ပြည့်ပြည့်ဝဝ ခံစားနိုင်ကြမည် ဖြစ်သည်။

[ ၉ စက်တင်ဘာ ၂၀၁၁ ]

# သိခြင်း မသိခြင်းနှင့် မသိကြောင်း မသိခြင်းများ...၊

ဘစ်ခါတစ်ရံ၊ အမှတ်မထင် လုပ်လိုက်မိသည့် ကိစ္စတစ်ခုမှ မမျှော်လင့်သော ဆိုးကျိုးရလဒ်တွေ ထွက်ပေါ်တာမျိုး ရှိတတ်၏။

ဘစ်ခါတလေတော့လည်း မူလ ရည်ရွယ်ခဲ့တာကတစ်ခု၊ ဖြစ်လာတာက တခြား ဆိုတာမျိုး ကြုံရတတ်၏။

ဒါမျိုးတွေက လူတစ်ဦးချင်းတွေနှင့် သက်ဆိုင်သလို၊ လူအများစုတွေ ဘုံမွှကို လုပ်ငန်းကြီးတွေ၊ အစိုးရအဖွဲ့လို နိုင်ငံနှင့်ချီ တာဝန်ရှိသည့် အဖွဲ့ကြီး တွေနှင့်လည်း သက်ဆိုင်၏။

၁၉၂၀ ကျော် နှစ်များအတွင်းက အမေရိကန်ပြည်တွင် အရက်သေစာ ထုတ်လုပ်မှု၊ သယ်ဆောင်မှု၊ ရောင်းဝယ်ဖောက်ကားမှုတို့ကို အစိုးရက ဥပဒေပြဌာန်း ပိတ်ပင်တားမြစ်ခဲ့ဖူး၏။ အရက်ဆိုတာသည် ဘာသာရေးအရ မကောင်းသကဲ့သို့ ကျန်းမာရေးအရလည်း မကောင်း၊ လူမှုရေးအရ စီးပွားရေးအရလည်း မကောင်း ထို့ကြောင့် ဒါကို ပိတ်တာသည် ရည်ရွယ်ချက်ကောင်းနှင့် လုပ်ခြင်း ဖြစ်သည်ဟု ဆိုစရာ ဖြစ်၏။

သို့သော်၊ အဲသည် ပိတ်ပင်မှု မအောင်မြင်ခဲ့။ အကြောင်းက၊ နဂိုအတိုင်း ထားတာထက် အများကြီးဆိုးသည့် ပြဿနာတွေ မထင်မှတ်ဘဲ ပေါ်ထွက် လာခြင်းကြောင့် ဖြစ်၏။

အရက်ကို စေတနာကောင်းနှင့် ပိတ်တာမှန်သော်လည်း ပိတ်ပင်မှုကို မနှစ်သက် မလိုလားသူ အများအပြား ရှိနေသည်။ သည်လူတွေထဲမှာ တချို့က အရက် နည်းနည်းပါးပါး တစ်ခါတစ်ရံ သောက်သုံး၍၊ တချို့က များများစားစား မကြာခဏ သောက်သုံးကြသည်။ စားသုံးသူ ရှိသည့်အခါ ရောင်းဝယ် ဖောက်ကားမည့်သူ ရှိလာသည်။ တရားဝင် မရောင်းဝယ်ရသော် တရားမဝင် ရောင်းဝယ်လာသည်။ ဈေးကွက်က ကြီးသည့်အခါ အရက်မှောင်ခိုဂိုဏ်းကြီးများ ကြီးထွားလာပြီး၊ ရာဇဝတ်မှု ထူပြောကာ တရားရေးသမားများပါ ပျက်စီး လာသည်။

သို့နှင့်၊ နောက်ဆုံးတွင် ကောင်းကျိုးထက် ဆိုးကျိုးပိုနေသော အရက် ပိတ်ပင်တားမြစ်သည့် ဥပဒေကို ပြန်လည် ရုပ်သိမ်းလိုက်ရသည်။

အဲသည်လို ရည်ရွယ်ချက် စေတနာတစ်ရပ်နှင့် မဟုတ်ဘဲ၊ လူတချို့ မိမိဘာသာ ဝါသနာအလျောက် လုပ်သော ကိစ္စတစ်ခုက၊ မထင်မှတ်သော

ဘစ်ရပ်လုံး တစ်ရွာလုံးကို ဒုက္ခပေးသလို ဖြစ်သွားတာမျိုးလည်း ရှိသည်။

ဥပမာ၊ ဩစတြေးလျက ယုန်ကိစ္စ။

ဩစတြေးလျတိုက်သို့ ရွှေ့ပြောင်း အခြေချကြသည့် တချို့အင်္ဂလိပ်တွေက ရေမြေသဘာဝ မတူသည့် နေရာသစ်သို့ ဇာတိရပ်ရွာက သစ်ပင်ပန်းပင်တွေ အိမ်မွေး တိရစ္ဆာန်တွေ သယ်ယူကြသည်။ ဒါတင်မက၊ အမဲပစ် ငှက်ပစ် ဝါသနာပါသူတချို့ကလည်း တောလည်သမားတွေ ကြိုက်သည့် ငှက်တွေ ယုန်တွေပါ ဖမ်းခေါ်လာပြီး နီးစပ်ရာ တောတောင်များထဲ လွှတ်ပေးကြသည်။

အဲသည်မှာ ယုန် ပြဿနာ စသည်။

ယူလာစတုန်းက ကောင်ရေ အနည်းငယ်မျှသာဖြစ်သော ယုန်တွေသည် ဩစတြေးလျ၌ ၎င်းတို့အတွက် အကောင်းဆုံးသော ပတ်ဝန်းကျင် အနေအထားနှင့် တွေ့ရှိကာ ထိန်းမနိုင် သိမ်းမရလောက်အောင် အမြောက်အမြား ပေါက်ဖွားကြသည်။ သည်ယုန်တွေကြောင့် စိုက်ခင်းပျိုးခင်းတွေ မြေယာတွေ ပျက်စီးသည်။ ဒေသခံ တောသတ္တဝါများနှင့် မွေးမြူရေးတိရစ္ဆာန်များအတွက် စားနပ်ရိက္ခာ ဆုံးရှုံးသည်။ ရေမြေတောတောင် အပါအဝင် သဘာဝပတ်ဝန်းကျင် တစ်ခုလုံး ထိခိုက်ပျက်စီးသည်။ ပျက်စီးမှု ပမာဏ ဘယ်လောက် ကြီးမားသည် ဆိုတာ အကျယ်မပြောလိုတော့။

ယုန်နှိမ်နင်းရေးသမားတွေက ယုန်တွေကို ပစ်ခတ်သတ်ဖြတ်ခြင်း၊ ယုန်တွင်း ယုန်သိုက် နေရာများကို မြေတူးစက်နှင့် တူးဖော်ပစ်ခြင်း၊ စသည်တို့ အပါအဝင် နည်းလမ်းမျိုးစုံဖြင့် နှိမ်နင်းသည့်တိုင် တစ်တိုက်လုံးအနှံ့ ပေါင်းကျန်းနေသည့် ယုန်အုပ်များကို မရှင်းလင်းနိုင်သည့်အခါ ယုန်တွေ သေစေနိုင်သည့် ကူးစက်ရောဂါပိုးတွေ ယုန်များအကြား ဖြန့်ပေးသည့် နည်းလမ်းမျိုးပါ အသုံးပြုခဲ့ကြရသည်။ ဒါဆိုလျှင် ဩစတြေးလျ၌ ယုန်ပြဿနာ ကြီးမှု ကြီးကျယ်ခဲ့ကြောင်း သဘောပေါက်နိုင်သည်။

အထက်က ဖြစ်ရပ်မျိုးများအကြောင်းကို စူးစမ်းလေ့လာသည့် [illegible] ပွဲပညာရှင်များကတော့ ပြဿနာဖြစ်ရခြင်း အကြောင်းရင်းများကို ရှာဖွေ ဖော်ထုတ်ကြသည်။ သည်တွင်၊ ၎င်းတို့ တွေ့ရှိသည့် [illegible] မသိခြင်း၊ အတွက်အချက်များခြင်း၊ ကိုယ်သိထားတာ [illegible] ထားတာတွေကို အမှန်ယူခြင်း၊ လက်တလော [illegible] သည်တို့ ဖြစ်ကြောင်း ဆိုသည်။

သည်အထဲမှာ၊ မသိခြင်းဆိုတာက မိမိ လုပ်ကိုင်သည့်[illegible]

အကြောင်းခြင်းရာစုံတို့ကို လုံလောက်စွာ မသိခြင်းကို ဆိုသည်။

သူသည် မသိတာ မဟုတ်။ သိတော့ သိသည်။ သိ၍လည်း လုပ်တာဖြစ်သည်
သို့သော် သိသမျှသည် မပြည့်စုံ။ အဲသည် မပြည့်စုံတာကို မပြည့်စုံမှန်းမသိ
ဒါ အကုန်ပဲဟု ထင်သည်။

အဲသည်တော့ ပြည့်စုံသည်ထင်ပြီး တကယ်မပြည့်စုံသော အသိ
အွက်ချက်လုပ်ကိုင်သည့်အခါ အဆုံးအဖြတ် မှားယွင်းသည်။

ကိုယ်သိထားနှင့်တာတွေကို အမှန်ဟု စွဲလမ်းမှတ်ယူတတ်သည့် လူသ
ကလည်း အခြားနည်းလမ်း၊ အခြားသူ၏ အကြံဉာဏ်တို့ဖြင့် ပြန်လ
စစ်ကြောမှု မပြုဖြစ်အောင် တားဆီးထားတတ်သည်။

တစ်ဖန်၊ လတ်တလော အကျိုးစီးပွားကိုသာ အာရုံစိုက်ကာ ရေရှည်အကျိုး
မချင့်တွက်သည့်အခါ၊ စဉ်းစားလျှင် မြင်နိုင်သော အနာဂတ်ဆိုးကျိုးများ
မမြင်မိတော့။

အဲသည်တော့ သင်ခန်းစာက ရိုးရိုးလေးပဲ ဖြစ်သည်။

မလုပ်ခင် သေသေချာချာ စဉ်းစား၊ ကိုယ်လုပ်မည့်ကိစ္စနှင့် ပတ်သက်သ
စေ့စုံစွာ ရှာစမ်းလေ့လာပြီးမှလုပ်။ တစ်နည်းပြောသော် သေသေချာ
သိပြီးမှလုပ်။

သို့သော်၊ အဲသည်လို အခြေခံလေးများကို သွားပြောလျှင် အားနာစရာဖြစ်
ပုဂ္ဂိုလ်တွေက အသိလွန်ပြီး လုပ်တာကိုင်တာတွေတော့လည်း ရှိသေးသည်

ဥပမာ – ဆိုပါတော့။

မနေ့တစ်နေ့(၂၀၁၁ ခုနှစ်)က အင်တာဗျူးတစ်ခုတွင် အမေရိက
ကာကွယ်ရေးဝန်ကြီးဟောင်း ရမ်း(စ)ဖဲလ်(ဒ)က အီရတ်မှာ အစုလို
အပြုလိုက် သေစေနိုင်သည့် လက်နက်များ ရှိသည်ဆိုတာ မဟုတ်ကြော
ကြို၍ သိခဲ့လျှင် မိမိတို့ အီရတ်ကို ၂၀၀၃ ခုနှစ်တုန်းက တိုက်ချင်မှ တိုက်
ခဲ့လိမ့်မည် ဟုဆိုသည်။

တိုင်းပြည်တစ်ပြည်ကို ဝင်ရောက် တိုက်ခိုက်မည့် ကိစ္စ။

သည်ဟာနှင့် စပ်လျဉ်း၍ ၎င်းတို့ စုဆောင်းရရှိခဲ့သည့် သတင်းအချက်အလ
များသည် မပြည့်စုံ၊ သို့မဟုတ် မမှန်သော အချက်အလက်တွေ ပါခဲ့သ
အဲသည် မမှန်ကန်သော လွဲချော်သော အချက်အလက်သည် တိုက်ရေ
မတိုက်မည် ဆုံးဖြတ်ရာ၌ အရေးကြီးသော အချက်တစ်ခု ဖြစ်ခဲ့သည်ဟု
ဝန်ခံလိုက်သော သဘော ဖြစ်သည်။

လက်နက်ကိစ္စနှင့် ဆက်စပ်၍ပင် အီရတ်စစ်ပွဲမတိုင်မီ ၂၀၀၂ ခုနှစ်က ပြုလုပ်သည့် သတင်းစာရှင်းလင်းပွဲတစ်ခုတွင် ရမ်း(စ)ဖဲလ်(ဒ)က စကားလုံးတွေ ကစားပြီး ပြောခဲ့တာ တစ်ခုရှိသည်။

အရေးကြီးသော ကိစ္စရပ်တွေ ဆုံးဖြတ်လုပ်ကိုင်နေကြတာ ဖြစ်သော်လည်း ထိုတို့မှာ အဲသည်ကိစ္စတွေနှင့် ပတ်သက်၍ သိမှုမသိမှုဆိုင်ရာ အကန့်အသတ်တွေ ရှိသည့်အကြောင်း ဆင်ခြေတက် သုံးစွဲသည့် စကားလုံးများ ဖြစ်သည်။ အဲဒါတွေက၊

(1) known knowns

(2) known unknowns

(3) unknown unknowns တဲ့။ အဓိပ္ပာယ်က၊

(၁) တချို့ အချက်အလက်တွေကို သိသည်၊ မိမိ(တို့) သိထားကြောင်းလည်း မိမိ(တို့)ဘာသာ သိသည်၊

(၂) တချို့ အချက်အလက်တွေကို မသိ၊ သို့သော် အဲဒါတွေ မသိကြောင်းကိုကား မိမိ(တို့) သိသည်၊

(၃) တချို့ အချက်အလက်တွေကို မသိ၊ သို့သော် အဲဒါတွေ ရှိကြောင်းနှင့် အဲဒါတွေကို မိမိ(တို့) မသိကြောင်း မိမိ(တို့) မသိ၊ ဟူ၍ ဖြစ်သည်။

သူ့စကား အဓိပ္ပာယ်က၊

မသိကြောင်း သိတာတွေ၊ မသိကြောင်း မသိတာတွေ ရှိသည့်အတွက် အဲဒါတွေကိုလည်း ထည့်သွင်းစဉ်းစားကာ တချို့ကိစ္စကို လုပ်ကောင်းလုပ်ရပေမည်ဟု ဆိုလိုရာ ရောက်သကဲ့သို့၊ မသိကြောင်း မသိတာတွေကို ထည့်သွင်း စဉ်းစားမှု မပြုနိုင်ခြင်းကြောင့် တချို့ကိစ္စများမှာ တိမ်းစောင်းလွဲချော်သွားနိုင်သည်ဟု ပြောလိုသော သဘောလည်း ဖြစ်နိုင်သည်။

ရမ်း(စ)ဖဲလ်(ဒ)ကို ဝေဖန်ထောက်ပြသော စိတ်ပိုင်းဆိုင်ရာ ဒဿနဆရာ ဆလာဗိုဇီဇက်ကတော့ known/unknown ကိစ္စမှာ နောက်တစ်မျိုး ရှိသေးသည် ဟုဖြည့်စွက်ပြောဆိုသည်။

အဲဒါက unknown knowns တဲ့။

သိပြီး မေ့ထားသည့်အပိုင်း၊ သို့မဟုတ် မသိချင်ယောင်ဆောင်နေသည့် အပိုင်း။

တချို့ အချက်အလက်များကို သိသည်၊ သို့သော် အဲဒါကို ထည့်သွင်း မစဉ်းစားချင်၊ ဒါကို ထည့်စဉ်းစားလျှင် မိမိ လိုချင်သည့် ဆုံးဖြတ်ချက်မျိုး

ချနိုင်မှာ မဟုတ်။ ထို့ကြောင့် ဆုံးဖြတ်ချက်ချဖို့ စဉ်းစားချင့်ချိန်ရာမှာ အဲသည် အချက်အလက်(တွေ)ကို ချန်လှပ်ထားခဲ့သည်။

ဒါက သိမှုမသိမှု သက်သက်နှင့် မဆိုင်တော့။ စိတ်ဓာတ်ရေးရာ ပြဿနာ ဖြစ်သွားပြီ။

အစွဲများ၊ အာဃာတများ၊ လိုအင်ဆန္ဒများနှင့် ဆိုင်သွားပြီ။

သို့သော်၊ ဒါသည်ပင် လူတို့ ဆုံးဖြတ်ချက် လွဲမှားစေသည့် အရေးကြီးသော အချက်တစ်ရပ်ဖြစ်ကြောင်း ဇီဇက်က ထောက်ပြခဲ့ခြင်း ဖြစ်ပါသည်။

[ ၁၆ စက်တင်ဘာ ၂၀၁၁ ]

## အစိုးရပေါ်လစီနှင့် ပြည်သူ့ဆန္ဒ

အာဏာပိုင်စနစ် သို့မဟုတ် အလုံပိတ်စနစ်များတွင် အစိုးရတို့၏ မူဝါဒများ၊ လုပ်ငန်း အစီအစဉ်များသည် လျှို့ဝှက်ကိစ္စများ ဖြစ်သည်။ တိုင်းပြည်၏ ကံကြမ္မာနှင့်လည်းကောင်း၊ နိုင်ငံသားတို့၏ ဘဝများနှင့်လည်းကောင်း ဆက်စပ်ပတ်သက်နေသည့် အရေးကြီးသော အကြောင်းခြင်းရာများကို အာဏာပိုင်တို့သာ စဉ်းစားကြ၍ ဆုံးဖြတ်လေ့ရှိကြသည်။

အများပြည်သူသည် ၎င်းကိစ္စရပ်များကို သိခွင့်ကြားခွင့် မရှိကြရာ၊ ၎င်းတို့နှင့် စပ်လျဉ်းသည့် မိမိ၏ သဘောဆန္ဒကို ဖော်ထုတ်ပြောဆိုဖို့၊ မိမိ၏ အသိအမြင် ဗဟုသုတများအားဖြင့် ဝေဖန်အကြံပြုဖို့ စသည်တို့မှာ မဖြစ်နိုင်သော အရာများ ဖြစ်သည်။

ထို့ကြောင့်၊ ထိုစနစ်များတွင် တိုင်းပြည်နှင့် နိုင်ငံသားတို့၏ ဘဝကံကြမ္မာများသည် အာဏာပိုင်သူ လူတစ်စုက ၎င်းတို့ အသိဉာဏ် ၎င်းတို့ အလိုဆန္ဒများအားဖြင့် စီမံဖန်တီးသည့်အတိုင်းသာ ဖြစ်ကြရပြီး၊ ရလဒ်ကား ကြီးမားသော ဆိုးကျိုးများသာ ဖြစ်လေ့ရှိသည်။

ပြည်သူတို့ ရွေးကောက်တင်မြှောက်သော ပြည်သူ့ကိုယ်စားလှယ်များက တိုင်းပြည်ရေးရာကို စီမံဆောင်ရွက်သည့် ဒီမိုကရေစီ နိုင်ငံများတွင်မူ အစိုးရပေါ်လစီတို့သည် ပြည်သူ့ဆန္ဒကို အနီးစပ်ဆုံး ထင်ဟပ်သော သဘော ရှိသည်။

ပေါ်လစီဆိုရာ၌၊ ပညာရေးပေါ်လစီ၊ ကျန်းမာရေးပေါ်လစီ၊ စီးပွားရေးပေါ်လစီ၊ ငွေကြေးပေါ်လစီ၊ စွမ်းအင်ပေါ်လစီ၊ မြို့ပြပေါ်လစီ၊ အိုးအိမ်ပေါ်လစီ၊ သဘာဝပတ်ဝန်းကျင်ပေါ်လစီ၊ လူဦးရေပေါ်လစီ၊ ပြည်တွင်းရေးပေါ်လစီ၊ နိုင်ငံခြားရေးပေါ်လစီ၊ ပြန်ကြားရေးပေါ်လစီ၊ လုံခြုံရေးပေါ်လစီ၊ ကာကွယ်ရေးပေါ်လစီ — သည့် စသည့် တိုင်းပြည်နှင့် သက်ဆိုင်သည့် ကဏ္ဍပေါင်းစုံက ပေါ်လစီ အရပ်ရပ်ကို ဆိုလိုသည်။

အကြောင်းက၊ သည်ဟာတွေ အားလုံးသည် ပြည်သူ့အရေးကိစ္စများဖြစ်ရာ ပြည်သူ့သဘောတွေ ပါဝင်ဖို့ လိုအပ်သောကြောင့် ဖြစ်သည်။

ယနေ့ကာလတွင် ပြည်သူတို့အနေဖြင့် မြန်မာနိုင်ငံ၌ ဒီမိုကရေစီအသွင် ကူးပြောင်းမှု အမှန်တကယ် ဖြစ်ပေါ်လာမည် မလာမည်ကို [illegible] ဖြစ်ပေါ်မည်ဆိုလျှင် မည်မျှ လျင်မြန်စွာ ဖြစ်ပေါ်၍ [illegible] သည့်အတိုင်းအတာထိ ဖြစ်ပေါ်မည်ကို လည်းကောင်း [illegible]

နေကြသည်ဖြစ်ရာ လက်တလော တွေ့မြင်ရသည့် နိုင်ငံရေးဖြစ်စဉ်တိုင်း
နိုင်ငံရေးရာတွင် ပါဝင်ပတ်သက်သူတို့၏ အပြုအမူ အပြောအဆိုတိုင်းသည်
ပြည်သူတို့အတွက် အဓိပ္ပာယ် တစ်စုံတစ်ရာ ထွက်သော အရာများချည်း
ဖြစ်နေသည်။

ဦးခဲ့သည့် ရက်သတ္တပတ် ဝန်းကျင်က စာနယ်ဇင်းမီဒီယာများတွင် ယ
အစိုးရလက်ထက်က စတင်ခဲ့သည့် ကြီးမားသော အစိုးရလုပ်ငန်း အစီအစ
တစ်ရပ်ဖြစ်သည့် ဧရာဝတီမြစ်ဆုံစီမံကိန်းနှင့် စပ်လျဉ်း၍ အပြန်အလှ
ငြင်းခုံဝေဖန်မှုများ ထွက်ပေါ်လာရာ လူအများ စိတ်လှုပ်ရှားစွာ စောင့်ကြည့်
ကြသည်။

ဤသည်မှာ အစိုးရမူဝါဒတစ်ရပ်နှင့် စပ်လျဉ်း၍ လူအများကြား ပွင့်လင်း
ဆွေးနွေးဝေဖန်ကြသည့် ပထမဆုံး နမူနာတစ်ရပ် ဖြစ်သကဲ့သို့ ဒီမိုက
လူ့အဖွဲ့အစည်းများတွင် တွေ့မြင်ရလေ့ရှိသည့် မတူကွဲပြားသော အယူအဆ
ယှဉ်ပြိုင်တည်ရှိသော အနေအထားတစ်ရပ်ဟု မှတ်ယူစရာလည်း ဖြစ်သည်

မူဝါဒ ငြင်းခုံမှုသည် ပဋိပက္ခအသွင်ဆောင်သွားလေမည်လားဟု စိုးရိမ်
ဖြစ်ခဲ့ရာက စက်တင်ဘာ ၁၇ ရက်နေ့တွင် အမှတ် (၁) လျှပ်စစ်စွမ်းအ
ဝန်ကြီးဌာနက နေပြည်တော်၌ 'ဧရာဝတီမြစ်ဝှမ်း ရေအားလျှပ်စစ် စီမံကိ
များကြောင့် ဧရာဝတီမြစ်နှင့် သဘာဝပတ်ဝန်းကျင်အပေါ် သက်ရောက်မှုဆိုင်
အလုပ်ရုံဆွေးနွေးပွဲတစ်ရပ် ကျင်းပကာ ပညာရှင်တို့က စာတမ်းများ ဖတ်ကြ
တင်ပြခြင်း၊ ယင်းတို့အပေါ် သုံးသပ်ဆွေးနွေးခြင်းများ ပြုလုပ်ခဲ့ပြီး၊ လွှတ်တော်
သဘောထား အဆုံးအဖြတ်၊ အစိုးရအဖွဲ့၏ မူဝါဒ အဆုံးအဖြတ်များအတိုင်း
ဆက်လက် ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ပြောကြားခဲ့ရာ မြစ်ဆုံစီမံကိန်းနှ
စပ်လျဉ်းသည့် အများသူငါတို့၏ စိုးရိမ်ပူပန်မှုနှင့် စိတ်လှုပ်ရှား ခံစားမှုမျာ
အတန်အသင့် လျော့ပါးသွားစေခဲ့သည် ဟုရှုမြင်သည်။

စင်စစ်၊ လွှတ်တော်၏ သဘောထား၊ ထိုမှတစ်ဆင့် အစိုးရမူဝါ
အဲသည်နောက် လုပ်ငန်းအစီအစဉ်များ ချကာ လက်တွေ့ အကောင်အထည်
ဖော်ခြင်း၊ ဟူသော ဖြစ်စဉ်သည်သာ အလျော်ကန် အသင့်မြတ်ဆုံး ဖြစ်ပါသည်

သည်တွင် မမေ့လျော့စရာ တစ်ခုက လွှတ်တော်သဘောထား ဟူသည်
ရှေ့တွင် ပြည်သူ့ဆန္ဒဆိုတာ ရှိသေးသည် ဟူသောအချက် ဖြစ်သည်။

လွှတ်တော်များသို့ ရောက်ရှိသွားသည့် ပြည်သူ့ကိုယ်စားလှယ်တို့၏
အဓိက တာဝန်သည် ပြည်သူ့ဆန္ဒကို နိုင်ငံ၏ မူဝါဒလမ်းစဉ်များအဖြ

ဖော်ဆောင် ပြဋ္ဌာန်းနိုင်ဖို့ ဖြစ်သည်။

အဲဒါသည် ပြည်သူ့ မျှော်လင့်ချက်လည်း ဖြစ်သည်။

မနေ့တစ်နေ့ကမှ၊ သည်အချက်ကို အတည်ပြုသော စကားများ လွှတ်တော်များဆီက တညီစွာ ထွက်ပေါ်ခဲ့တာ တွေ့ရသည်။

စက်တင်ဘာ ၁၆ ရက်နေ့က နေပြည်တော်ရှိ လွှတ်တော် အဆောက်အအုံ၌ ကျင်းပခဲ့သည့် အပြည်ပြည်ဆိုင်ရာ ဒီမိုကရေစီနေ့ (၂၀၁၁) အထိမ်းအမှတ် အခမ်းအနားတွင် ပြည်ထောင်စုလွှတ်တော် နာယက ဦးခင်အောင်မြင့်နှင့် ပြည်သူ့လွှတ်တော် ဥက္ကဋ္ဌ သူရဦးရွှေမန်းတို့ နှစ်ဦးလုံးက၊

ပြည်သူ့အသံ လွှတ်တော်အသံ

ပြည်သူ့ဆန္ဒ လွှတ်တော်ဆန္ဒ

ပြည်သူတို့ မျှော်လင့်ချက် လွှတ်တော်က ဖော်ဆောင်ရှက်၊ ဟူသည့် လွှတ်တော်တို့၏ ဆောင်ပုဒ်ကို အလေးအနက် ထပ်လောင်း ပြောဆိုသွားပြီး၊

၎င်းတို့၏ မိန့်ခွန်းများတွင် ဦးခင်အောင်မြင့်က၊

- ဒီမိုကရေစီသည် လူသားအားလုံး၏ အခွင့်အရေးအတွက် တည်ဆောက်ထားခြင်း ဖြစ်ပြီး လူတိုင်းက အများ၏ အရေးအရာများကို ပါဝင်ဆောင်ရွက်ခြင်း ဖြစ်ကြောင်း၊
- ပြည်သူ့ကိုယ်စားလှယ်များသည် လွှတ်တော်သို့ ဝင်ရောက်ပြီး ပြည်သူ့ကိုယ်စား ဥပဒေပြုခြင်း၊ အဆိုတင်သွင်းခြင်းနှင့် မေးခွန်း မေးမြန်းခြင်းတို့ဖြင့် ပြည်သူ့ဆန္ဒကို ဖော်ထုတ်မည် ဖြစ်သည့်အပြင်၊ အစိုးရ၏ ဆောင်ရွက်ချက်ကိုလည်း ထိန်းမတ်ပေးမည် ဖြစ်ကြောင်း၊
- လွှတ်တော်ထဲသို့ ရောက်ရှိလာခြင်း မရှိသော နိုင်ငံသားများ၏ အသံတွေ အားလုံးကိုလည်း လွှတ်တော်က တတ်နိုင်သမျှ ထည့်သွင်း စဉ်းစားရမည် ဖြစ်ကြောင်း၊ လွှတ်တော်သည် ပြည်သူ့ဆန္ဒကို ကျယ်ကျယ်ပြန့်ပြန့် လက်ခံစဉ်းစားရမည့် ဒီမိုကရေစီ အဖွဲ့အစည်း ဖြစ်ကြောင်း [illegible] လည်းကောင်း၊

သူရဦးရွှေမန်းက၊

- မြတ်နိုးဖွယ်ကောင်းသည့် ဒီမိုကရေစီ လူ့ဘောင်အစုံ [illegible] ပွင့်လင်းရိုးသားမှုကို အခြေခံ၍ အပြန်အလှန် [illegible] ဆွေးနွေးညှိနှိုင်းကြရာတွင် မိမိဆန္ဒ မိမိ၏သဘောထားကို [illegible] ဖွင့်ပြနိုင်ခြင်း၊ အနည်းစု၏ ဆန္ဒကို အလေးထားပြီး [illegible]

ဆုံးဖြတ်ချက်ကို အားလုံး လိုက်နာကြရခြင်းကြောင့် အတ္တပရ မျှတမှု ရှိခြင်း
မိမိက ဝေဖန် အကြံပြုနိုင်သလို မိမိကိုလည်း ဝေဖန် အကြံပြုမှု
ခံယူခြင်းနှင့် အချင်းချင်း အပြန်အလှန် ထိန်းကျောင်းမှု ရှိကြခြင်း ဟူသည့်
အချက်များကို ခွင့်ပြုထားရှိ လုပ်ဆောင်နေသည်ဟု မှတ်ယူရ
ဖြစ်ကြောင်း၊

- ယနေ့နှင့် အတိတ် မြန်မာနိုင်ငံ၏ သမိုင်းကို မိမိတို့ ပြည်သူများက
ရေးကြရမည် ဖြစ်ကြောင်း၊ ဒီမိုကရေစီစနစ်ကို မိမိတို့ မြန်မာပြည်သူများ
ကျင့်သုံး ဆောင်ရွက်ကြရမည် ဖြစ်ကြောင်း၊ ပြည်သူ့ဆန္ဒ အရေးကြီးကြောင်း
ပြည်သူ့သဘောထား အရေးကြီးကြောင်း၊
- ဒီမိုကရေစီစနစ်သည် အမိန့်ပေးသည့်စနစ်မဟုတ်၊ ဆွေးနွေးတိုင်ပင်ကြ
အများစု၏ ဆုံးဖြတ်ချက်ဖြင့် ဆောင်ရွက်သည့်စနစ် ဖြစ်ကြောင်း
ဆုံးဖြတ်ချက်များက မူဝါဒများ ဖြစ်လာပြီး မူဝါဒများကို တိတိကျကျ
ဆောင်ရွက်ရန်အတွက် လိုအပ်လျှင် ဥပဒေများ ဖြစ်လာရကြောင်း
ထို့ကြောင့် ကောင်းမွန်သော အုပ်ချုပ်မှုစနစ်သည် အမိန့်ပေးစနစ် မဟုတ်
အများစု၏ ဆုံးဖြတ်ချက်၊ မူဝါဒနှင့် ဥပဒေနှင့်အညီ အုပ်ချုပ်သော
စီမံခန့်ခွဲသောစနစ် ဖြစ်သည်၊ ၎င်းသည် ဒီမိုကရေစီစနစ်၏ အနှစ်သာ
ဖြစ်သည်ဟု ဆိုရမည် ဖြစ်ကြောင်း၊ စသဖြင့် လည်းကောင်း၊ ပြောဆိုခဲ့
ဒီမိုကရေစီ အသွင်ကူးပြောင်းရေး အလားအလာများကို အကဲခတ်
စောင့်ကြည့် သူတို့အတွက် အကောင်းဘက် မျှော်လင့်ချက်များ တိုးတက်
စေခဲ့သည်။

ပြည်သူတို့အနေနှင့် ယနေ့ လွှတ်တော်များ၌ တင်ပြ ပြောဆိုကြ ဆွေးနွေး
ဆုံးဖြတ်ကြသည်များထဲတွင်၊ အထက်က ပြောခဲ့သည့် လွှတ်တော်ဆောင်ပုဒ်
လွှတ်တော် အကြီးအကဲတို့၏ ပြောစကားများနှင့် လျော်ညီစွာ၊ ပြည်သူ့ဆန္ဒ
အမှန်တကယ် ထင်ဟပ်သည့်အချက် မည်ရွေ့မည်မျှ ပါသည် မပါသည်
သတိပြု ကြည့်ရှုလျက် ရှိကြသည်။

ပြည်သူတို့ လက်ထဲတွင် ကိုင်ထားသော ပေတံကား အလွန်ရှင်းသည်
အစိုးရပေါ်လစီသည် မိမိတို့ ဆန္ဒများနှင့် တစ်သားတည်းကျပြီဆိုလျှင်
တိုင်းပြည်၌ ဒီမိုကရေစီဖြစ်ထွန်းပြီဟု ဟစ်ကြွေးကြမည် ဖြစ်ပါသည်။

[ ၂၁ စက်တင်ဘာ ၂၀၁၁ ]

# နိုင်ငံရေး အပြောင်းအလဲနှင့် ခေါင်းဆောင်ကောင်း

ယခုအခါ၌ မြန်မာနိုင်ငံသည် နိုင်ငံရေး အပြောင်းအလဲတစ်ရပ်ဆီသို့ ဦးတည် ရွေ့လျားလျက်ရှိပြီဟု လူအများ မျှော်လင့် ယုံကြည်နေကြသည်။

တစ်ဖက်တွင်၊ ပြောင်းလဲမည်ဟု စိတ်တုံးတုံးချ မယုံကြည်နိုင်သဖြင့် သံသယဖြင့် စောင့်ကြည့်နေကြသူများလည်း အများအပြား ရှိနေသည်။

အကြောင်းက၊ အပြောင်းအလဲကို မြန်မာပြည်သူတို့ မျှော်လင့်တောင့်တ ခဲ့တာ နှစ်ကာလကြာပြီ ဖြစ်သကဲ့သို့၊ ရှည်ကြာသော ထိုကာလတစ်လျှောက် မျှော်လင့်ချက်တွေလည်း အကြိမ်ကြိမ် ပျက်ပြယ်ခဲ့သောကြောင့် ဖြစ်သည်။

၁၉၆၂ ခုနှစ်တွင် အာဏာသိမ်းခဲ့သော အစိုးရသည် ၁၂ နှစ် ကြာပြီးနောက် နိုင်ငံတော် အာဏာကို မူလပိုင်ရှင်ဖြစ်သော ပြည်သူများ လက်သို့ ပြန်လည် အပ်နှင်းမည် ဆိုသောအခါ အဓိပ္ပာယ်ကို ကောင်းစွာ နားမလည်ကြသော်လည်း လူအတော်များများက ကောင်းသည်ဟု မြင်ခဲ့ကြသည်။ ၁၉၇၄ တွင် ဖွဲ့စည်းပုံ အခြေခံ ဥပဒေသစ်တစ်ရပ် ပြဋ္ဌာန်းပြီး၊ ၎င်းအရ ပြည်သူ့လွှတ်တော်နှင့် ပြည်သူ့ကောင်စီ အဆင့်ဆင့်ကို ရွေးချယ်ကာ အာဏာများ အပ်နှင်းလိုက်သည့်အခါ ပြည်သူလူထုသည် တစ်ပါတီ အုပ်စိုးမှု လက်အောက်သို့ ကျရောက်သွားသည်။ ဖွဲ့စည်းပုံ အခြေခံဥပဒေနှင့်အညီ အုပ်ချုပ်တာ မှန်သော်လည်း ၁၉၇၄ – ၁၉၈၈ ကာလ အစိုးရသည် အနှစ်သာရသဘောအရ စည်းမျဉ်းခံ အာဏာရှင်စနစ် ဖြစ်သည်ဟု မှတ်ယူကြသည်။

၁၉၈၈ ခုနှစ်တွင် တစ်ပါတီအစိုးရ ရပ်ဆိုင်းသွားပြီးနောက် နိုင်ငံတော် အာဏာရယူခဲ့သည့်အဖွဲ့က ကြီးမှူးကာ ၁၉၉၀ ပြည့်နှစ်တွင် ပါတီစုံ အထွေထွေ ရွေးကောက်ပွဲတစ်ရပ် ကျင်းပပေးခဲ့သည်။ ရွေးကောက်ပွဲကြီး အောင်မြင်စွာ ပြီးစီးခဲ့သော်လည်း ၎င်းမှနေ၍ အစိုးရ အပြောင်းအလဲနှင့် နိုင်ငံရေးစနစ် အပြောင်းအလဲများ မဖြစ်ပေါ်ခဲ့။

ထို့ကြောင့်၊ ၂၀၀၈ ခုနှစ်တွင် ဖွဲ့စည်းပုံအခြေခံ ဥပဒေတစ်ရပ် အတည်ပြုပြဋ္ဌာန်းပြီး၊ ယင်းကို အခြေပြုသည့် ပါတီစုံ ရွေးကောက်ပွဲများ ၂၀၁၀ တွင် ကျင်းပပြန်သည့်အခါ ၁၉၇၄၊ ၁၉၉၀ အတွေ့အကြုံများရှိ လူအများ စိုးရိမ်မကင်း ဖြစ်ခဲ့ကြသည်။ ဖွဲ့စည်းပုံပါ တပ်မတော်၏ အခန်းကဏ္ဍ များကို ကြည့်၍လည်း စဉ်းစားဝေဖန်မှုများ ရှိခဲ့သည်။

သို့သော် ရွေးကောက်ပွဲပြီး၊ လွှတ်တော်များ အစိုးရများပေါ်လာပြီး အသီးသီး လုပ်ရှားဆောင်ရွက်ကြသည့်အခါ အုပ်ချုပ်ရေးဥပဒေပြုရေး တရား စီရင်ရေးဟူသော အာဏာမဏ္ဍိုင်သုံးရပ်၊ ထို့နောက် တပ်မတော်၊ ထို့နောက် ဗဟိုနှင့် ပြည်နယ်များ တိုင်းဒေသကြီးများ၊ စသည်တို့အရ အာဏာသည် တစ်ဦးတစ်ယောက်တည်း လက်မှာ မဟုတ်ဘဲ၊ ပျံ့နှံ့ကွဲပြားတည်ရှိနေတာ တွေ့ကြရသည်။

ဒါက အုပ်စိုးခံတို့အတွက် စိတ်သက်သာစရာ တစ်ခု ဖြစ်သည်။

သို့သော်၊ အာဏာတို့မည်သည် စနစ်တကျ ပုံစံချ၍ ခွဲခြားထားပါသည် ဆိုသည့်တိုင် ကာလရွေ့လျောသော် အခြေအနေအရပ်ရပ်ကို အကြောင်းပြုကာ တစ်ဦးတစ်ယောက်၏ လက်တွင် စုစည်းမိသွားတာမျိုး ရှိတတ်သည်။ အနည်းငယ် ကြမ်းသွားနိုင်သော်လည်း ထင်ရှားသော ဥပမာကို ပြလျှင် ဂျာမနီတွင် ပါလီမန်စနစ် လုပ်ထုံးလုပ်နည်းများထဲက ဝန်ကြီးချုပ်ဖြစ်လာသော ဟစ်တလာသည် ရွေးကောက်ပွဲများ၊ လွှတ်တော်၌ ဥပဒေ ပြဋ္ဌာန်းပိုင်ခွင့်များကို မသမာသော နည်းလမ်းမျိုးစုံဖြင့် အသုံးချရင်း အတိုက်အခံ ပါတီများ အလုပ်သမားသမဂ္ဂများကို ဖြိုဖျက်ကာ နောက်ဆုံးတွင် ကမ္ဘာ့သမိုင်းတစ်လျှောက် အဆိုးရွား အကြမ်းကြုတ်ဆုံး အာဏာရှင်အဖြစ်သို့ ပြောင်းလဲသွားခြင်းမျိုး ဖြစ်သည်။

ထို့ကြောင့်လည်း ဒီမိုကရေစီ သဘောတရားဆရာတို့က တိုင်းပြည် တစ်ပြည်တွင် ဒီမိုကရေစီစနစ် အခြေကျရန်နှင့် ရေရှည်တည်တံ့ရန်အတွက် ဒီမိုကရေစီ အဆောက်အအုံတို့ အားကောင်းခိုင်မာဖို့လိုကြောင်း ပြောဆိုကြခြင်း ဖြစ်သည်။ အဲဒါမှသာ ဒီမိုကရေစီနှင့် ဆန့်ကျင်သော အမူအကျင့်၊ အာဏာရှင် စနစ်သို့ ရေးရှုစေမည့် အမူအကျင့်များကို ထိန်းချုပ်ဟန့်တားနိုင်ကြမည်ဟု ဆိုလိုသော သဘောလည်း ဖြစ်ပါသည်။

ယခုအခါ၌ ဒီမိုကရေစီ အဆောက်အအုံတစ်ရပ်ဖြစ်သည့် လွှတ်တော်များတွင် ပြည်သူ့ကိုယ်စားလှယ်တို့၊ ယခင် အစဉ်အလာများအရ အများပြည်သူတို့ ထင်မြင်ထားခဲ့သည်များထက် များစွာ ပို၍ တက်ကြွစွာ လှုပ်ရှား ဆောင်ရွက် နေနိုင်ကြသည်ကို မြင်တွေ့ရရာ စိုးရိမ်ပူပန်မှုများ အတန်အသင့် လျော့ပါးခဲ့သည် ဟုဆိုနိုင်သည်။

တစ်ဖက်တွင်၊ နိုင်ငံတော် သမ္မတအနေနှင့် ဒီမိုကရေစီ မိန့်ခွန်းများ အများ ယုံကြည်လောက်အောင် ဆက်တိုက် ပြောခဲ့ရုံမက ရောဝတီ မြစ်ဆုံရေကာတာ

ဆိုရာတွင် အများပြည်သူ့ဆန္ဒကို အလေးထားကာ ရဲဝံ့စွာ ဆုံးဖြတ်ချက် ချခဲ့ခြင်းကလည်း လက်ရှိပုဂ္ဂိုလ်တို့တွင် အပြောင်းအလဲဖြစ်အောင် ဆောင်ရွက် နိုင်သော ရည်ရွယ်ချက် တကယ်ရှိသည်ဟု ယုံကြည်မှု တိုးတက်စေခဲ့သည်။

စင်စစ်၊ နိုင်ငံတော် သမ္မတနှင့် လွှတ်တော်ဥက္ကဋ္ဌများ အပါအဝင် ပုဂ္ဂိုလ်ကြီးများအနေနှင့် တပ်မတော်သားများ ဖြစ်ခဲ့ပြီး၊ တစ်ပါတီစနစ် အာဏာပိုင်စနစ်များနှင့် ကျင့်သားရခဲ့ကြသူများဖြစ်ရာ ၎င်းတို့၌ ဒီမိုကရေစီ စိတ်ဓာတ်နှင့် အယူအဆများ မည်သို့မည်ပုံ ကိန်းအောင်းကာ ဒီမိုကရေစီ ထောက်တော်သားများ ဖြစ်လာကြသနည်း ဟူသည်ပင်၊ နိုင်ငံရေးသိပ္ပံသမားတို့ သုတေသနပြုသင့်သည့် စိတ်ဝင်စားဖွယ် အချက်တစ်ရပ် ဟုဆိုချင်သည်။

သို့သော် သမိုင်းကြောင်းတွေထဲ၌မူ အကြောင်းကြောင်းတွေကြောင့် အာဏာလက်ငုတ်နှင့်ပင် စနစ်ပြောင်းခဲ့ကြသည့် သာဓကတွေရှိပြီး ဖြစ်ပါသည်။

၁၉၈၀ ကျော်နှစ်များအတွင်းက ဆိုဗီယက်ယူနီယံတွင် ထိုစဉ်က နိုင်ငံ အကြီးအကဲ နေရာရရှိထားသူ မစ်ခေးလ်ဂေါ်ဘာချော့ဗ်က နိုင်ငံ၏ နိုင်ငံရေး စီးပွားရေးစနစ်များကို ပြုပြင်ပြောင်းလဲရန် ကြိုးပမ်းခဲ့သည်။ ရည်ရွယ်ချက်က တစ်ပါတီစနစ်အောက်တွင် ယိုယွင်းပျက်ပြားကာ တစ်နေ့တခြား ချွတ်ချုံ ကျလာနေသည့် သူ့တိုင်းပြည်ကို ပြန်လည် ထူမတ်ရန်အတွက် ဖြစ်သည်။ ပါတီခေါင်းဆောင်ပိုင်းနှင့် အစိုးရပိုင်း၌ ကိုယ်ကျိုးရှာမှု၊ အဂတိလိုက်စားမှု၊ အာဏာအလွဲသုံးမှုများ လျော့ပါးသွားအောင် ထိန်းချုပ်နိုင်ရန်အတွက် ပွင့်လင်း မြင်သာသော စနစ်တစ်ခု ချမှတ်နိုင်ဖို့ သူ ကြိုးပမ်းသည်။ ထို့ပြင် မမှန်မကန် လုပ်ဆောင်မှုများကို ဝေဖန်ထောက်ပြနိုင်ရန်အတွက် လွတ်လပ်စွာ ရေးသား ပြောဆိုခွင့်များ မြှင့်တင်ကာ ဆင်ဆာဖြတ်တောက်မှုများ လျှော့ချပေးခဲ့သည်။ တစ်နည်းပြောသော် တစ်ပါတီ အာဏာရှင်နိုင်ငံ၌ ဒီမိုကရေစီစနစ်ကို **အစပျိုး** ပေးခြင်း ဖြစ်သည်။

စနစ်အပြောင်းအလဲ ဖြစ်သွားပြီး စနစ်သစ်ကို အကောင်အထည်**ဖော်ရာ၌** ကိုယ်တိုင် ဦးဆောင် ပါဝင်နိုင်ခဲ့ခြင်း မရှိသဖြင့် ပုဂ္ဂိုလ်ရေးအရ **အောင်မြင်မှုမရခဲ့ဟု** ဆိုနိုင်သော်လည်း၊ တစ်ဖက်က ကြည့်လျှင်မူ မိမိ နိုင်ငံသားတို့အား **[illegible]** လွတ်မြောက်အောင် လမ်းဖွင့်ပေးနိုင်ခဲ့ခြင်းအတွက် တိုင်းပြည်နှင့် **လူထုကို** ချစ်မြတ်နိုးသော ခေါင်းဆောင်တစ်ဦးအဖြစ် သူ တာဝန်ကျေခဲ့ **အောင်မြင်ခဲ့သည်** ဟုဆိုနိုင်သည်။

တိုင်းပြည် သာယာဝပြောရန်အတွက် ပြုပြင်ပြောင်းလဲရေးများ လုပ်ဆောင်ရာတွင် လိုအပ်သည်ဟု ရှုမြင်က မိမိ ဩဇာအာဏာ လျော့ပါးသွားစေမည့် အစီအစဉ်မျိုးကိုပင် မတွန့်မဆုတ် ချမှတ် လုပ်ဆောင်သွားခဲ့သည့် အခြား ခေါင်းဆောင်ကောင်းများ ရှိပါသေးသည်။

ထင်ရှားသော နမူနာ တစ်ယောက်က ဂျပန်ဘုရင်မေဂျီ ဖြစ်သည်။

မေဂျီသည် ခေတ်နောက်ကျနေသော ဂျပန်ပြည်ကို စက်မှုခေတ်သစ်ဆီသို့ အောင်မြင်စွာ ကူးပြောင်းနိုင်အောင် ပြုပြင်ပြောင်းလဲပေးခဲ့သူ ဖြစ်သည်။ ကမ္ဘာနှင့် အဆက်အသွယ် ဖြတ်ထားသော ဂျပန်ပြည်ကို တံခါးဖွင့်က အနောက်နိုင်ငံများနှင့် ကုန်သွယ်မှုများ အစပြုပေးခဲ့သည်။

သို့သော်၊ တိုင်းပြည် တိုးတက်ဖို့ အဲသည်လောက်နှင့် မပြီး။

ဂျပန် လူ့အဖွဲ့အစည်းထဲမှာ အရိုးစွဲ တည်ရှိနေသည့် ခေတ်မီ တိုးတက်ရေးကို အဟန့်အတားပြုနေသော နိုင်ငံရေး လူမှုရေး စီးပွားရေးဆိုင်ရာ ထုံးစလေ့ အမူအကျင့်နှင့် နည်းစနစ် အများအပြားကို ပယ်ဖျက်ခြင်း ပြင်ဆင်ခြင်း ပြောင်းလဲခြင်းများ ပြုလုပ်ခဲ့ရသည်။

အမျိုးဇာတ်ခွဲခြားသော စနစ်ကို ပြင်ရသည်၊

လယ်ယာမြေစနစ်ကို ပြင်ရသည်၊

ပညာရေးစနစ်ကို ပြင်ရသည်၊

စစ်မှုထမ်းစနစ်ကို ပြင်ရသည်၊

အုပ်ချုပ်ရေးစနစ်ကို ပြင်ရသည်။

သည်ဟာတွေကို ဘုရင်ဧကရာဇ်၏ တန်ခိုးအာဏာဖြင့် သူ လုပ်ခဲ့သည်။

သို့သော် တိုင်းပြည် ခေတ်မီတိုးတက်အောင် အမှန်တကယ် ဆောင်ရွက် နိုင်မည့် ခေတ်မီ တိုးတက်သော အုပ်ချုပ်ရေးစနစ်တစ်ရပ် ဖော်ဆောင်ရန်အတွက် သက်ဦးဆံပိုင် ဘုရင်စနစ်ကို စည်းမျဉ်းခံဘုရင်စနစ်သို့ ပြောင်းလဲရမည်ဟု ရှုမြင်သည့်အခါ မနှောင့်မနှေးပင် ပြောင်းလဲပေးခဲ့သည်။

ပြုပြင်ပြောင်းလဲရေးများ လုပ်သည့်အခါ စနစ်ဟောင်းတွင် အကျိုးခံစားခွင့် ကြီးမားခဲ့သည့် ပုဂ္ဂိုလ်တို့ ဆန့်ကျင်လေ့ရှိသည့် ထုံးစံအတိုင်း မေဂျီသည်လည်း ပြောင်းလဲမှုကို မလိုလားသူတို့၏ အပြင်းအထန် ဆန့်ကျင်မှုကို ခံခဲ့ရသည်။ သို့သော် တိုင်းပြည်အကျိုးအတွက် ဧကရာဇ်အာဏာကိုပင် စွန့်လွှတ်ရဲ ဝန့်မလေးသည့် မေဂျီ၏ စေတနာနှင့် တိုင်းပြည်ချစ်စိတ်ကို နိုင်ငံသားတို့ သိမြင်ကာ သူ့အား လေးစား ချစ်ခင်ကြသည်။

ထို့ပြင်၊ သူ့ဆောင်ရွက်ချက်များ အောင်မြင်သဖြင့်လည်း မေဂျီသည် ဂျပန်ဘုရင်များထဲတွင် နိုင်ငံတကာ၏ သိမှတ်မှု အခံရဆုံး အထင်ရှားဆုံး ဧကရာဇ် ဖြစ်ခဲ့သည်။

ယနေ့ မြန်မာပြည်တွင် အဲသည်လို ပြုပြင်ပြောင်းလဲရေး စိတ်ဓာတ်ပြည့်ဝသည့် ခေါင်းဆောင်ကောင်းများ လိုအပ်နေသည်။

တစ်နည်းပြောသော် ယနေ့အချိန်သည် မြန်မာ့သမိုင်းတွင် ကမ္ဘည်းတင်ရမည့် ခေါင်းဆောင်ကောင်းတို့ ပေါ်ထွန်းရန် အခွင့်အလမ်းများ ပေးနေသော အခါသမယလည်း ဖြစ်သည် ဟုဆိုချင်သည်။

[ ၇ အောက်တိုဘာ ၂၀၁၁ ]

# မီဒီယာဥပဒေ ရေးဆွဲရာ၌ စာနယ်ဇင်းသမားတို့ ပါဝင်ဖို့ လိုသည်

ယနေ့သည်ကား သတင်းဂျာနယ်ခေတ်ဟု ဆိုရလောက်အောင်ပင် အပတ်စဉ်ထုတ် သတင်းစာစောင်တွေ အပြိုင်အဆိုင် ထုတ်ဝေနေသော ခေတ် ဖြစ်သည်။

တစ်နေရာမှာ တစ်စုံတစ်ရာဖြစ်သည် ဆိုတာနှင့် တစ်ပြိုင်နက် သတင်းထောက် ပေါင်းများစွာ၊ ကင်မရာ အသံဖမ်းကိရိယာ များစွာနှင့် အပြေးအလွှား ရောက်ရှိလာကြတာ မြင်တွေ့နေရသည်။

သတင်းသမားတွေ အားကြိုးမာန်တက် ရှိကြသလို၊ သတင်းမီဒီယာများကို စတုတ္ထမဏ္ဍိုင်အဖြစ် အရေးတယူ ပြောဆိုမှုများလည်း ရှိလာနေသည်။ ထို့ပြင် ဒီမိုကရေစီသို့ ကူးပြောင်းမည့်နိုင်ငံ၌ အာဏာမဏ္ဍိုင်သုံးရပ်ကို ထိန်းကျောင်း တည့်မတ်ရန်အတွက် အားကောင်း ခိုင်မာသော စတုတ္ထမဏ္ဍိုင် လိုအပ်ကြောင်း လည်း သက်ဆိုင်သူအများ သိမှတ်လက်ခံထားကြပြီ။

ဤသို့သော ကာလတွင် စာနယ်ဇင်းသမားများ ကိုယ်တိုင်ကလည်း မိမိတို့ မဏ္ဍိုင်ကို အခိုင်အမာ တည်ဆောက်ရန် ဝိုင်းဝန်း ကြိုးပမ်းကြဖို့ အထူး လိုအပ်လျက် ရှိသည် ဟုရှုမြင်သည်။

သည်တွင် စဉ်းစားစရာ နှစ်ချက် ရှိသည်။

တစ်ချက်သည် စာနယ်ဇင်းများ အရည်အသွေး ပြည့်ဝရေးဖြစ်၍ နောက်တစ်ချက်မှာ စာနယ်ဇင်းလွတ်လပ်ခွင့် ပြည့်ပြည့်ဝဝ ရရှိရေး ဖြစ်သည်။

အရည်အသွေး ဟူသည်၌ သတင်းအတတ်ပညာများ ကျွမ်းကျင် တတ်မြောက်ခြင်းနှင့် မိမိ အလုပ်အပေါ် တာဝန်ယူမှုရှိခြင်းတို့ ပါဝင်သည်။ သို့သော် သည်အချက်ကို စာနယ်ဇင်းသမားအများစုတို့ နားလည်သိရှိကြသည် ဖြစ်ရာ ဤနေရာ၌ အကျယ်မပြောလို။

ယခု ပြောချင်သည်က ဒုတိယအချက်ဖြစ်သည့် စာနယ်ဇင်းလွတ်လပ်ခွင့်အပိုင်း ဖြစ်သည်။

စတုတ္ထမဏ္ဍိုင် အားကောင်းခိုင်မာရန်အတွက် စာနယ်ဇင်းတို့ လွတ်လပ်စွာ ရေးသားခွင့်ရှိဖို့ လိုသည်။

စာနယ်ဇင်းများသည် ပြည်သူတို့ သိသင့်သိထိုက်သော သတင်းအချက်အလက် များကို မလစ်လပ်ရအောင် ရှာဖွေ ဖော်ထုတ် တင်ပြနိုင်စွမ်း ရှိရလိမ့်မည်။ သို့မှသာ ပြည်သူတို့ အကြားအမြင် ကျွယ်မည်။ အကြားအမြင် ကျွယ်ကာ

နိုင်ငံ့အရေးတွင် တက်ကြွစွာ ပါဝင်သော ပြည်သူတို့ဖြင့်သာ ဒီမိုကရေစီနိုင်ငံ တည်ဆောက်နိုင်မည်။

တစ်ဖန် စာနယ်ဇင်းများသည် အာဏာမဏ္ဍိုင် သုံးရပ်တို့၏ လုပ်ဆောင်ချက်များနှင့် စပ်လျဉ်းသည့် မိမိတို့၏ အမြင်များကိုလည်းကောင်း၊ အများပြည်သူကြားက အသံဗလံများကိုလည်းကောင်း မပြတ် ရေးသားတင်ပြနိုင်ဖို့ လိုသည်။ သဘောထားအမြင်ကို လွတ်လပ်စွာ ပြောဆိုခြင်း၊ တိမ်းစောင်းချွတ်ချော်သည်ဟု ယူဆရသော အရာများကို ဝေဖန် ထောက်ပြခြင်းတို့ဖြင့်သာ မဏ္ဍိုင်သုံးရပ်ကို ပြည်သူတို့ ကိုယ်စား စောင့်ကြည့် ထိန်းကျောင်းနိုင်လိမ့်မည်။

ထို့ကြောင့် စာနယ်ဇင်းလွတ်လပ်ခွင့် အရေးကြီးကြောင်း ပြောဆိုရခြင်း ဖြစ်သည်။

သို့သော် တစ်ဖက်တွင် လွတ်လပ်ခွင့်ကို စာနယ်ဇင်းသမားတို့ တစ်လွဲသုံးစွဲမှာ စိုးရိမ်ကြခြင်းများလည်း ရှိနေသည်။ ဤသည်မှာလည်း သဘာဝကျပါသည်။ လွတ်လပ်ခွင့်နှင့်အတူ တာဝန်ယူမှုတို့လည်း တွဲဖက် တည်ရှိရပါလိမ့်မည်။

ဤအချက်ကို စာနယ်ဇင်းသမားများလည်း နားလည် သိရှိကြသည်သာ ဖြစ်ပါသည်။ အထက်တွင် စာနယ်ဇင်း အရည်အသွေးအကြောင်း ပြောစဉ်က တာဝန်ယူမှုသည် အရည်အသွေးတစ်ရပ်အဖြစ် ပါဝင်သည်ကို စာနယ်ဇင်းသမားတို့ သိရှိကြကြောင်း ဖော်ပြပြီး ဖြစ်ပါသည်။

ပြဿနာက စာနယ်ဇင်းသမားတို့ တာဝန်ယူမှုနှင့် စဉ်းစားဆင်ခြင်မှုများ လျော့နည်းကြမှာကို စိုးရိမ်၍ တင်းကျပ်သော ဥပဒေများ စည်းမျဉ်းစည်းကမ်းများ ချမှတ်လာနိုင်သည့် ကိစ္စဖြစ်သည်။

လူ့အဖွဲ့အစည်းအတွင်း မည်သူမဆို လွတ်လပ်စွာ လုပ်ပိုင်ခွင့်ထို အလွဲသုံးစားပြုသော် အရေးယူ အပြစ်ပေးခြင်းခံရမည်မှာ တရားနည်းလမ်းကျသော အချက် ဖြစ်သည်။ သို့သော် စာနယ်ဇင်းလွတ်လပ်ခွင့် ဟူသည်ကို အတိကျစွာ တိုင်းတာ ပြောဆိုဖို့ မလွယ်ကူသော ကိစ္စတစ်ရပ် ဖြစ်သည်။ သတင်းများ ထင်မြင်ယူဆချက်များ ရေးသားရာ၌ ဘယ်အရာသည် လွတ်လပ်ခွင့်ကို မှန်ကန်စွာ သုံးစွဲခြင်းဖြစ်၍ ဘယ်အရာက အလွဲသုံးစားပြုခြင်း ဖြစ်သည်ဟု ခွဲခြားဖို့မှာ ပြဿနာ တစ်ခုချင်းအလိုက် ချင့်ချိန်စဉ်းစားရမည့် သဘောရှိသည်။

အကယ်၍ စာနယ်ဇင်းတို့ စည်းမဲ့ကမ်းမဲ့ လွတ်လပ်ခြင်းမျိုး မဖြစ်ရအောင် ထိန်းကွပ်ရန် ရည်ရွယ်၍ ဥပဒေများ စည်းမျဉ်းစည်းကမ်းများ ပြဋ္ဌာန်းထုတ်ပြန်မည်ဆို

ထိုထုတ်ပြန်သည့်အထဲတွင် မည်သည့် ရေးသားချက်မျိုးသည်ကား နိုင်ငံတော်၊ လူ့အဖွဲ့အစည်း၊ လူတစ်စုတစ်ဖွဲ့၊ လုပ်ငန်းတစ်ခု၊ သို့မဟုတ် ပုဂ္ဂိုလ်တစ်ဦးတစ်ယောက်ကို ထိခိုက်နစ်နာစေသည့် စည်းကမ်းမဲ့ ရေးသားမှုမျိုး ဖြစ်သည်၊ အစရှိသည့် ယေဘုယျ သဘောဆောင်သော ခြုံငုံ ဖော်ပြချက်မျိုး ပါရှိခဲ့သော်၊ စာနယ်ဇင်းသမားကို မလှုပ်ရှားမီ ကြိုတင် မီးနီပြ ဟန့်တားသော သဘော သက်ရောက်မည် ဖြစ်သည်။ အကြောင်းက သတင်းတစ်ပုဒ်ချင်းသည် လည်းကောင်း၊ ထင်မြင်ချက် ဆောင်းပါးတစ်ပုဒ်ချင်းသည် လည်းကောင်း မလိုလား မနှစ်သက်သူတို့အတွက် အဆိုပါ ဥပဒေစည်းမျဉ်းများနှင့် အလွယ်တကူ ဆွဲယူချိတ်ဆက်ရန် လမ်းစဖော်ပေးသလို ဖြစ်နေနိုင်သောကြောင့် ဖြစ်သည်။ သမာသမတ်ကျသော တရားသူကြီး၏ အဆုံးအဖြတ်ကြောင့် ပြစ်ဒဏ်မှ ကင်းလွတ်နိုင်သည့်တိုင် သတင်းသမားသည် တရားရုံးဖြင့် ခြိမ်းခြောက်မှု အောက်တွင် မလွတ်မလပ် လုပ်ကိုင်နေရလိမ့်မည်။

ဤသည်က စာနယ်ဇင်းသမားဘက်က စိုးရိမ်ပူပန်ချက် ဖြစ်သည်။

ယခုအခါ လွှတ်တော်များတွင် စာနယ်ဇင်းလွတ်လပ်ခွင့်ကိစ္စ၊ မီဒီယာဆိုင်ရာ ဥပဒေများ ပြဋ္ဌာန်းရေး ကိစ္စတို့ကို ဆွေးနွေးလျက် ရှိကြသည်။

၇-၉-၂၀၁၁ နေ့က ပြည်သူ့လွှတ်တော် အစည်းအဝေးတွင် သဃ်န်းကျွန်း မဲဆန္ဒနယ်မှ ဦးသိန်းညွန့်က သတင်းမီဒီယာများ၏ ထင်မြင် ယူဆချက်များကို လွတ်လပ်စွာ ထုတ်ဖော်ပြောဆိုခွင့်၊ ရေးသားဖြန့်ဝေခွင့် စသည့် အခွင့်အရေးများ ကာကွယ်စောင့်ရှောက်ပေးသည့် ဥပဒေတစ်ရပ် ပြဋ္ဌာန်းပေးရန် အဆိုတင်သွင်းခဲ့ပြီး ၎င်းအဆို မအောင်မြင်ခဲ့တာ တွေ့ရသည်။

စင်စစ် ဖွဲ့စည်းပုံ အခြေခံ ဥပဒေက ပြဋ္ဌာန်းပေးထားသည့် လွတ်လပ်စွာ ထုတ်ဖော် ပြောဆိုခွင့်၊ ရေးသားဖြန့်ဝေခွင့် ဟူသောအချက်ကို အထက်ပါ အဆိုပြုချက်ပါ ဥပဒေမျိုးတစ်ရပ်ဖြင့် ကျားကန်ပေးမည်ဆိုလျှင် စာနယ်ဇင်း လွတ်လပ်ခွင့် ပို၍ အားကောင်းခိုင်မာမည် ဖြစ်သည်။

အဆိုပါ ဥပဒေမျိုး မပြဋ္ဌာန်းဖြစ်သော်လည်း၊ အောက်တိုဘာလ ၆ ရက်နေ့ ပြည်သူ့လွှတ်တော် အစည်းအဝေးတွင် မေးခွန်းတစ်ခုကို ဖြေကြားရာ၌ ပြည်ထောင်စုဝန်ကြီး ဦးကျော်ဆန်းက ပြန်ကြားရေးဝန်ကြီးဌာနအနေဖြင့်၊

... မီဒီယာသမားများ၏ လွတ်လပ်ခွင့်ကို အခြေခံဥပဒေပါ ပြဋ္ဌာန်းချက် နှင့်အညီ အကာအကွယ်ပေးစေနိုင်ရန်၊ အမျိုးသား အကျိုးစီးပွားကို အခြေခံသည့် စတုတ္ထမဏ္ဍိုင် ပီသသည့် မီဒီယာ ဖြစ်လာစေရန်၊ လွတ်လပ်မှုနှင့် တာဝန်ယူမှု

လွတ်လပ်မှုနှင့် ဆင်ခြင်တုံတရားတို့ကို ယှဉ်တွဲကျင့်သုံးသည့် မီဒီယာဖြစ်လာစေရန် ထိန်းကျောင်းပေးနိုင်မည့် မီဒီယာဥပဒေတစ်ရပ် ပြဋ္ဌာန်းပေးနိုင်ရေး လှုပ်ရှားဆောင်ရွက်လျက်ရှိကြောင်း ပြောကြားခဲ့တာ တွေ့ရသည်။

အဆိုပါ ဥပဒေမူကြမ်းကို ယခုအခါ ရေးသားပြီးမပြီး မသိရသေးပေ။ အကယ်၍ ရေးသားပြီး သို့မဟုတ် ရေးသားဆဲဖြစ်ပါက ၎င်းအထဲတွင် စာနယ်ဇင်းသမားကို ကာကွယ်စောင့်ရှောက်မည့် အပိုင်းနှင့် ထိန်းချုပ်ကန့်သတ်မည့် အပိုင်းတို့ မည်သို့ ပါဝင်သည်ကို စာနယ်ဇင်းသမားတို့ ကြောင့်ကြစွာ စောင့်ကြည့်ကြရပေလိမ့်မည်။

စင်စစ်

စတုတ္ထမဏ္ဍိုင် ပီသသော မီဒီယာဖြစ်စေဖို့ ရည်ရွယ်ပြဋ္ဌာန်းမည့် မီဒီယာဥပဒေတစ်ရပ် ရေးဆွဲရာ၌ အခြားတာဝန်ရှိသူများနှင့်အတူ မီဒီယာသမားများ ကိုယ်တိုင်လည်း ပါဝင်သင့်သည်ဟု မြင်ပါသည်။

အကယ်၍ ပြန်ကြားရေးဝန်ကြီးဌာနအနေဖြင့် ဥပဒေမူကြမ်း ရေးသားပြီးစီးပြီး ဖြစ်သည်ဆိုလျှင်လည်း အဆိုပါ မူကြမ်းကို စာနယ်ဇင်းသမား အများသိအောင် ဖြန့်ချိပေးသင့်ပြီး၊ တစ်နေ့သောအခါ ထိုဥပဒေ၏ သက်ရောက်မှုကို ခံယူရမည့် စာနယ်ဇင်းသမားများကလည်း အလေးအနက် ဆွေးနွေး ဝေဖန် အကြံပြုခြင်းများ ပြုလုပ်သင့်ကြောင်း ပြောလိုသည်။

ယင်းအကြံပြုချက်များကို ထည့်သွင်းစဉ်းစားကာ လိုအပ်သည်များကို ညှိနှိုင်း ပြင်ဆင်ပြီးမှ လွှတ်တော်သို့ တင်ပြသော် အတည်ပြု ပြဋ္ဌာန်းဖြစ်သည့် မီဒီယာဥပဒေသည် စာနယ်ဇင်းသမားတို့၏ လွတ်လပ်မှုရော တာဝန်ယူမှုတို့ပါ အားပေးနိုင်သည့် ဆီလျော်သင့်မြတ်သော ဥပဒေတစ်ရပ် ဖြစ်လိမ့်မည်ဟု တင်ပြလိုပါသည်။

[ ၁၄ အောက်တိုဘာ ၂၀၁၁ ]

# သံအိုး ကြေးအိုးများနှင့် တိုးဝှေ့ရသည့်အခါ

အောက်တိုဘာ ၁၆ ရက်နေ့ထုတ် မြန်မာ့အလင်းသတင်းစာတွင် နိုင်ငံတော်သမ္မတ ဦးသိန်းစိန် ဦးဆောင်သော မြန်မာချစ်ကြည်ရေး ကိုယ်စားလှယ်အဖွဲ့ အိန္ဒိယနိုင်ငံသို့ သွားရောက်သည့် သတင်းများနှင့်အတူ နှစ်နိုင်ငံ ပူးတွဲကြေညာချက်တစ်ရပ်ကိုပါ ဖော်ပြထားတာ တွေ့ရသည်။ အဆိုပါ သတင်းစာမှာပင် မြန်မာတရုတ် ဆက်ဆံရေးနှင့် စပ်လျဉ်း၍ ရေးသားထားသည့် ဆောင်းပါးရှင် ကျော်မျိုးနောင်၏ ဘယ်သူဖျက်ဖျက် မပျက်နိုင်ပါပြီ ခေါင်းစဉ်တပ် ဆောင်းပါးတစ်ပုဒ်လည်း ပါရှိသည်။

လူဦးရေ သန်းပေါင်း ၁၃၀၀ ကျော် ၁၂၀၀ ကျော် အသီးသီး ရှိကြသည့် အိမ်နီးချင်း တရုတ်၊ အိန္ဒိယနိုင်ငံကြီး နှစ်ခုနှင့် ဆက်ဆံမှု ကောင်းမွန်အောင် ဆောင်ရွက်နေသည့် လူဦးရေသန်းပေါင်း ၆၀ ဝန်းကျင်ရှိ မြန်မာ၏ အနေအထားတို့ ထိုသတင်းစာတစ်စောင်ဖြင့်ပင် ရိပ်စားမိနိုင်တာ မြင်တွေ့ရသည်။

သတင်းစာ နှစ်မျက်နှာ နီးပါးရှိသည့် ပူးတွဲ ကြေညာချက်တွင်၊ ကုလားတန်မြစ်ကြောင်း ပို့ဆောင်ရေး ဘက်စုံစီမံကိန်း၊ ရိဒ်–တီးတိန်ကားလမ်း ဖောက်လုပ်ရေး၊ အိန္ဒိယ–မြန်မာ–ထိုင်း သုံးနိုင်ငံ ဆက်သွယ်မည့် နိုင်ငံဖြတ်ကားလမ်းဖောက်လုပ်ရေး၊ နှစ်နိုင်ငံအကြား ရေကြောင်း လေကြောင်းနှင့် ရထားလိုင်း၊ ဘတ်(စ)ကားလိုင်း အဆက်အသွယ်များ ထူထောင်ရေး၊ နှစ်နိုင်ငံအကြား နယ်စပ်ကုန်သွယ်မှု အပါအဝင် ကုန်သွယ်ရေး၊ ရင်းနှီးမြှုပ်နှံမှုနှင့် စီးပွားရေးလုပ်ငန်းများ တိုးမြှင့်ဆောင်ရွက်ရေး၊ လျှပ်စစ်စွမ်းအားကဏ္ဍ၊ ရေနံနှင့် သဘာဝဓာတ်ငွေ့ကဏ္ဍများတွင် ပူးပေါင်း ဆောင်ရွက်မှု တိုးမြှင့်ရေး၊ သမိုင်း၊ ရှေးဟောင်းသုတေသန၊ ယဉ်ကျေးမှုနှင့်၊ ပညာရေး၊ တေးဂီတ၊ အားကစား၊ သတင်းမီဒီယာကဏ္ဍများတွင် ပူးပေါင်း ဆောင်ရွက်မှုများ ပြုလုပ်ရေး စသည်တို့ အပါအဝင် ကဏ္ဍပေါင်းများစွာ၌ လက်တွဲ လုပ်ဆောင်ကြရန် သဘောတူညီချက်များ ထားရှိခဲ့ကြတာ တွေ့ရသည်။

လာမည့်နှစ်များအတွင်း အဲသည် သဘောတူညီချက်များသာ ပြည့်ပြည့်ဝဝ အကောင်အထည်ပေါ်လာခဲ့မည်ဆိုက မြန်မာကုန်စည်နှင့် မြန်မာနိုင်ငံသားတို့ အိန္ဒိယသို့ ပို၍ အရောက်အပေါက် များကြမည် ဖြစ်သကဲ့သို့၊ အိန္ဒိယနှင့် နယ်ချင်းစပ်နေသည့် ရခိုင်၊ ချင်း၊ စစ်ကိုင်း ဒေသများသာမက မြန်မာပြည်

အနှံ့အပြားတွင်ပါ အိန္ဒိယကုန်စည်နှင့် အိန္ဒိယသားတို့ကို တိုးတက် တွေ့မြင်ဆာရပေလိမ့်မည်။

အနောက်ဘက် (အိန္ဒိယ) နှင့် ဆက်ဆံရေး တိုးချဲ့နေသည့် ကာလတွင် အရှေ့ဘက် (တရုတ်) နှင့်လည်း အလားတူ ကဏ္ဍပေါင်းစုံ၌ ဆက်ဆံရေးများ ရှိနေခဲ့ပြီး ဖြစ်သည်။ ပမာဏများပြားလှသော နယ်စပ်ကုန်သွယ်ရေး၊ မြန်မာ့မြစ်ကြီးများတွင် ထုတ်လုပ်ပြီး တရုတ်ပြည်သို့ ရောင်းချမည့် ရေအားလျှပ်စစ်၊ ဘင်္ဂလားပင်လယ် မြန်မာကမ်းစပ်မှ သဘာဝဓာတ်ငွေ့ကို တရုတ်ပြည်သို့ ဘင်ပို့မည့် ဓာတ်ငွေ့ပိုက်လိုင်း၊ ယင်းနှင့်အတူ တရုတ်နှင့် နိုင်ငံတကာတို့ ဆက်သွယ်မည့် ကားလမ်း၊ ရထားလမ်း၊ ရေနံပိုက်လိုင်းနှင့် ပင်လယ်ကူး သင်္ဘောဆိပ် စသည်ဖြင့် ထုထည်ကြီးမားသော လုပ်ငန်းကြီးများ ပူးတွဲဆောင်ရွက်လျက် ရှိနေသည်။ ကူးလူးဆက်ဆံမှု များပြားလာသည်နှင့်အမျှ မြန်မာနိုင်ငံတွင် တရုတ်ကုန်စည်များရော တရုတ်နိုင်ငံသားများကိုပါ လက်ညှိုးထိုးမလွဲ မြင်လာကြရမည် ဖြစ်သည်။

စင်စစ်၊ တိုင်းပြည်နိုင်ငံတို့ သူတစ်ပါးနှင့် ကူးလူးဆက်ဆံကြခြင်းသည် ချစ်ကြည်ရင်းနှီးလိုမှုအတွက် ဖြစ်သကဲ့သို့၊ စီးပွားရေး နိုင်ငံရေးဘက်တွင် အကျိုးအမြတ် ရလိုမှုအတွက်လည်း ဖြစ်သည်။ ကူးသန်းရောင်းဝယ်ရေး ကျွမ်းကျင်သဖြင့် အကျိုးအမြတ်ရအောင် လုပ်နိုင်သော် နိုင်ငံကြွယ်ဝချမ်းသာသည်။ နိုင်ငံတကာ ဆက်ဆံရေးတွင် ကျွမ်းကျင်လိမ္မာစွာ လုပ်နိုင်သော် နိုင်ငံဂုဏ်သိက္ခာတက်မည်၊ ဩဇာတိက္ကမရှိမည်။ ၎င်းတို့ပေါင်းသော် အင်အားရှိသောနိုင်ငံ ဖြစ်မည်။

နိုင်ငံတိုင်းပင် မနည်းစွာ၊ ဩဇာအာဏာတို့ဖြင့် အင်အားရှိသော၊ တတ်နိုင်လျှင် အင်အားကြီးသော နိုင်ငံဖြစ်အောင် ကြိုးစားကြစမြဲ ဖြစ်သည်။ ထိုအင်အားဖြင့် သူတစ်ပါးကို ကျူးကျော်ထိပါးဖို့ မရည်ရွယ်သည့်တိုင်၊ မိမိအား သူတစ်ပါး ကျူးကျော်ထိပါးမှု မပြုနိုင်အောင်ကား အင်အားရှိဖို့ လိုသည်ဟု ခံယူကြသည်။ ထို့အတွက်ကြောင့် တစ်ခါတစ်ရံတွင် အင်အားကြီးသူနှင့် အဆင်ပြေအောင် ပေါင်းကာ အားကိုးပြုတာမျိုး၊ တစ်စုံတစ်ယောက်၏ အန္တရာယ်ကို ကြောက်၍ ပင်းထံ ကာကွယ်စောင့်ရှောက်မှု ခံယူတာမျိုးလည်း ရှိတတ်ကြသည်။

သို့သော်၊ အင်အားကြီးသူနှင့် အင်အားနည်းသူတို့ နီးနီးကပ်ကပ် ပေါင်းသင်းကြသည့်အခါ အင်အားနည်းသူ၌ အန္တရာယ်ရှိသည်။

အီစွပ်ပုံပြင် များတွင် ကြေးအိုးနှင့် မြေအိုးတို့အကြောင်း ပုံပြင်တစ်ပုဒ် မြစ်ကြောင်းခရီးစုန်သည့်အခါ ကြေးအိုးက မြေအိုးအား 'ငါ့အနားကပ်ပါ ငါ စောင့်ရှောက်ပါ့မယ်' ဟုဆို၏။ သည်အခါ ရှေ့ရေး တွေးတောတတ် မြေအိုးက 'ကျေးဇူးတင်ပါတယ် ခင်ဗျာ၊ ဒါပေမဲ့ ကျွန်တော်က အဲ ကြောက်တာပါ၊ ခင်ဗျားသာ ခပ်ကွာကွာလေး နေပေးမယ်ဆိုရင် ကျွန် အန္တရာယ်ကင်း ဘေးရှင်း စုန်ဆင်းနိုင်ပါလိမ့်မယ်' ဟု ပြန်ဖြေသည်။

မြစ်ကြောင်းခရီးဆိုတာ အမြဲ လှိုင်းလေ ငြိမ်သည် မဟုတ်။ အကယ် လေတိုက်လှိုင်းထသည့်အခါ မြေအိုးနှင့် ခွပ်ခနဲ ရိုက်မိလျှင် မိမိသာ ကွဲလိမ့် ဖြစ်ကြောင်း မြေအိုး သိသောကြောင့် ဖြစ်သည်။

သည်ပုံပြင်မှာ၊ အိမ်နီးချင်း ပါရှားဘုရင် ဆိုင်းရပ်(စ)နှင့် ပေါင်း ကြီးရှယ်နေသော လစ်ဒီယဘုရင် ခရီးဆပ်(စ)အား သတိပေးသော သဘော အီစွပ် ပြောခဲ့သော ပုံပြင်ဖြစ်သည်။ ခရီးဆပ်(စ) နားမထောင်သဖြင့် နောင် မြေအိုးကွဲသလို ကွဲခဲ့ရသည်။

ဆိုခဲ့သည့်အတိုင်း တိုင်းပြည်တွေသည် မိမိတို့ သာယာဝပြောမှု၊ အင် တိုးတက်မှု၊ လုံခြုံစိတ်ချရမှုတို့ကို အကြောင်းပြုကာ ကူးလူး ဆက်ဆံမှု တိုးချဲ့ရန်၊ နီးနီးနားနားမှသည် ဝေးဝေးလံလံထိ ဖြန့်ကြက်ရန် ကြိုး ကြသည်။

စီးပွားရေးအရ ကမ္ဘာတွင် ဒုတိယအင်အား အကြီးမားဆုံးနိုင်ငံ ဖြစ်လာ တရုတ်ပြည်သည် သူ၏ မနအဆောက်အအုံကို ထိန်းသိမ်းရန်နှင့် တိုး ချဲ့ထွင်နိုင်ရန်အတွက် သမုဒ္ဒရာနှစ်စင်း ပေါ်လစီကို အကောင်အထည် လာသည်။ သူ့တိုင်းပြည် အရှေ့ဘက်ခြမ်းတစ်ခုလုံးသည် နဂိုမူလက ပစိဖိတ်သမုဒ္ဒရာနှင့် ထိစပ်နေပြီး ဖြစ်သည်။ အနောက်တောင်ပိုင်း ယူနန် နေ၍ မြန်မာပြည် ဖြတ်လမ်းဖြင့် ဘင်္ဂလားပင်လယ်(အိန္ဒိယသမုဒ္ဒရာ) ထွက်နိုင်သော် ကမ္ဘာနှင့် ကူးလူးဆက်ဆံရေးအတွက် သမုဒ္ဒရာနှစ်စင်း သုံးစွဲခွင့်ရလိမ့်မည်။

ထိုအစီအစဉ်အရ အိန္ဒိယသမုဒ္ဒရာသို့ တရုတ်တို့ ရောက်ရှိလာတော့ အချိန်တွင်၊ သမုဒ္ဒရာတစ်စင်းလုံး မိမိအမည်ဖြင့် အပိုင်ရှိထားသော အိန္ဒိ ကလည်း အရှေ့မျှော်ဝါဒကို အရှိန်မြှင့်ကာ ရှေ့တွင် ဖော်ပြခဲ့သည့် မြန်မာ ဖြတ်လမ်းများအားဖြင့် ကူးလူးဆက်ဆံမှုများ တိုးတက်ဖြန့်ကြက်ရန် လုပ် လာသည်။

တရုတ်၊ အိန္ဒိယ နှစ်နိုင်ငံလုံးပင် မြန်မာပြည်ကို စေ့စပ်စွာ ကြည့်ရှုကာ၊ သည်နိုင်ငံနှင့် ဆက်ဆံရေးမှ မိမိတို့ အကျိုးအမြတ် မည်မျှ ရရှိနိုင်သည်ကို မျှော်ခေါ်၍ ဆက်ဆံရေးများ တိုးချဲ့လာကြခြင်း ဖြစ်သည်။

လူနှစ်ဦး ဆက်ဆံသည့်အခါ နှစ်ဦးနှစ်ဖက် အကျိုးအမြတ် ထွက်နိုင်သကဲ့သို့၊ နိုင်ငံချင်း ဆက်ဆံရာ၌လည်း နှစ်ဘက်လုံး တွက်ခြေကိုက်သည့် သူနိုင် ငါနိုင် အနေအထားမျိုး ရှိနိုင်ပါသည်။ စင်စစ်၊ ထိုအနေအထားမျိုး မျှော်လင့်နိုင်မှသာလျှင်လည်း နိုင်ငံတို့ ဆက်ဆံဖို့ စဉ်းစားကြမြဲ ဖြစ်ပါသည်။

သို့သော်၊ သံအိုးကြေးအိုးတို့နှင့် အတူတကွ ခရီးသွားရသည့်အခါ မိမိ၏ ကြံ့ခိုင်မှု အတိုင်းအဆကို ကြည့်၍ သတိဝီရိယနှင့် သွားဖို့ လိုမည်ဖြစ်ကြောင်း တင်ပြလိုပါသည်။

[ ၂၀ အောက်တိုဘာ ၂၀၁၁ ]

# နိုင်ငံတို့အတွက် မျှော်လင့်ချက်

တိုင်းပြည်ကောင်းအောင် လုပ်ဖို့ နိုင်ငံရေးသမားမှာ အာဏာလိုသည်။

အာဏာရမှ တိုင်းပြည်အတွက် မိမိမှာ ရှိသမျှ စိတ်ကူးစိတ်သန်းကောင်းများ အကောင်အထည်ဖော်နိုင်မည်။

မိမိမှာ ရှိသည့် ထက်သန်သော စေတနာဖြင့် တိုင်းပြည်အကျိုးကို ပြည့်ပြည့်ဝဝကြီး သယ်ပိုးနိုင်မည်။

အာဏာမရလျှင် ဘာမှ မတတ်နိုင်။

ထို့ကြောင့် နိုင်ငံရေးသမားသည် အာဏာရရှိရေးကို ဦးထိပ်ထား ဆောင်ရွက် ရသည်။

ဒါကို အပြစ်တင်စရာ မရှိ။

သို့သော် ပြဿနာက၊

အာဏာသည် ဖျက်ဆီးတတ်သည်။ နည်းနည်းပါးပါး မဝို့မပို့ အာဏာ သို့မဟုတ် သူတစ်ပါး အရိပ်အခြည်ကြည့်ပြီး သုံးစွဲရသော အာဏာသည် နည်းနည်းပါးပါး မဝို့မပို့ ဖျက်ဆီးသည်။ ဘယ်သူဘယ်ဝါကိုမှ ဂရုစိုက်စရာ မလိုအောင် အလုံးစုံသော အာဏာ ရရှိသူကိုကား အာဏာက လုံးလုံးလျားလျား ဖျက်ဆီးပစ်မြဲ ဖြစ်သည်။

ပြည်နယ် အစိုးရ အကြီးအကဲအဖြစ် လေးနှစ် လုပ်ပြီးသည့်နောက် နောက်သက်တမ်းတစ်ခုအတွက် ရွေးကောက်ပွဲဝင်သည့် အမေရိကန်အမတ် ဟားဘတ်လေမင်ကို ရွေးကောက်ပွဲ ဘာကြောင့်ဝင်သလဲ မေးသည့်အခါ ပွင့်ပွင့်လင်းလင်း ဖြေသည်။

'အစောင့် ဆိုင်ကယ်ယာဉ်တန်းနဲ့ ကားစီးဖူးသွားပြီးရင် ခင်ဗျား ဘယ်တော့မှ အရင်အတိုင်း ပြန်မဖြစ်တော့ဘူးဗျ' တဲ့။

အာဏာပိုး ဦးနှောက်ထဲ စွဲကပ်သွားပြီးဆိုလျှင် သာမန်လူနှင့် မတူတော့။ အတွေးအကြံ အပြုအမူတွေ ဖောက်ပြန်ပျက်ယွင်းကာ မှန်–မှား၊ တရား–မတရားတွေ စဉ်းစားဆင်ခြင်နိုင်စွမ်း နည်းပါးလာသည်။

၁၉ ရာစု ဗြိတိန်ပြည်က ထင်ရှားသော ဝန်ကြီးချုပ်တစ်ဦးဖြစ်သူ ဂလက်စတုန်းက 'နိုင်ငံရေးနယ်ပယ်မှာ အောင်မြင်ချင်တယ်ဆိုရင် ခင်ဗျားရဲ့ မှန်–မှား သိစိတ်တွေကို ထိန်းချုပ်ထားနိုင်ဖို့ လိုတယ်' ဟုဆိုခဲ့သည်။

မက္ခီယာဗယ်လီလို မကောင်းတာတွေ လမ်းညွှန် အကြံပေးခြင်း မဟုတ်။ မဟုတ်မှန်း သိလျက်နှင့် ဝင်မပြောသော၊ မတရားမှန်း သိလျက်နှင့် ဆန့်ကျင်ကန့်ကွက်မှု မပြုသော နိုင်ငံရေးလုပ်စားသူများကို အရွဲ့တိုက်

ပြောလိုက်ခြင်း ဖြစ်သည်။

နိုင်ငံရေးသမားတွေမှာ ချစ်တာ မုန်းတာ မရှိဘူးတဲ့။ အင်္ဂလိပ်ကဗျာဆရာ ဒန်ဒရိုင်ဒင်က ဆိုသည်။

အရေးကိစ္စတစ်ခုအတွက်၊ သို့မဟုတ် ယုံကြည်ချက်တစ်ရပ်အတွက် ရန်းကန် လှုပ်ရှားသူ၊ တိုက်ပွဲဝင်သူများကို မဆို။ ကိုယ့်အကျိုး စီးပွားဖြစ်မည် ဆိုလျှင် မည်သူနှင့်မဆို ပေါင်းလိုက်မည် ခွာလိုက်မည် ဟူသော သူများကို ပြောခြင်း ဖြစ်သည်။

တချို့က နိုင်ငံရေးနယ်ပယ်ထဲကို ငွေထုပ်ပိုက်ဝင်လာ၊ ငွေနှင့် အာဏာရှာ၊ အာဏာရလျှင် အာဏာနှင့် ငွေရှာ။ တိုင်းပြည်ကောင်းအောင် လုပ်ဖို့ စိတ်ကူး သူ့ခေါင်းထဲ ပါမလာ။

တချို့က လက်ထဲ ဘာမှမပါ။ အာဏာ အသိုင်းအဝိုင်းထဲ ရောက်နိုင်သလောက် အနက်ရှိုင်းဆုံး ရောက်အောင် ခြေစုန်ပစ်ဝင်မည်၊ မစမည့်သူကို မြှောက်ပင့်ကပ်ရပ် ခေါင်းသင်းမည်၊ ဈေးအများဆုံးပေး၍ ခိုင်းစေသူကို သူ ပေးနေသရွေ့ သစ္စာ ရှိမည်။

လိမ္မာသူ တချို့ကတော့ ပြဿနာ ရှုပ်ထွေးသော နိုင်ငံရေးကို စိတ်မဝင်စားသလို နေသည်။ သို့သော် ရာထူးရာခံ ပေးအပ်ချီးမြှင့်လာတော့ အားနာပါးနာ ညည်းနည်း ငြင်းပြီး အသာ လက်ခံလိုက်သည်။ သို့သော် အာဏာ ယန္တရားထဲ ရောက်ရှိသွားပြီ ဆိုလျှင်တော့ သူလည်း အာဏာ အဆိပ်မိပြီ။ အာဏာ ရှေ့နေ့လွတ်ရေး၊ အာဏာ တည်တံ့ခိုင်မြဲရေး၊ အာဏာ တိုးတက်ရရှိရေးကို အသတစ်ပန် သက်တစ်ဆုံး လုပ်တော့မည်။

သို့သော်၊ ကံအားလျော်စွာ၊

နိုင်ငံရေး နယ်ပယ်၌ လူတော်လူကောင်းတွေလည်း ရှိပါသေးသည်၊

တိုင်းပြည်နှင့် လူမျိုးအကျိုးအတွက် ရှုပ်ရှုပ်ချုံချုံ ဆောင်ရွက်သည့် ခေါင်းဆောင်ကောင်းတွေ၊

ပြင်းထန်သော နိုင်ငံရေးဝိညာဉ်၏ စေ့ဆော်ချက်ဖြင့် လွတ်လပ်ရေးနှင့် တရားမျှတမှုအတွက် အသက်ပေး တိုက်ပွဲဝင်သည့် သူရဲကောင်းတွေ။

အဲသည်လို ပုဂ္ဂိုလ်တွေ ရာဇဝင်မှာ ပေါ်ပေါက်ခဲ့၊ ပေါ်ပေါက်ဆဲ ဖြစ်သည်။

စပါတာကပ်(စ)သည် လူလူချင်း ကျွန်ပြုသည့်စနစ်ကို တိုက်ဖျက်ရင်း အသက်ပေးခဲ့သည်။

မာတင်လူသာကင်းသည် အကြမ်းကြမ်း အဓန်ဓန် လုပ်ကြံမှုတို့ ခံရ အသားအရောင် မတူသူတို့အား ဖိနှိပ်ခွဲခြားသော စနစ် တိုက်ဖျက်ခဲ့သည်။

ဗိုလ်ချုပ်အောင်ဆန်း၊ မဟတ္တမဂန္ဓီ၊ ဟိုချီမင်းတို့သည် မိမိတို့

တိုင်းပြည် အသီးသီးအတွက် အသက်ပေးသွားသည့် မျိုးချစ်အာဇာနည်
ဖြစ်သည်။

သည်လို ပုဂ္ဂိုလ်မျိုးတွေ ပေါ်ထွက်နေနိုင်သေးသရွေ့ တိုင်းပြည်
လူမျိုးတို့ အတွက် မျှော်လင့်ချက်တွေ ရှိနေပေသေးသည်။

# အများစု အုပ်စိုးမှုနှင့် အနည်းစု၏ ရပိုင်ခွင့်

တိုင်းပြည်၏ အရေးကိစ္စများကို တာဝန်ယူ ဆောင်ရွက်မည့် ပြည်သူ့ကိုယ်စားလှယ်များကို လွတ်လပ်၍ တရားမျှတသော ရွေးကောက်ပွဲများအားဖြင့် ရွေးချယ်ခြင်းသည် ဒီမိုကရေစီ၏ လက္ခဏာရပ်များထဲက တစ်ခုဖြစ်သည်။

တိုင်းသူပြည်သား တစ်ယောက်အနေဖြင့် ရွေးကောက်ပွဲတွင် ဆန္ဒမဲပေးလိုက်ပြီးသည့်နောက် မိမိဆန္ဒများ မည်သည့် အတိုင်းအတာအထိ နီးစပ်တူညီစွာ ဖြစ်ပေါ်လာ မလာ ဟူသည်က ရွေးကောက်ပွဲရလဒ်နှင့် သက်ဆိုင်သည်။

မိမိ ဆန္ဒမဲပေးသူသည် ရွေးကောက်ပွဲတွင် ရှုံးနိမ့်သဖြင့် လွှတ်တော်ကိုယ်စားလှယ်ပင် ဖြစ်မလာဘဲ ရှိနိုင်၏။

ရွေးကောက်ပွဲတွင် အနိုင်ရသော်လည်း၊ ၎င်း၏ ပါတီသည် နေရာအနည်းစုသာ အနိုင်ရသည့် အင်အားနည်းသော ပါတီတစ်ခု ဖြစ်နေနိုင်၏။

ရွေးကောက်ပွဲတွင် အနိုင်ရပြီး ၎င်း၏ ပါတီသည်လည်း နေရာအများစု အနိုင်ရသည့် အင်အားကြီးပါတီ ဖြစ်သည့်တိုင် မိမိ ကိုယ်စားလှယ်သည် ပါတီ၌ များစွာ အရေးမပါ အရာမရောက်သူ ဖြစ်သကဲ့သို့၊ အစိုးရအဖွဲ့အစည်းရာ၌လည်း ရာထူးတစ်နေရာ မရရှိသူ ဖြစ်နေနိုင်၏။

တစ်ဖန်၊ မိမိ ဆန္ဒမဲပေးလိုက်သူသည် အရေးပါအရာရောက်သူ ဖြစ်သွားသည့်တိုင်၊ သူရရှိသည့် လုပ်ပိုင်ခွင့် အာဏာများကို ကျင့်သုံးဆောင်ရွက်ရာ၌ မိမိဆန္ဒနှင့် မကိုက်ညီသည်များကိုလည်း မြင်တွေ့ရနိုင်ပါသေးသည်။

ထို့ကြောင့် ဆန္ဒမဲတစ်ပြားသည် အဖိုးတန်လှပါသည်ဟု ဆိုကြသော်လည်း တစ်ဦးချင်းသော ပြည်သူတို့၏ ဖန်တီးနိုင်ခွင့် အတိုင်းအတာကား သေးငယ်လှပါသည်။ တစ်နည်းဆိုသော် တစ်ဦးချင်းသော ပြည်သူသည် ရံဖန်ရံခါ မိမိထောက်ခံသူတို့ အနိုင်ရရှိခြင်း၊ စီမံခန့်ခွဲခွင့် ရရှိခြင်းများကို မြင်ရသော်လည်း ယေဘုယျအားဖြင့်ကား စီမံဖန်တီးခံ အနေအထား၊ မိမိနှင့် တူညီသော ကြီးစိုးသူ အများစုကြားတွင် မိမိက လူနည်းစု သို့မဟုတ်၊ တစ်ဦးတည်း ဖြစ်နေသော အနေအထားမျိုး၌သာ မိမိကိုယ်ကို တွေ့ရှိရတတ်မြဲ ဖြစ်ပေသည်။ ထိုသဘောအရ၊ တစ်ဦးချင်းသော ပြည်သူတို့အနေနှင့် စီမံ ဖန်တီးနိုင်ခွင့်ရှိဖို့ထက် ဖန်တီးခံဘဝတွင် တရားမျှတမှု ခံယူရရှိဖို့က ပို၍ အရေးကြီးသည်ဟု ဆိုချင်သည်။

ရှင်းပါမည်။

ဒီမိုကရေစီနိုင်ငံတို့တွင် ရွေးကောက်ပွဲ၌ အများစု အနိုင်ရသော ပါတီ
သို့မဟုတ် ပါတီစုက အစိုးရဖွဲ့ကာ အုပ်စိုးမြဲဖြစ်သည်။ တရားဥပဒေပြုသည့်
လွှတ်တော်များတွင် ၎င်းတို့၏ ကိုယ်စားလှယ်များက အများစုဖြစ်ရာ၊ ယေဘုယျ
အားဖြင့် ၎င်းတို့၏ အယူအဆ၊ လမ်းစဉ်နှင့် တိမ်းညွတ်မှုများကို ထင်ဟပ်သော
ဥပဒေများသာ ပြဋ္ဌာန်းပေါ်ပေါက်လာမည် ဖြစ်သည်။

ဤသည်မှာ သဘာဝကျသော အနေအထားသာ ဖြစ်ပါသည်။

အများစု သဘောကို လက်မခံ၊ အနည်းစု သဘောအတိုင်း လုပ်ပါ
ဆိုလျှင် အဓိပ္ပာယ်ရှိမည် မဟုတ်။ ဒီမိုကရေစီဆိုသည်က အနည်းစု အုပ်စိုးသော
စနစ် မဟုတ်။

ထိုနည်းတူ၊ အားလုံး တညီတညွတ်တည်း သဘောတူသော ဥပဒေများ
ပေါ်လစီ မူဝါဒများ ဟူသည်လည်း ရှိနိုင်လိမ့်မည် မဟုတ်။

ထို့ကြောင့် အများစုသဘော လွှမ်းမိုးမှု သို့မဟုတ် အများစု အုပ်စိုး
(majority rule) သည်သာ အသင့်မြတ်ဆုံး ဖြစ်နိုင်သည်။

သို့သော် အရေးကြီးသည်က အများစုသဘော စစ်စစ် ဖြစ်ဖို့ပင်။

အလားတူ အရေးကြီးသော အရာတစ်ခုက အများစုအုပ်စိုးမှုသည် အကြွင်း
အလွန်အကျွံ အနေအထား ရောက်မသွားဖို့ ဖြစ်သည်။ တချို့တိုင်းပြည်ဒေသ
များတွင် အများစုတို့ အာဏာကို လွန်ကျွံစွာ သုံးစွဲကာ အများစု ဖိစီးနှိပ်စက်
(tyranny of majority) အဖြစ်သို့ ကူးပြောင်းသွားတာတွေ တွေ့ရတတ်သည်။

ဥပမာ၊ အများစုဖြစ်သော လူမျိုးနွယ်တစ်ခုက မိမိတို့ ရပ်ရွာဒေသတွင်
အခြားသော လူမျိုးနွယ်တို့ အရေအတွက် အနည်းငယ်စီမျှဖြင့် ရောစွက်
ပါဝင်နေခြင်းသည် မသင့်တော်၊ မိမိတို့ မျိုးနွယ်၏ သန့်စင်မှုကို ထိခိုက်စေသည်
ထို့ကြောင့် ထိုအနည်းစု မျိုးနွယ်များကို ရှင်းလင်း ဖယ်ရှားပစ်ရမည်ဟု
အများစုအင်အားဖြင့် ဆုံးဖြတ်လုပ်ကိုင်တာမျိုး ဖြစ်သည်။

ထိုနည်းတူ၊ အချို့တိုင်းပြည်ဒေသ၌၊

ဘာသာရေးအရ အများစုဖြစ်နေသူတို့က မိမိတို့ ရပ်ရွာဒေသတွင် မိမိတို့
ကိုးကွယ်သည့် ဘာသာတစ်ခုသာ ထွန်းကားတည်ရှိသင့်သည်၊ အခြားသော
အနည်းစု ဘာသာဝင်တို့ ၎င်းတို့ ကိုးကွယ်ဝတ်ပြုရာ ဘာသာရေး အဆောက်
အဦများ၊ ဘာသာရေး အခမ်းအနားများ၊ ဘာသာဆိုင်ရာ ထုံးဓလေ့ အပြုအမူများ
အားဖြင့် ရောစွက်တည်ရှိနေခြင်းသည် အမြင်မတော်၊ လက်ခံနိုင်ဖွယ် မရှိ

ယင်းတို့ကို ရှင်းလင်း ဖယ်ရှားပစ်ရမည်ဟု အများစု အင်အားဖြင့် ဆုံးဖြတ်လုပ်ကိုင်ကြခြင်းမျိုးသည် လည်းကောင်း၊

အချို့တိုင်းပြည်ဒေသ၌၊

နိုင်ငံရေး အယူဝါဒအရ အများစု ဖြစ်နေသူတို့က၊ တိုင်းပြည်၌ လူအားလုံး အယူအဆ မကွဲပြား၊ တစ်သားတည်း ညီညာစွာ ရှိနေကြခြင်းသာ ကောင်းသည်၊ မှန်သည်၊ လိုလားအပ်သည်။ မိမိတို့အကြား၌ အယူအဆမတူသူ၊ ဆန့်ကျင်ကွဲလွဲသူတို့ ဟိုတစ်စု သည်တစ်စု ရှိနေကြခြင်းသည် မကောင်း၊ မမှန်၊ မလိုလားအပ်။ ထို့ကြောင့် ယင်းသို့ အယူအဆမတူသူ လူနည်းစုတို့ကို ရှင်းလင်းဖယ်ရှားရမည် ဟူ၍ အများစု အင်အားဖြင့် ဆုံးဖြတ်လုပ်ကိုင်ခြင်းမျိုးသည် လည်းကောင်း၊...

စဉ်းစားဆင်ခြင်တတ်သည့် လူ့အဖွဲ့အစည်းများ၌ မဖြစ်သင့် မဖြစ်ဆိုက်သော အရာများသာ ဖြစ်ပါသည်။

ထို့ကြောင့်လည်း အများစုဖြစ်သူတို့ ရရှိသည့် စီမံခန့်ခွဲပိုင်ခွင့်သည် အရှားမျှတသော အာဏာအဖြစ်မှ၊ လွန်ကဲစိုးမိုးသော အာဏာ၊ သို့မဟုတ် ဖိစီးနှိပ်စက်သော အာဏာအဖြစ်သို့ ကူးပြောင်းသွားနိုင်သည့် အန္တရာယ်ကို တားဆီးကာကွယ်ရန်အတွက် တိုင်းပြည် အသီးသီး၏ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေများထဲတွင် အာဏာမရှိသူ လူနည်းစုတို့အတွက် ရပိုင်ခွင့်များကို ထည့်သွင်း ပြဋ္ဌာန်းထားလေ့ရှိခြင်း ဖြစ်သည်။

ဥပမာ၊ (ထူးခြားသော ခြွင်းချက် အနေအထားများတွင်မှအပ) နိုင်ငံသားတိုင်း မိမိယုံကြည်ချက် ထင်မြင်ယူဆချက်များကို လွတ်လပ်စွာ ထုတ်ဖော်ပြောဆိုခွင့်၊ ရေးသားဖြန့်ဝေခွင့်၊ ငြိမ်းချမ်းစွာ စုဝေးခွင့်၊ စိတ်တန်းလှည့်လည်ခွင့်၊ အစည်းအရုံး အသင်းအဖွဲ့များ ဖွဲ့စည်းဆောင်ရွက်ခွင့်၊ မိမိဘာသာစကား၊ စာပေ၊ ယဉ်ကျေးမှု ထိုးကွယ်သည့် ဘာသာသာသနာနှင့် ဓလေ့ထုံးတမ်းများကို လွတ်လပ်စွာ ဆောင်ရွက်ပိုင်ခွင့်၊ စသည့် နိုင်ငံသားတို့၏ မူလအခွင့်အရေးများ ရရှိစေရေးသော အတိအလင်း ရေးသား ကြေညာထားခြင်းမျိုး ဖြစ်၏။

ဖွဲ့စည်းပုံ အခြေခံဥပဒေ ဟူသည်များက ပြဋ္ဌာန်းပေးထားသည့် အခြေခံ ရပိုင်ခွင့်များကို ရွေးကောက်ပွဲတစ်ခုတွင် အောင်မြင်ကာ သက်တမ်းတစ်ခု တစ်ခုအတွက် စီမံခန့်ခွဲခွင့်ရသည့် အစိုးရတို့ ကျော်လွှားခြင်း၊ လျှော့ချခြင်း ချုပ်သိမ်းပယ်ဖျက်ခြင်းများ ပြုလုပ်ပိုင်ခွင့် မရှိပေ။

စင်စစ်၊ လူနည်းစု သို့မဟုတ် နိုင်ငံသားတစ်ဦးချင်းတို့၏ အခြေခံ လိုင်ခွင့်များကို လေးစားသိမှတ်တတ်သော အလေ့အကျင့်သည်ပင်လျှင် အများထောက်ခံမှု ရရှိသူတို့ အုပ်စိုးပိုင်ခွင့်ရှိသောစနစ် တည်တံ့ရေးအတွက် အခိုင်နည်းတစ်ဖုံ ထောက်ကူပေးထားသော သဘော ရှိသည်။

ဤအချက်သည် အရေးကြီးပါသည်။

အဓိက အကြောင်းက၊

အများစု အနည်းစု ဟူသည် တစ်သမတ်တည်းတည်သော အရာမျိုး မဟုတ်သောကြောင့် ဖြစ်ပါသည်။

ယနေ့ နိုင်ငံရေးတွင် လူများစုဖြစ်သူတို့သည် နောက်တစ်နေ့ လူနည်းစု ဖြစ်နိုင်ကြောင်း သမိုင်းကို ပြန်ကြည့်လျှင် သိနိုင်၏။ တစ်ဖန်၊ လူတစ်ဦးချင်း သည်ပင် ဒေသတစ်ခု၌ လူမျိုးရေးအရ လူများစုတွင် ပါဝင်နေသော်လည်း အခြားဒေသတစ်ခုသို့ ရောက်ရှိသွားသောအခါ မိမိတို့က လူနည်းစု ဖြစ်နေသည် တွေ့ရနိုင်၏။ ထိုနည်းတူ၊ ဘာသာရေးအရ လူနည်းစုဝင် ဖြစ်နေချိန်တွင် နိုင်ငံရေးအရ လူများစုထဲ ရောက်ရှိနေနိုင်၏။ တစ်ဖန်၊ ကိစ္စအတော်များများတွင် လူများစုနှင့် သဘောတူညီသော်လည်း၊ မိမိအတွက် ထူးခြားသော ကိစ္စ တစ်စုံတစ်ရာ၌မူ မိမိက လူနည်းစုဝင် သို့မဟုတ် 'ငါ တစ်ဦးတည်း' ဟူသော အနေအထားမျိုး ရှိနေနိုင်၏။

ထို့ပြင် နိုင်ငံရေးတွင် အရေးကြီးသည်က တစ်ခုသော ရွေးကောက်ပွဲတွင် အနိုင်မရခြင်းကြောင့် နိုင်ငံရေးအရ အနည်းစုဖြစ်သည့် ပါတီအဖွဲ့အစည်း တစ်ရပ်သည် ပြောင်းလဲသွားသော ကာလတစ်ခု၌ ရွေးကောက်ပွဲတွင် အများစု ထောက်ခံမဲရသည့် အများစုကိုယ်စားပြုပါတီ အဖွဲ့အစည်းအဖြစ် အုပ်စိုးသူ နေရာသို့ တစ်လှည့်တစ်ပြန် ရောက်ရှိနိုင်ခြင်း ဖြစ်၏။

အဲဒါသည် ဒီမိုကရေစီစနစ်၏ တန်ဖိုးရှိသော အခြင်းအရာတစ်ခုလည်း ဖြစ်၏။

ထို့ကြောင့် ပြန်၍ချုပ်သော်၊

တိုင်းပြည်တစ်ပြည်၌ ဒီမိုကရေစီစနစ် ထွန်းကားရှင်သန်ရန်အတွက် လည်းကောင်း၊ အများပြည်သူတို့ဘဝ သာယာချမ်းမြေ့နိုင်ရန်အတွက် လည်းကောင်း၊ အများစု အုပ်စိုးခွင့်နှင့် အနည်းစု၏ ရပိုင်ခွင့်တို့ အနှစ်သာရ ပြည့်ဝစွာ ဒွန်တွဲတည်ရှိဖို့ လိုမည် ဟုဆိုချင်ပါသည်။

# စာနယ်ဇင်းသမားနှင့် နိုင်ငံရေး

စာနယ်ဇင်းတွေ တန်ခိုးစွမ်းအား ကြီးမားလှသည် ဟုဆိုကြသည်။

သည်ကနေ့ စာနယ်ဇင်းတွေ ဘယ်လောက် စွမ်းသည် မသိ၊ တစ်ချိန်ကတော့ အချို့စာနယ်ဇင်းတွေ တကယ် အစွမ်းထက်ခဲ့တာ သေချာသည်။ ထို့ကြောင့်လည်း စာနယ်ဇင်းသမားကို ကြောက်ရွံ့ မုန်းတီးသော စကားတွေ သမိုင်းထဲ ကျန်ရစ်ခဲ့ခြင်း ဖြစ်သည်။

ဥပမာ၊ ပြင်သစ်ဧကရာဇ် နပိုလီယန် ပြောခဲ့သော စကား။

နပိုလီယန်က၊ "သတင်းစာ ၄ စောင်ဟာ သေနတ်အလက် ၁၀၀၀ ထက် ကြောက်စရာကောင်းတယ်၊" ဟူ၍ လည်းကောင်း၊

"ကလုံးဂေဇက် သတင်းစာကို သေနတ်အလက် ၁၀၀၀၀ ထက် ငါ ပိုကြောက်တယ်၊" ဟူ၍ လည်းကောင်း၊ ပြောခဲ့သည်ဟု အဆိုရှိသည်။

မှတ်တမ်းမှတ်ရာများထဲမှာ ထိုစဉ်က ပြင်သစ် ရဲတပ်ဖွဲ့ဝန်ကြီး ဂျိုးဇက် ဖူးချေးထံ နပိုလီယန် ရေးသည့် စာတစ်စောင် ရှိနေသည်။ သည်စာတွင် နပိုလီယန်က သတင်းစာတွေ သူ့အကျိုးစီးပွား ထိခိုက်စေမည့် အရာများ ရေးသားလာလျှင် သူ လုံးဝ သည်းခံမည် မဟုတ်ကြောင်း၊ အဆိပ်နည်းနည်းလေးပါသည့် စာမျိုး တစ်ပုဒ်တလေ ရေးသားလျှင်ပင် အဲသည်လူတွေ ကြောမတင် ပါးစပ်ပိတ်သွားစေရမည် ဖြစ်ကြောင်း ပြောဆိုထားတာ တွေ့ရသည်။

## အင်္ဂလန်က စတုတ္ထမဏ္ဍိုင်

အဲသည်ခေတ် အင်္ဂလန်ပြည်မှာတော့ ပါလီမန် အစည်းအဝေးမှာ စာနယ်ဇင်းသမားတွေ တက်ရောက် သတင်းယူခွင့် ရနေကြသည်။ ခန်းမထဲမှာ သူတို့အတွက် သီးသန့်နေရာပေးထားသည်။

သည်သတင်းသမားတွေကိုလည်း အင်္ဂလိပ် နိုင်ငံရေးလောကက ဂုဏ်[illegible] နပိုလီယန်လောက် မကြောက်ကြသည့်တိုင် ပေါ့သေးသေးတော့ သဘော[illegible] နိုင်ခဲ့ကြောင်း ထိုစဉ်က ထင်ရှားသော ဗြိတိသျှ နိုင်ငံရေး ခေါင်းဆောင်တစ်ဦး ဖြစ်သူ အက်ဒမန်ဘာ့ခ်၏ စကားဖြင့် သိနိုင်သည်။

ဘာ့ခ်က၊ ... ပါလီမန်မှာ အာဏာ၏ မဏ္ဍိုင် သုံးရပ်ရှိကြောင်း [illegible] ဟိုဘက်နားက သတင်းသမားများ သီးသန့်နေရာမှာ စတုတ္ထမဏ္ဍိုင်တစ်ခု

ထိုင်းလူ့ကျင့်ဝတ်ကြောင်း၊ အဲသည် မဏ္ဍိုင်သည် ကျန်မဏ္ဍိုင် သုံးရပ်ပေါင်းထက် အရေးပါကြောင်း ပြောဆိုခဲ့သည်။

သို့သော် အင်္ဂလန်၌ စာနယ်ဇင်းသမားတွေ အလိုအလျောက် အရေးပေးခံခဲ့ရသောတော့ လုံးဝ မဟုတ်။ ဖိနှိပ်မှုနှင့် ခုခံမှုတွေ အစဉ်တစိုက် ရှိခဲ့သည်။

အင်္ဂလိပ်တို့ လွတ်လပ်စွာ ပြောရေးဆိုခွင့် ရရှိလာခဲ့ပုံနှင့် စပ်လျဉ်း၍ အခေမိုကန် လွှတ်တော်အမတ် ဝီလျံဘိုရားက၊

'နှစ်ပေါင်း ၂၀၀ လုံးလုံး အင်္ဂလန်ဟာ လွတ်လပ်စွာ ဆွေးနွေးပြောဆိုခွင့်ကို ထိန်းချုပ်ကန့်သတ်ဖို့ ကြိုးပမ်းခဲ့တယ်။ သို့သော် နောက်ဆုံးတော့ သူ လုံးလုံးလျားလျား ရှုံးသွားတယ်။ အခုဆိုရင် အင်္ဂလန်ဟာ ကမ္ဘာမှာ လွတ်လပ်စွာ ပြောဆိုခွင့် အရှိဆုံး၊ စာနယ်ဇင်း လွတ်လပ်ခွင့် အပြည့်ဝဆုံး တိုင်းပြည် ဖြစ်နေပြီ၊... အဲဒီ လွတ်လပ်ခွင့်တွေကလည်း သူ့ကို တစ်ကြိမ်မက ကယ်တင်ခဲ့ပြီ၊ ဉာဏ်အမြော်အမြင်ရှိတဲ့ အင်္ဂလိပ်တိုင်းဟာ (ဟစ်တိုင်တွေရှိတဲ့) ထရာဖော်လဂါ ကွက်လပ်နဲ့ ဟိုက်ဒ်ပါ့ခ် ပန်းခြံတွေရဲ့ တန်ဖိုးကို ကောင်းကောင်း သိနေပြီ။ လူတွေကို အများ နားထောင်နိုင်တဲ့ နေရာတွေမှာ လွတ်လပ်စွာ ငြင်းခုံဝေဖန်ခွင့်မပြုဘဲ မောင်းထုတ်လိုက်တဲ့အခါ တော်လှန်ရေးတွေ ပေါက်ဖွားတဲ့ မြေအောက် တိုက်ခန်းတွေထဲ ရောက်သွားတယ်။ 'တီးတိုး ပြောနေတာထက် အော်ပြောတာက ပိုကောင်းပါတယ်'... စသဖြင့် သုံးသပ် ပြောဆိုခဲ့သည်။

## စာနယ်ဇင်းသမားနှင့် ပြည်သူ့အကျိုးစီးပွား

အာဏာခွဲဝေမှု ရှိသော တိုင်းပြည်များတွင် တွေ့ရလေ့ရှိသည့် အုပ်ချုပ်ရေး၊ ဥပဒေပြုရေး၊ တရားစီရင်ရေး ဟူသော မဏ္ဍိုင်သုံးရပ်သည် အာဏာကို အမှန်တကယ် ကိုင်တွယ်သုံးစွဲနေကြသူများ ဖြစ်သည်။ သို့သော် မှန်ကန်သော ခွဲဝေမှုမျိုးဖြစ်ပြီး ၎င်းတို့ သုံးဦးအကြား အပြန်အလှန် ထိန်းကွပ်ကြပ်မတ်မှု ပြည့်ပြည့်ဝဝ ရှိမည်ဆိုက ပြည်သူလူထုအတွက် သင့်တင့်မျှတသော အနေအထား ရရှိနိုင်ပါသည်။

သို့သော်၊ ထိုအနေအထားမျိုး အလိုအလျောက် ရရှိဖို့ ခဲယဉ်းသည်။

ထို့ကြောင့် စာနယ်ဇင်းတို့ လိုအပ်လာရခြင်း ဖြစ်သည်။

စတုတ္ထမဏ္ဍိုင်ဟု တင်စားပြောဆိုသည့် စာနယ်ဇင်း၌ အာဏာ တစ်စုံတစ်ရာ မရှိ။ သို့သော် အာဏာသုံးရပ် ကိုင်တွယ်သူတို့ လွဲမှားတိမ်းချော်သည်များကို အများပြည်သူကိုယ်စား ဝေဖန်ထောက်ပြခြင်း၊ အများပြည်သူကိုယ်စား

ဖော်ထုတ်တင်ပြခြင်းများ ပြုလုပ်နိုင်သော စွမ်းအား ရှိသည်။

စာနယ်ဇင်းတို့ လွတ်လပ်စွာ ရေးသားထုတ်ဝေခွင့် ရှိသော အရပ်၌ နိုင်ငံရေးရာနှင့် စပ်လျဉ်း၍ သိသင့်သိထိုက်တာ မှန်သမျှကို ပြည်သူအများ သိခွင့်ရကြသည်။ ထိုသိရှိမှုတွင် အခြေခံသည့် အများပြည်သူတို့၏ သဘောထားများသည် တိုင်းပြည်ကို စီမံခန့်ခွဲနေကြသူများအပေါ် ဖိစီး သက်ရောက်မှု ရှိသည်။

ထို့ကြောင့် စာနယ်ဇင်းတို့သည်၊... ပြည်သူမှ ဆင်းသက်သည် ဆိုသော အာဏာကို လက်ဝယ်ကိုင်ထားသူတို့ ပြည်သူ့အကျိုးစီးပွားအတွက် သင့်တော် ခုန်ကန်စွာ သုံးစွဲခြင်း ရှိ မရှိ ပြည်သူများ ပြန်လည် စောင့်ထိန်း ကြည့်ရှုနိုင်ရန် အထောက်အကူ ပေးနေကြသော သဘော ရှိသည်။

သည်သဘောအရ၊

စာနယ်ဇင်း လွတ်လပ်ခွင့်နှင့် ပြည်သူ့အကျိုးစီးပွားတို့ တွဲဖက် တည်ရှိ နေကြောင်း ထင်ရှားသည်။

ဗြိတိသျှ စာရေးဆရာ ဂျူးနီယပ်(စ)က၊ စာနယ်ဇင်း လွတ်လပ်ခွင့်သည် ဘာသာရေး၊ နိုင်ငံရေးနှင့် လူမှုရေးရာ လွတ်လပ်ခွင့်များ အားလုံးကို ကာကွယ် စောင့်ရှောက်ပေးသော အရာဖြစ်သည် ဟုဆိုပြီး၊

ဂန္ထဝင်ပညာရှင် ဂစ်လဘတ်မာရေးကလည်း၊... တခြား လွတ်လပ်ခွင့်တွေ အားလုံး ဆုံးရှုံးခဲ့ရလျှင်ပင် စာနယ်ဇင်း လွတ်လပ်ခွင့်က အဲဒါတွေ အားလုံး ပြန်ရအောင် ဆောင်ယူပေးလိမ့်မည်။ စာနယ်ဇင်း လွတ်လပ်ခွင့်နှင့် တိုင်းပြည် လွတ်လပ်ခွင့်သည် ရှိလျှင်လည်း အတူတကွ ဆုံးရှုံးလျှင်လည်း အတူတကွ ဖြစ်လိမ့်မည် ဟုဆိုခဲ့သည်။

ထို့ကြောင့်လည်း အမြော်အမြင်ရှိသော နိုင်ငံရေးသမားများက စာနယ်ဇင်း လွတ်လပ်ခွင့်ကို နိုင်ငံ၏ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံ ဥပဒေများထဲမှာပင် ထည့်သွင်း ရေးသားကာ အာမခံချက် ပေးထားကြခြင်း ဖြစ်သည်။

## စာနယ်ဇင်းသမား၏ တာဝန်

စာနယ်ဇင်း လွတ်လပ်ခွင့်ကို အစိုးရရော အများပြည်သူတို့ပါ [illegible] လွတ်လပ်ခွင့် တည်တံ့ ခိုင်မြဲရေးအတွက် အဓိက အားထုတ်ရမည့် [illegible] စာနယ်ဇင်းသမားများ ကိုယ်တိုင်ပင် ဖြစ်သည်။

စာနယ်ဇင်းသမား၏ အကြီးမားဆုံး တာဝန်သည် တိုင်းပြည်၏ ... နယ်တင်ခဲ့ ဖြစ်ပျက်နေသည့် အရေးကြီးသော ကိစ္စရပ်များကို အများပြည်... ဘဲ့အံ မိမိ သိရှိသမျှ အမှန်အတိုင်း တင်ပြဖို့ ဖြစ်သည်။ သည်လို တင်ပြ... ဘစ်ဖတ်ဆောင်းနှင်း မရေး၊ အချက်အလက် မှန်ကို မထိန်ချန်၊ ... ခနှ်ဘာကို ဟုတ်သယောင် မဖော်ပြ၊ သူတစ်ပါးကို မုန်းတီးသည့်စိတ်... မှတ်ခတ် ရေးသားတာမျိုး မလုပ်၊ ဟုတ်မှန်သည့်အရာ ဖြစ်သည့်... တစ်ဦးတစ်ယောက် အခြောက်တိုက် နစ်နာမည့် ကိစ္စဆိုလျှင် ရှောင်ကြဉ်... မိမိ ရေးသားချက် အားလုံးအတွက် မိမိ တာဝန်ယူမည်၊ စသည့် ကျင့်ဝတ်... ထိန်းသိမ်းမည်ဆိုလျှင် အများ လက်ခံနိုင်လောက်ပြီ။

စာနယ်ဇင်းသမားသည် အများသူငါ နည်းတူ ပင်ကို အယူအဆ... ဖျောက်ပယ်ရန် ခက်သည့် အစွဲအလမ်းများ ရှိကြသူများချည်း ဖြစ်ရာ ရေးသ... တင်ပြရာ၌ တိမ်းစောင်း ချွတ်ချော်မှုများ ရှိနိုင်ကြသည်။ သည်ဟာ... စာနယ်ဇင်းသမား အချင်းချင်းက ထောက်ပြဝေဖန်ခြင်း၊ ထိခိုက်နစ်နာသူတို့... ဥပဒေကြောင်းအရ တရားစွဲဆိုခြင်းများအားဖြင့် ထိန်းကျောင်း တည့်မ... ကြလိမ့်မည်။

စင်စစ်၊ စာနယ်ဇင်းသမားသည် လူအများကြားမှာနေ၊ အများနည်း... ခံစားကာ၊ အများပြည်သူ အမြင်ကို အနီးစပ်ဆုံး တင်ပြနိုင်လျှင်... လုံလောက်သည်။ လူအမျိုးမျိုး အပြားပြား ကြားက စာနယ်ဇင်းသမားစုံတို့... တင်ပြချက်များ စုပေါင်းလျှင် အဲဒါသည် တိုင်းသူပြည်သားတို့၏ စုပေါင်းအမြ... ဖြစ်လိမ့်မည်။

## ပြည်သူ့ကိုယ်စားလှယ်များ

ချုပ်၍ ပြောရသော်၊

စာနယ်ဇင်းသမားသည် နိုင်ငံရေးသမားကား မဟုတ်။

သို့သော်၊

ပြည်သူ့အမြင်များကို စုစည်းတင်ပြရန် အလို့ငှာ မိမိတို့ဘာသာ တာဝ... အပ်နှင်းထားသည့် ပြည်သူ့ကိုယ်စားလှယ်များ ဟုဆိုနိုင်သည်။

သည်ကိုယ်စားလှယ်များ ဖွံ့ဖြိုးရှင်သန်စေမည့် စာနယ်ဇင်းလွတ်လပ်ခွင့်သ... ဒီမိုကရေစီအတွက် မရှိမဖြစ်သည့် အခြေခံ အုတ်မြစ်တစ်ခု ဖြစ်ပါသည်။

# ဒီမိုကရေစီ၏ သွင်ပြင်လက္ခဏာများ

ဒီမိုကရေစီနိုင်ငံ သို့မဟုတ် ဒီမိုကရေစီ အစိုးရတစ်ရပ် ဖြစ်ရန်အတွက် ပြည့်မီသည့် အချက်များနှင့် ကိုက်ညီရန် လိုအပ်သနည်း ဟူသည်ကို နိုင်ငံတကာရှိ ပညာတော်သီများ ပြည်သူများ စဉ်းစားကြ၊ ထုတ်ဖော်တင်ပြကြ၊ အတည်ပြု သတ်မှတ်ကြသည်။ အချို့က သည်အချက်တွေကို ဖွဲ့စည်းပုံ အခြေခံဥပဒေထဲ သို့မဟုတ် အခွင့်အရေးဆိုင်ရာ ဥပဒေပြဋ္ဌာန်းချက်များထဲမှာပင် တစ်ပါတည်း ထည့်သွင်းကြသည်။

တိုင်းပြည် တစ်ပြည်နှင့်တစ်ပြည် ပကတိ အခြေအနေနှင့် ဖြတ်သန်းခဲ့သော သမိုင်းတို့ မတူညီသည့်အလျောက် ဒီမိုကရေစီ ဟုဆိုကြသည့် နိုင်ငံအချင်းချင်း မှာပင် ဦးစားပေး အလေးထားမှုများ မတူညီကြသော်လည်း၊ မည်သည့် အရာများသည် ဒီမိုကရေစီအတွက် ရှိသင့်ရှိအပ်သော အခြေခံမှုများဖြစ်သည်ဟု မှတ်ယူကြရာ၌ကား ကွဲလွဲလေ့မရှိကြပေ။

အဆိုပါ တူညီသော အခြေခံမှုများကို စုစည်း ဖော်ပြရသော်

## (၁) နိုင်ငံသားတို့ ပါဝင်ဆောင်ရွက်မှု (citizen participation)

ဒီမိုကရေစီနိုင်ငံဖြစ်ကြောင်း ဖော်ပြသည့် သိသာထင်ရှားသော လက္ခဏာ တစ်ခုကား နိုင်ငံရေးရာ စီမံခန့်ခွဲမှုတွင် နိုင်ငံသားတို့ ပါဝင်ကြခြင်း ဖြစ်၏။ နိုင်ငံရေးရာ၌ ပါဝင်ဆောင်ရွက်ခြင်းသည် နိုင်ငံသားတို့အတွက် ရပိုင်ခွင့်သာ မဟုတ်၊ တာဝန်လည်း ဖြစ်၏။

နိုင်ငံသား ပါဝင်မှုဆိုရာ၌ ရွေးကောက်ပွဲတွင် ဝင်ရောက် ယှဉ်ပြိုင်ခြင်း၊ ရွေးကောက်ပွဲတွင် မဲပေးခြင်း၊ နိုင်ငံရေးရာများကို သိရှိအောင် လေ့လာ မှတ်သားခြင်း၊ ပြဿနာများကို ဆွေးနွေးဝေဖန်ခြင်း၊ ရပ်ရွာပြည်သူ့စည်းဝေးပွဲ များသို့ တက်ရောက်ခြင်း၊ အသင်းအဖွဲ့များတွင် ပါဝင်ဆောင်ရွက်ခြင်း၊ အကောက်အခွန်များ ပေးဆောင်ခြင်း၊ လိုအပ်သည့်အခါ မိမိသဘောဆန္ဒကို တင်ပြတောင်းဆိုခြင်း စသည့် အသွင်သဏ္ဌာန်မျိုးစုံတို့ အကျုံးဝင်သည်။

## (၂) တန်းတူညီမျှမှု (equality)

ဒီမိုကရေစီ လူ့အဖွဲ့အစည်းများသည် လူအားလုံးတန်းတူညီမျှကြသည် ဟူသော အခြေခံမှုကို အလေးအနက် ပြုကြသည်။ တန်းတူညီမျှခြင်းဟူသည် လူအသီးသီး

တို့အား ညီမျှစွာ တန်ဖိုးထားခြင်း၊ တူညီသော အခွင့်အရေးရရှိစေခြင်း၊ လူမျိုး ဘာသာ မျိုးနွယ်စု၊ လိင် စသည်တို့ ကွဲပြားမှုကြောင့် အတန်းအစား ခွဲခြားမှု ခွဲခြားခြင်း စသည်တို့ကို ဆိုလိုသည်။ ဒီမိုကရေစီနိုင်ငံတစ်ခုတွင် တစ်ဦးချင်းသော သူများနှင့် လူအုပ်စုများသည် အများနှင့် မတူသော မိမိတို့၏ ယဉ်ကျေးမှု ဘာသာစကား၊ ယုံကြည်မှုနှင့် စရိုက်လက္ခဏာများကို ထိန်းသိမ်းထားပိုင်ခွင့် ရှိသည်။

(၃) **နိုင်ငံရေးအရ သည်းခံမှု (political tolerance)**

ဒီမိုကရေစီ လူ့အဖွဲ့အစည်းများ၌ နိုင်ငံရေးသည်းခံမှု ရှိသည်။ တိုင်းပြည်တွင် အများစုကို ကိုယ်စားပြုသူတို့ အုပ်စိုးနေသော်လည်း အနည်းစု၏ အခွင့်အရေး များကို ကာကွယ်စောင့်ရှောက်မှု ပြုသည်။ အာဏာလက်ရှိ မဟုတ်သူတို့မှာလည်း စည်းရုံးခွင့်၊ မိမိ အယူအဆကို ဖော်ထုတ် ပြောဆိုခွင့်များ ရှိသည်။ အများစုနှင့် အယူအဆ ကွဲလွဲသည့် ထိုလူနည်းစုများကို 'အတိုက်အခံ' ဟူသော အသုံးအနှုန်း ဖြင့်လည်း သိမှတ် လက်ခံတတ်ကြသည်။

အုပ်စိုးသူတို့ သည်းခံမှုရှိသလို တစ်ဦးချင်းသော ပြည်သူအချင်းချင်းလည်း တစ်ဖက်လူ၌ မိမိနှင့် မတူညီသော အယူအဆရှိခြင်းကို သည်းခံနိုင်ရသည်။

တိုင်းပြည်များတွင် လူမျိုး၊ ဘာသာ၊ ယဉ်ကျေးမှုနှင့် မျိုးနွယ်စု အများ အပြားတို့ ရောနှောစုဝေး နေထိုင်ကြသည်ဖြစ်ရာ ကမ္ဘာရပ် အသီးသီးမှာလည်း လူများစုနှင့် လူနည်းစု ဟူ၍ ရှိနေကြပြီး၊ အဲသည် လူနှစ်စု၏ အယူအဆများ ကွဲပြားနေကြလိမ့်မည်။ သို့သော် ဒီမိုကရေစီ လူ့အဖွဲ့အစည်းတစ်ရပ်သည် ထိုကွဲပြားမှုများ အတူတကွ တည်ရှိနိုင်အောင် ထိန်းသိမ်းခြင်းဖြင့်ပင် ကြွယ်ဝ ပြည့်စုံမှု ရှိကြသည်။ အများစုက အနည်းစု၏ အခွင့်အရေးကို ငြင်းပယ်မည်၊ မတူညီသော အစုများကို ဖျက်ဆီးချေမှုန်းရန် အားထုတ်မည်ဆိုက ဒီမိုကရေစီကိုပါ ပျက်သုဉ်းစေမည် ဖြစ်သည်။

ဒီမိုကရေစီ၏ ရည်မှန်းချက်တစ်ခုမှာ လူ့အဖွဲ့အစည်းအတွက် ဖြစ်နိုင်သမျှ အကောင်းဆုံး ဆုံးဖြတ်လုပ်ကိုင်ဖို့ဖြစ်ရာ သည်အတွက် လူအားလုံးတို့ကို လည်းကောင်း၊ ၎င်းတို့၏ အယူအဆများကိုလည်းကောင်း၊ လေးစားမှုရှိ လိုသည်။ နိုင်ငံရေး ဆုံးဖြတ်ချက်များနှင့် စပ်လျဉ်း၍ နိုင်ငံသားတိုင်း၌ ဆွေးနွေးခွင့်၊ ငြင်းခုန်ခွင့်၊ စစ်ကြော ဝေဖန်ခွင့်များ ရှိမည်ဆိုက မိမိဆန့်ကျင်သော

အယူအဆဖြစ်စေ အများသဘောအရ ဆုံးဖြတ်ချက်ချခြင်းဖြစ်က လက်ခံနိုင်ကြမည်သာ ဖြစ်သည်။

### (၄) တာဝန်ယူမှု၊ ရှင်းလင်း တင်ပြ ပြောဆိုမှု (accountability)

ဒီမိုကရေစီနိုင်ငံတွင် ရွေးကောက် တင်မြှောက်ခံရသူများ၊ နိုင်ငံရေး ရာထူးများ၌ ခန့်အပ်ခံရသူများ အနေနှင့် မိမိလုပ်ဆောင်ချက်များအတွက် တာဝန်ယူခြင်း၊ ဆင်းတို့နှင့် ပတ်သက်၍ ပြည်သူများအား ရှင်းလင်းတင်ပြခြင်းများ ပြုလုပ်ရ၏။ တာဝန်ရှိ ပုဂ္ဂိုလ်များအနေနှင့် ဆုံးဖြတ်ချက်များ ချမှတ်ခြင်း၊ လုပ်ငန်းတာဝန်များ အကောင်အထည်ဖော်ခြင်းများ ပြုလုပ်ရာ၌ မိမိတို့အကျိုးအတွက် မဟုတ်ဘဲ ပြည်သူတို့၏ အလိုဆန္ဒနှင့်အညီသာ လုပ်ဆောင်ဖြစ်အောင် သည်တာဝန်က ဆိုင်းကျောင်းမှုပြုပေသည်။

### (၅) ရှင်းလင်း မြင်သာမှု (transparancy)

တာဝန်ယူမှုရှိသော အစိုးရတို့သည် တိုင်းပြည်၌ ဖြစ်ပျက်နေသည်များကို ပြည်သူတို့ သိရှိရန်အတွက် လူအများ တက်ရောက်နိုင်သည့် စည်းဝေးပွဲ ဆွေးနွေးပွဲများ ပြုလုပ်ကာ မိမိတို့ ဆောင်ရွက်ချက်များကို အခါအားလျော်စွာ အစီရင်ခံ တင်ပြခြင်းဖြင့် ရှင်းလင်း မြင်သာသော အစိုးရအဖြစ် သိမှတ်ခံရ၏။

ဒီမိုကရေစီနိုင်ငံတွင် နိုင်ငံရေးရာ ကိစ္စရပ်များနှင့် စပ်လျဉ်း၍ မည်သည့် ဆုံးဖြတ်ချက်များကို မည်သူတို့က မည်သည့် ရည်ရွယ်ချက်များဖြင့် ချမှတ်ကြောင်းကို စာနယ်ဇင်းသမားများရော ပြည်သူများပါ သိခွင့်ရကြ၏။

### (၆) လွတ်လပ်၍ တရားမျှတသော ရွေးကောက်ပွဲများ ပုံမှန်ကျင်းပခြင်း

နိုင်ငံရေးရာနှင့် စပ်လျဉ်းသည့် မိမိသဘောဆန္ဒကို အများပြည်သူတို့ ပြော နိုင်သည့် နည်းလမ်းတစ်ခုက အစိုးရပိုင်းတွင် ဆောင်ရွက်ရန်အတွက် မိမိတို့ ကိုယ်စားလှယ်များ ရွေးကောက် တင်မြှောက်ခြင်း ဖြစ်၏။ ဒီမိုကရေစီ နိုင်ငံတွင် အဆိုပါ ကိုယ်စားလှယ်များအား ရွေးချယ်ခြင်း၊ ဖယ်ရှားခြင်းတို့ကို လွတ်လပ်၍ တရားမျှတသော နည်းလမ်းများအားဖြင့် ပြုလုပ်ခြင်းဖြစ်၏။ ရွေးကောက်ပွဲ မတိုင်မီနှင့် ရွေးကောက်ပွဲကာလအတွင်း မဲဆန္ဒရှင်တို့အား ခြိမ်းခြောက်ခြင်း လာဘ်ပေးခြင်း စသည်တို့သည် ဒီမိုကရေစီစနစ်၏သဘောနှင့် ဆန့်ကျင်၏။

ဒီမိုကရေစီ နိုင်ငံများတွင် ရွေးကောက်ပွဲများကို သတ်မှတ်ထား
နှစ်ကာလများအတွင်း မှန်မှန် ကျင်းပပြုလုပ်ရ၏။ ရွေးကောက်ပွဲတွင် ပါ
ထည့်ပြိုင်ခွင့်သည် နိုင်ငံသားတို့၏ ဥစ္စာနေပေါ်တွင် အခြေမတည်ရ။ ဆင်
ချင်သော မရွေး အရွယ်ရောက်သူ မှန်လျှင် ရွေးကောက်ပွဲတွင် ဝင်ရော
ထည့်ပြိုင်ခွင့် ရှိရ၏။ ထို့ပြင် မဲဆန္ဒရှင်များမှာလည်း မဲပေးရာ၌ အနှောင့်အယှ
အတန့်အတားများ မရှိဖို့လို၏။ သို့မှသာ လွတ်လပ်၍ တရားမျှတ
ရွေးကောက်ပွဲ ဖြစ်နိုင်ပေသည်။

## (၇) စီးပွားရေးလွတ်လပ်မှု (economic freedom)

ဒီမိုကရေစီ နိုင်ငံတွင် ပြည်သူတို့သည် စီးပွားရေးအရ လွတ်လပ်ခွင့် ရှိရ
ယင်းအထဲတွင်၊ ဥစ္စာပစ္စည်း ပိုင်ဆိုင်ခွင့်နှင့် လုပ်ငန်းများ ထူထောင် လုပ်
ခွင့်တို့ ပါဝင်သကဲ့သို့၊ မိမိအလုပ်ကို မိမိဘာသာ ရွေးချယ်ခွင့်နှင့် လုပ်သ
အသင်းအဖွဲ့များတွင် ပါဝင်ပိုင်ခွင့်တို့လည်း အကျုံးဝင်၏။ တိုင်းပြည်စီးပွားရေးတွ
အစိုးရတို့ ဝင်ရောက်ခန့်ခွဲမှုနှင့် စပ်လျဉ်း၍ အယူအဆ အမျိုးမျိုး ရှိကြသော်လည်
ယေဘုယျအားဖြင့်မူ လွတ်လပ်သော ဈေးကွက်စနစ် တည်ရှိရေးနှင့် အစိုးရ
ကြီးကြီးမားမား ဝင်ရောက် ထိန်းချုပ်မှု မပြုရေးကို လက်ခံကြ၏။ အချို့က
တိုင်းပြည်၌ ယခင်က ရှိခဲ့သည့် မမျှတသော စနစ်များ၊ အခွင့်အရေး မတူ
ခွဲခြားမှုများကြောင့် ဆင်းရဲ ချမ်းသာ ကွာဟမှု များပြားနေခဲ့မည်ဆိုလ
ယင်းအနေအထား လျော့ပါးစေရန်အတွက် အစိုးရတို့က စီးပွားရေးပိုင်းတွ
များများစားစား ပါဝင်ဆောင်ရွက်သင့်သည် ဟုယူဆကြ၏။

## (၈) အာဏာအလွဲသုံးမှုများကို ထိန်းချုပ်ခြင်း

ဒီမိုကရေစီနိုင်ငံများတွင် ရွေးကောက်ခံ ပုဂ္ဂိုလ်များကသော် လည်းကောင်း
အချို့သော လူအုပ်စုများကသော် လည်းကောင်း အာဏာ အလွဲသုံးမှုမျ
မပြုနိုင်အောင် တားဆီးကာကွယ်လေ့ရှိကြ၏။ အလွဲသုံးမှုများထဲတွင် အများ
ပြည်သူ့ဘဏ္ဍာကို မိမိအကျိုးအတွက် အသုံးပြုခြင်း၊ မိမိလုပ်ပိုင်ခွင့်တို
ကျော်လွန်၍ အာဏာသုံးစွဲခြင်း စသည်တို့ ပါဝင်၏။

ယင်းသို့ အလွဲသုံးမှုများ မဖြစ်ပေါ်ရန်အတွက် အစိုးရအဖွဲ့အစည်း
အစိတ်အပိုင်း အသီးသီးတို့အား လုပ်ပိုင်ခွင့်အာဏာများကို ခွဲခြားသတ်မှတ်ကာ

အပြန်အလှန် ထိန်းချုပ်မှုများ ပြုလုပ်နိုင်အောင် စီစဉ်ထားရ၏။ တရားရုံးများ သီးခြား လွတ်လပ်စွာ ဆောင်ရွက်ပိုင်ခွင့် ရှိရသည့်အပြင်၊ ရွေးကောက်ခံ လွှတ်တော်များ၊ အစိုးရဌာနဆိုင်ရာများနှင့် ရဲတပ်ဖွဲ့ စသည်တို့ ဥပဒေနှင့်မညီသော ဆောင်ရွက်ကိုင်မှုများရှိခဲ့သော် ထိန်းချုပ်နိုင်မည့် အဖွဲ့အစည်းများလည်း ရှိရ၏။

## (၉) ရပိုင်ခွင့်ဥပဒေ (bill of rights)

ဒီမိုကရေစီ နိုင်ငံအများအပြားမှာပင် ပြည်သူတို့အား အာဏာ အလွဲသုံးမှုများမှ အကာအကွယ်ပြုရန်အတွက် ရပိုင်ခွင့်ဥပဒေ ဟူသည်များကို ဖွဲ့စည်းပုံအခြေခံ ဥပဒေထဲတွင် ထည့်သွင်း ပြဋ္ဌာန်းလေ့ရှိ၏။ ၎င်းဥပဒေများသည် ပြည်သူတို့၏ ရပိုင်ခွင့်များနှင့် လွတ်လပ်ခွင့်များကို အာမခံချက် ပေးထားလေ့ရှိ၏။ ဖွဲ့စည်းပုံ ထဲတွင် ပါဝင်သဖြင့် ၎င်းတို့အား တရားရုံး၏ အာဏာဖြင့် အကာအကွယ် ပေးနိုင်၏။ ရပိုင်ခွင့်ဥပဒေများသည် အစိုးရတို့ အာဏာ အလွန်အကျွံ သုံးစွဲနိုင်အောင် ကန့်သတ်ဟန့်တားသော သဘောလည်း ရှိပေသည်။

## (၁၀) ပါတီစုံစနစ် ကျင့်သုံးမှု (multi-party system)

တိုင်းပြည်ကို စီမံအုပ်ချုပ်မည့် အစိုးရတစ်ရပ် ပေါ်ပေါက်ရန်အတွက် ရွေးကောက်ပွဲများ ကျင်းပရွေးချယ်ရာတွင် ဝင်ရောက်ယှဉ်ပြိုင်သော ပါတီ တစ်ခုထက်မက ရှိဖို့လို၏။ ပါတီစုံစနစ် ရှိသောအခါ ရွေးကောက်ပွဲတွင် အနိုင်ရသော ပါတီက တိုင်းပြည်ကို စီမံအုပ်ချုပ်မည့် အစိုးရအဖွဲ့ ဖွဲ့စည်း ဆောင်ရွက်စဉ်၊ တစ်ဖက်၌လည်း ယင်းနှင့်အပြိုင် အတိုက်အခံ ဟုခေါ်သော အဖွဲ့အစည်းများ ရှိနေ၏။ ၎င်းတို့က အစိုးရ၏ လုပ်ရပ်များကို ဝေဖန် ထောက်ပြခြင်း၊ တိုင်းပြည်၏ အထွေထွေ အရပ်ရပ် ပြဿနာများနှင့် စပ်လျဉ်း၍ အစိုးရအဖွဲ့နှင့် မတူသော အခြားအမြင်များကို ပြည်သူများအား အသိပေး သိအောင် တင်ပြခြင်းများ ပြုလုပ်နိုင်ကြရာ တိုင်းပြည်ကို တစ်ဖက်တစ်လမ်းမှ ကူညီ ထိန်းကျောင်းပေးသော သဘောဖြစ်၏။

ထို့ပြင် ပါတီစုံစနစ်သည် မဲဆန္ဒရှင်တို့အတွက် ရွေးချယ်ခွင့် ပိုမိုပေးပြီး ပါတီများနှင့် ရွေးကောက်ပွဲ ဝင်သူများထဲမှ မိမိ နှစ်သက်ရာတို့ ထည့်သွင်းနိုင်ကာ မိမိ နှစ်သက်သည့် နိုင်ငံရေး ပေါ်လစီကို လည်းကောင်း ထောက်ခံ အားပေးနိုင် စေပေသည်။

## (၁၁) ဥပဒေအာဏာ ပိုင်စိုးမှုနှင့် ဥပဒေနှင့်အညီ တရားစီရင်မှု

ဒီမိုကရေစီနိုင်ငံတွင် ဘုရင်နှင့် ရွေးကောက်ခံသမ္မတတို့ အပါအဝင် မည်သူမျှ တရားဥပဒေ၏ အထက်၌ မရှိနိုင်ကြပေ။ ဤသည်ကို ဥပဒေအာဏာပိုင်စိုးမှု ဟုခေါ်၏။ လူတိုင်းသည် တရားဥပဒေကို လေးစား လိုက်နာရသည်။ အကယ်၍ ချိုးဖောက်ခဲ့သည်ရှိသော် တာဝန်ယူ ဖြေရှင်းကြရမည် ဖြစ်၏။

တစ်ဖက်တွင်၊ တရားဥပဒေအရ အရေးယူ ဆောင်ရွက်မှုများသည် အားလုံးအတွက် တန်းတူညီမျှ ဖြစ်ရ၏။ ထို့ပြင် တရားရုံးသည် အစိုးရ၏ အခြားအဖွဲ့အစည်းများထံ၌ ဩဇာလွှမ်းမိုးခြင်း မခံရသည့် လွတ်လပ်သော တရားရုံး ဖြစ်ရ၏။ အမှုစစ်ဆေးရာသို့ အများပြည်သူ လာရောက်ကြည့်ရှုနိုင်ပြီး တရားရုံး လုပ်ထုံးလုပ်နည်း အစီအစဉ်အတိုင်း နှောင့်နှေးမှုမရှိ ဆောင်ရွက်ရ၏။



ဤသည်ကား ဒီမိုကရေစီ နိုင်ငံများတွင် တွေ့ရလေ့ရှိသည့် တူညီသော လက္ခဏာရပ်များအနက် အရေးပါသော အချက်အချို့ကို စုစည်း ဖော်ပြထားခြင်း ဖြစ်၍၊ တိုင်းပြည် အသီးသီးတို့၌ ဒီမိုကရေစီ မည်ရွေ့မည်မျှ ရှိ မရှိ သိလိုသော် အဆိုပါ အချက်များနှင့် ချိန်ထိုး တွက်ဆနိုင်ကြပါသည်။

# ကမ္ဘာ့နိုင်ငံများနှင့် ဒီမိုကရေစီအဆင့်

တိုင်းပြည်တစ်ပြည်သည် ဒီမိုကရေစီနိုင်ငံ ဟုတ်သလား မဟုတ်ဘူးလား အငြင်းပွား ရတာတွေ ရှိသည်။

သို့မဟုတ်

အဲသည် တိုင်းပြည်တစ်ပြည်တွင် ဒီမိုကရေစီ ဘယ်လောက် ဘယ်ရွေ့ ရှိသလဲ၊ ၎င်းနှင့် တိုင်းပြည် A နှိုင်းယှဉ်လျှင် ဘယ်သူက ပို၍ ဒီမိုကရေစီ ရှိသလဲ၊ တိုင်းပြည် B နှင့် ဆိုလျှင်ကော၊...

သည့်အပြင်၊

အဲသည်တိုင်းပြည်သည် အရင်တုန်းကနှင့်စာသော် ယခုအခါ ဒီမိုကရေစီ ပိုရှိလာသည်။ သို့မဟုတ် အဲသည်တိုင်းပြည်မှာ အရင်တုန်းက ဒီမိုကရေစီ အခွင့်အရေးတွေ အတော်ရှိသည်၊ ယခုအခါ ယခင်ကလောက် မရှိတော့... စသဖြင့် တိုင်းပြည်တို့၏ ဒီမိုကရေစီ ရေချိန်အနိမ့်အမြင့်တို့ကို ဝေဖန်စစ်ကြော ပြောဆိုမှုတွေ ရှိတတ်ကြသည်။

အဲသည်လို စစ်ကြောမှုမျိုးကို ပို၍ စနစ်တကျ ပြုလုပ်ချင်တတ်သည့် The Economist မဂ္ဂဇင်းက ကမ္ဘာ့နိုင်ငံပေါင်း ၁၆၇ ခုနှင့် စပ်လျဉ်းသည့် အခြေအနေ အရပ်ရပ်တို့ကို စူးစမ်းလေ့လာကာ ကဏ္ဍအသီးသီးအလိုက် အဆင့်အမှတ်တွေ ပေးပြီး၊ ယင်းတို့မှ ထွက်ပေါ်လာသည့် ဒီမိုကရေစီ အညွှန်းကိန်း Democracy index ဟူသည်ကို အခြေခံ၍၊ ကမ္ဘာ့နိုင်ငံများကို ဒီမိုကရေစီရှိမှု အနည်းအများအလိုက် တန်းစီ ဖော်ပြခဲ့သည်။

၂၀၀၈ ခုနှစ်က ပြုလုပ်သည့် ၎င်းစာရင်းဇယားအရ အမှတ်ပြည့် ၁၀ မှတ်တွင် ၉.၈၈ မှတ်ရသည့် ဆွီဒင်နိုင်ငံက ကမ္ဘာပေါ်တွင် ဒီမိုကရေစီ **အရှိဆုံး** နိုင်ငံအဖြစ် ပထမစွဲပြီး၊ စာရင်းတွင် နောက်ဆုံးက ပါသည့် **အာရှအလယ်ပိုင်းက** တိုင်းပြည်ကမူ အညွှန်းကိန်း ၀.၈၆ သာ ရရှိတာ တွေ့ရသည်။

ဒီမိုကရေစီ အညွှန်းကိန်းအတွက်၊ တွက်ချက်ရာတွင် **ကဏ္ဍငါးခုတို့** အဓိက အာရုံပြုခဲ့သည်။ ၎င်းတို့မှာ

(၁) ရွေးကောက်ပွဲ ဖြစ်စဉ်နှင့် ဗဟုဝါဒ **ကျင့်သုံးမှု**

(၂) ပြည်သူ့လွတ်လပ်ခွင့်များ

(၃) အစိုးရ၏ လုပ်ငန်းယန္တရားများ လုပ်ကိုင်**ဆောင်ရွက်မှု**

(၄) နိုင်ငံရေးတွင် အများပြည်သူတို့ ပါဝင်မှု အတိုင်းအဆ
(၅) နိုင်ငံရေး ယဉ်ကျေးမှု (ဝါ) တိုင်းပြည်၌ ထွန်းကား တည်ရှိနေသည့် နိုင်ငံရေး ဓလေ့စဉ်လာများ စသည်တို့ ဖြစ်၏။

ထို့နောက် ၎င်းကဏ္ဍအသီးသီး အောက်၌ မေးခွန်း သို့မဟုတ် အသေးစိတ် စိစစ်ရန် အချက်များ ရွေးချယ်သတ်မှတ်ကာ တိုင်းပြည်အသီးသီးကို အဆိုပါ မေးခွန်းများနှင့် ချိန်ထိုး စိစစ်သည်။

ဒီမိုကရေစီ ပေတံအဖြစ် ၎င်းတို့ အသုံးပြုခဲ့သည့် မေးခွန်းများမှာ စုစုပေါင်း ၆၀ ရှိ၍ နမူနာ သဘောပြောရသော်

(၁) ရွေးကောက်ပွဲများသည် လွတ်လပ်၍ တရားမျှတမှု မည်မျှ ရှိ မရှိ၊
(၂) မဲပေးသူများ လုံခြုံမှု မည်မျှ ရှိ မရှိ၊
(၃) ပုဒ်ဆိုင်းပြည် အစိုးရအပေါ် တိုင်းတစ်ပါး အင်အားများ လွှမ်းမိုးမှု မည်မျှ ရှိ ရှိ၊ — စသည့် မေးခွန်းမျိုးများ ဖြစ်သည်။

မေးခွန်း အသီးသီးသည် ဖြူသည်၊ မည်းသည် ယတိပြတ်ဖြေ၍ မရဘဲ ဖြူသည် ဟုဆိုရလိမ့်မည်၊ အဖြူဘက်များသည်၊ မဖြူမမည်း၊ အမည်းဘက်များသည်၊ မည်းသည် ဟုဆိုရလိမ့်မည် ဆိုတာမျိုး ချင့်တွက် ဖြေဆိုရမည့် မေးခွန်းများချည်းဖြစ်ရာ ရလဒ်များကို ပြန်လည် သုံးသပ်သည့်အခါ လွယ်ကူစေရန်အတွက် ၎င်းချင့်တွက် အဖြေများကို အမှတ်ပေး စနစ်တစ်ခုဖြင့် ရမှတ် (ကိန်းဂဏန်း)များ အဖြစ်သို့ ပြောင်းလဲယူသည်။

၎င်းရမှတ်များကို ပြန်ချုပ်ကာ တိုင်းပြည်အသီးသီး၏ ဒီမိုကရေစီ ရမှတ် သို့မဟုတ် အညွှန်းကိန်းကို ထုတ်ယူသည်။

ထို့နောက်တွင် အနိမ့်ဆုံး ၀ မှ အမြင့်ဆုံး ၁၀ ထိ သတ်မှတ်ထားသည့် အဆိုပါ ဒီမိုကရေစီ ပေတံဖြင့် တိုင်းတာထားသည့် တိုင်းပြည် ၁၆၇ ပြည်တို့အား ရမှတ်များအရ တန်းစီ ဇယားချကာ

(၁) ဒီမိုကရေစီအပြည့် နိုင်ငံများ (Full democracies) (၈–၁၀ မှတ်)
(၂) ချို့ယွင်းချက်များရှိသည့် ဒီမိုကရေစီ နိုင်ငံများ (Flawed democracies) (၆–၇.၉ မှတ်)
(၃) ဒီမိုကရေစီနှင့် အာဏာပိုင် ရောစပ်နိုင်ငံများ (Hybrid regimes) (၄–၅.၉ မှတ်)
(၄) အာဏာပိုင် အစိုးရနိုင်ငံများ (Authoritarian regimes) (၃ မှတ်အောက်)

ဟူ၍ ၄ မျိုး ခွဲခြားဖော်ပြခဲ့သည်။

ငင်းစာရင်းကို ချုပ်၍ ဖော်ပြရသော်

ဒီမိုကရေစီအပြည့်နိုင်ငံများ ကဏ္ဍတွင် တိုင်းပြည် ၃၀ ပါဝင်ပြီး အမြင့်ဆုံးမှာ ဆွီဒင်နိုင်ငံ ဖြစ်သည်။ ငင်းအောက်တွင် (၂) နော်ဝေ၊ (၃) အိုက်စလန်၊ (၄) နယ်သာလန်၊ (၅) ဒိန်းမတ်တို့ ရှိပြီး အမေရိကန်က အဆင့် ၁၈၊ ဗြိတိန်က အဆင့် ၂၁ မှာ ရှိသည်။ အပြည့်စာရင်းတွင် အောက်ဆုံး နံပါတ် ၃၀ က ဘယ်၍ ပါဝင်သွားသူမှာ ဆလိုဗင်းနီးယားနိုင်ငံ ဖြစ်သည်။

ဒီမိုကရေစီ တင်းပြည့်ကျပ်ပြည့် မရှိ၊ အားနည်းချက်တွေ ရှိသည်ဟု ဆိုသည့် ဒုတိယကဏ္ဍ (အဆင့် ၃၁–၈၀) တွင် တိုင်းပြည် ၅၀ ပါဝင်သည်။ ငင်းအထဲတွင် တောင်အာဖရိက (၃၁)၊ အိန္ဒိယ (၃၅)၊ အစ္စရေး (၃၈)၊ ထိုင်း (၅၄)၊ မလေးရှား (၆၈)၊ အင်ဒိုနီးရှား (၆၉)၊ ဖိလစ်ပိုင် (၇၇) စသည်တို့ တွေ့ရသည်။

ဒီမိုကရေစီ လက္ခဏာနှင့် အာဏာပိုင် လက္ခဏာများ ရောစပ်နေသည့် တတိယကဏ္ဍနိုင်ငံများ စာရင်းတွင် ၃၆ နိုင်ငံ (အဆင့် ၈၁ မှ ၁၁၆ ထိ) ပါဝင်ပြီး၊ ယင်းအထဲမှ နိုင်ငံအချို့ကို ဖော်ပြရသော် စင်ကာပူ (၈၂)၊ ပါလက်စတိုင်း အာဏာပိုင် (၈၅)၊ ဘင်္ဂလားဒေ့ရှ် (၉၁)၊ ကမ္ဘောဒီးယား (၁၀၂)၊ ရုရှား (၁၀၇)၊ ပါကစ္စတန် (၁၀၈)၊ အီရတ် (၁၁၆) တို့ ဖြစ်သည်။

အာဏာပိုင် အစိုးရနိုင်ငံများဟု အမည်ပေးထားသည့် စတုတ္ထကဏ္ဍတွင် တိုင်းပြည် ၅၁ ပြည် (အဆင့် ၁၁၇ မှ ၁၆၇ အထိ) ပါဝင်ပြီး၊ ငင်းအထဲတွင် ဂျော်ဒန် (၁၁၇)၊ အီဂျစ် (၁၁၉)၊ တရုတ် (၁၃၆)၊ အီရန် (၁၄၅)၊ ဆော်ဒီအာရေဗျ (၁၆၁) စသည်တို့ တွေ့ရှိရသည်။

The Economist မဂ္ဂဇင်း၏ အဆိုပါ စာရင်းမှာ ၂၀၀၈ ခုနှစ်က ထုတ်ပြန်ခဲ့ခြင်းဖြစ်ရာ ပြီးခဲ့သည့် နှစ်နှစ်တာ ကာလအတွင်း တိုင်းပြည် အသီးသီး၌ ဖြစ်ပေါ်သည့် ရွေးကောက်ပွဲများ၊ ပြည်သူ့အခွင့်အရေး တိုးတက်မှု ဆုတ်ယုတ်မှုများ၊ အစိုးရတို့၏ အကောင်း အဆိုး လုပ်ဆောင်ချက်များ အများပြည်သူတို့ နိုင်ငံရေးတွင် ပါဝင်မှုများ၊ နိုင်ငံရေးဓလေ့ အပြောင်းအလဲ များပေါ် မူတည်ကာ လက်ရှိအချိန်၌ ငင်းတိုင်းပြည်များ၏ ဒီမိုကရေစီ အညွှန်းကိန်းများသည် လည်းကောင်း၊ နေရာအဆင့်များသည် လည်းကောင်း တက်ကျ ပြောင်းလဲနေနိုင်ပါသည်။

# ထရိုဂျန်မြင်း သို့မဟုတ် ဂရိတို့၏ စစ်ပရိယာယ်

ကမ္ဘာဦးအစ လူတွေ စုဝေးနေထိုင်လာကတည်းက စစ်တိုက်ခဲ့သည်။

ကျောက်ခေတ်တုန်းက အစပိုင်းမှာ ရရာ ကျောက်တုံးကျောက်ခဲနှင့် နောက်တော့ ရန်သူ ပို၍ အထိနာအောင် ချွန်မြထက်ရှသော ကျောက်ဓား ကျောက်လှံတို့ဖြင့်။

အဲသည်ကနေ သည်ကနေ့၊ လူတွေ ယဉ်ကျေးလှပါပြီဆိုသော ကာလအထိ စစ်က ပြတ်သည် မရှိ။

စစ်နိုင်ဖို့အတွက်နှင့် စစ်မရှုံးဖို့အတွက် ခေါင်းကုတ် အကြံထုတ်ရင်း စစ်လက်နက် ကိရိယာ တန်ဆာပလာတွေလည်း အသစ်အသစ် ဖြစ်ပေါ်ခဲ့သည်။ တစ်ယောက်က လက်နက်ဆန်း တီထွင်လျှင် သည်လက်နက်ဆန်းကို ကာကွယ်ဖို့ တစ်ယောက်က စဉ်းစားရသည်။

မြို့ထဲ အခိုင်အမာနေသူက မြို့ရိုးတံတိုင်းကြီး ကြံ့ခိုင်အောင် အားဖြည့် ရသည်။ လာတိုက်သူတွေကို ခုခံတွန်းလှန်ရန် နည်းလမ်းမျိုးစုံဖြင့် ပြင်ဆင် ရသည်။ အခိုင်အမာနေသော မြို့ကို တိုက်ခိုက် သိမ်းပိုက်မည့်သူကလည်း မြို့ရိုးကြီး ပြိုအောင် ထုနှက် ဖြိုဖျက်မည့် ယန္တရားမျိုးစုံ အသုံးပြုကြသည်။

အဲသည့်နောက်မှာ အသေခံပြီး တိုက်သူက တိုက်ကြ၊ အသက်ဆေး ကာကွယ်သူတွေက ကာကွယ်ကြ။

သည်လို လက်နက်အားကိုး လက်ရုံးရည် အားကိုးနှင့် တိုက်၍ မနိုင်သည့်အခါ ဉာဏ်နီဉာဏ်နက်တွေ သုံးကြသည်။ နည်းပရိယာယ် ဆိုပါတော့။

အဲသည်ဟာတွေထဲမှာ အရေးပါသည့် နည်းလမ်းတစ်ရပ်က ရန်သူ့ အဝန်းအဝိုင်းထဲ ကိုယ့်လူတွေ ရောက်အောင် ထည့်သောနည်း ဖြစ်သည်။

ရည်ရွယ်ချက်က ရန်သူကို အတွင်းမှဝင်၍ ထိုးနှက်ဖို့။

အဲသည်နည်းကို စောစောပိုင်းခေတ်က အထင်ရှားဆုံး အောင်မြင်စွာ သုံးစွဲခဲ့သည်က ဂရိလူမျိုးများ ဖြစ်၍၊ သုံးစွဲခဲ့သည့် စစ်ပွဲက ရှေးခေတ်ဂရိများနှင့် ထရွိုင်း (Troy) မြို့သားများ ဆင်နွှဲခဲ့ကြသည့် ထရိုဂျန်စစ်ပွဲ၊ (Trojan War) ဖြစ်သည်။

ခေါင်းစဉ်မှာ ဖော်ပြထားသည့် ထရိုဂျန်မြင်း Trojan horse ဆိုသည်က



ရှေးနှစ်ပေါင်းများစွာက မြေထဲပင်လယ် ကမ်းရိုးတန်း အရှေ့မြောက်ဘက်၊ ယနေ့ တူရကီနယ်မြေထဲတွင် ထရွိုင်းအမည်ရှိ မြို့နိုင်ငံတစ်ခု တည်ရှိသည်။

ထရွိုင်းဘုရင် ပရီယမ်၏သား ပါရီမင်းသားက ဂရိမြို့ပြနိုင်ငံတစ်ခုဖြစ်သည့် စပါတာမှ ဘုရင်မင်းနီလေးအပ်(စ)၏ မိဖုရားဟယ်လင်အား ခိုးယူသွားသည့်ကိစ္စကို အကြောင်းပြု၍ ထရွိုင်းမြို့ကို ဂရိခုနစ်ပြည်ထောင် တပ်တို့ ဝန်းရံပိတ်ဆို့တိုက်ခိုက်သဖြင့် ထရွိုင်းစစ်ပွဲ သို့မဟုတ် ထရိုဂျန်စစ်ပွဲကြီး ဖြစ်ပွားခဲ့သည်။

ထရွိုင်းသားတွေက အဲသည် တိုက်ခိုက်မှုမျိုးကို ရင်ဆိုင်နိုင်အောင် သူတို့မြို့ကို အခိုင်အလုံ တည်ဆောက်ထားသည်ဖြစ်ရာ ဂရိစစ်သည်တို့ ဆယ်နှစ်ဆယ်မိုးကြိုးစားသော်လည်း မြို့ရိုးကြီးကို မဖြိုနိုင်ကြ။ သို့သော် ပိတ်ဆို့ခံရတာကြာသည့်အခါ ထရွိုင်းသားတွေ ဆင်းရဲကျပ်တည်းလာသည်။ အလားတူ မြို့ပြင်က ဝိုင်းရံနေရသူတွေလည်း စစ်ပန်းလှပြီ။

သည်အချိန်တွင် ဂရိတို့၏ ပညာစောင့်နတ်သမီးလည်း ဖြစ်၊ စစ်ဗျူဟာနတ်သမီးလည်း ဖြစ်သည့် အသီးနီ (Athene) က သစ်သားမြင်းရုပ်ကြီးတစ်ခုဖြင့် ထရွိုင်းမြို့တွင်း ဝင်ရောက်နိုင်ကြောင်း နည်းလမ်းပေးသည်။ လက်သမားဆရာအီးပီယပ်(စ)ကလည်း အသီးနီ၏ ကြီးကြပ်မှုဖြင့် မြင်းရုပ်ကြီးကို သူ တည်ဆောက်ပြုလုပ်ပေးမည်ဟု တာဝန်ယူသည်။

အီးပီယပ်(စ)သည် ထင်းရှူးသား ပျဉ်ချပ်များဖြင့် စပ်ကာ ကျယ်ဝန်းသော ဝမ်းခေါင်းရှိသည့် မြင်းရုပ်ကြီးတစ်ခု တည်ဆောက်ပြီး နံဘေးတစ်ဖက်တွင် သာမန်ကြည့်ရှု၍ မမြင်နိုင်သည့် အံဝှက်တံခါးတစ်ခု တပ်ဆင်သည်။ အခြားဘေးတစ်ဖက်တွင်မူ အောက်ဘက်ရှိ လူများ ဖတ်ရှုနိုင်လောက်အောင် ကြီးမားသောစာလုံးများဖြင့် ကမ္ပည်းစာတစ်ခု ထင်ရှားစွာ ရေးထိုးသည်။ ကမ္ပည်းစာ၌ "မိမိတို့ စစ်သည်များ အိမ်အပြန် ခရီးလမ်းတွင် အန္တရာယ်ကင်းအောင် စောင့်ရှောက်တော်မူမည့် အသီးနီ နတ်သမီးအား ကြိုတင် ကျေးဇူးတင်သောအားဖြင့် ဤမြင်းရုပ်ကြီးကို ပူဇော်ပသပါကြောင်း" ဖော်ပြထားသည်။

ထို့နောက်တွင် ဂရိပြည်ထောင်စု တပ်ဖွဲ့ခေါင်းဆောင် အောဒစ်ဆီယပ်(စ) (Odysseus) က ဂရိများထဲမှ အရဲရင့်ဆုံး စစ်သည်တော်များကို စုရုံးကာ မြင်းရုပ်ကြီးကို ကြိုးလှေကားဖြင့် ချိတ်တက်ပြီး ဝမ်းဗိုက်တွင်းသို့ အံဝှက်တံခါးမှ ဝင်စေသည်။ ထိုပ်သီး စစ်သည်တော်စုတွင် ဟယ်လင်၏ ခင်ပွန်းတော် မင်းနီလေးအပ်(စ)အပြင်၊ ဒိုင်အိုမီဒီး(စ)၊ ဆသီနီးလပ်(စ)နှင့် အကာမတ်(စ်)

သို့အဘ်(စ)၊ နီယိုတော်လီမတ်(စ) စသည့် စစ်ခေါင်းဆောင်များနှင့်၊ အောဒ ဆီသယ်(စ)တို့သိတိုင်လည်း ပါဝင်သည်။ သည့်အပြင် မြင်းရုပ်ကြီး တည်ဆောက်သူ အီဆီသဘ်(စ)အားလည်း ချော့၍လည်းကောင်း၊ ချောက်၍လည်းကောင်း သဘောတိုး၍လည်းကောင်း မြင်းဗိုက်ထဲ လိုက်ပါအောင် ခေါ်ယူခဲ့သည်။

သူကား နောက်ဆုံးမှ တက်ပြီး အပေါ်ရောက်သည့်အခါ ကြိုးလှေကား ဆွဲယူသည်။ ပြီးလျှင် အဲဝက်တံခါးကို ပိတ်ပြီးနောက် အဖွင့်အပိတ်ခလုတ် ဆင်ဆင်ထားသည့် နေရာအနီးတွင် ထိုင်သည်။ သည်ခလုတ်က ပညာသားပါ သူလုပ်ထားသည် ဖြစ်ရာ အဖွင့်အပိတ်ကို သူပဲ ကျွမ်းကျင်သည်။

ညဘက်ရောက်သည့်အခါ ခေါင်းဆောင်တစ်ဦးဖြစ်သူ အဂ္ဂါမင်(မ)နှင့် ကြီးကြပ်မှုဖြင့် တပ်စခန်း၌ ကျန်ရစ်သည့် ဂရိစစ်သည်တို့က မိမိတို့ ပစ္စည်း ပစ္စယများကို သိမ်းဆည်းကာ စခန်းကို မီးရှို့ပြီးနောက် ပင်လယ်ပြင်သို့ ထွက်ခွာကြသည်။ သို့သော် ဂရိပြည်သို့ ပြန်ခြင်း မဟုတ်။ တင်နီဒေါ့စ်နှင့် ကယ်လစ်(ဒ)နီယန် ကျွန်းများဘက်၌ နောက်တစ်နေ့ ညအထိ သွားရောက် ပုန်းခိုနေကြခြင်း ဖြစ်သည်။

သူတို့ ထွက်သွားပြီး နောက်နေ့ မနက်မှာပင် ထရိုဂျန်ကင်းထောက်တို့က ဂရိ စစ်စခန်း မီးလောင်ပြာကျသွားပြီဖြစ်ကြောင်း၊ ၎င်းတို့အားလုံး ထွက်ခွာ သွားကြပြီး ဧရာမ မြင်းရုပ်ကြီးတစ်ခုသာ ပင်လယ်ကမ်းခြေ၌ ထားခဲ့ကြောင်း သတင်းပို့ကြသည်။

ပရီယမ်ဘုရင် သားတွေတစ်ပြုံနှင့် မြို့ပြင်ထွက်ကာ ကိုယ်တိုင် ကြည့်ရှု သည်။ မြင်းရုပ်ကြီးကို တအံ့တဩ ငေးမောရင်း သိုင်မိုးတီးစ်က စတင်၍ 'အသီးနီ နတ်သမီးကို ပူဇော်ပသတာ ဆိုတော့ ကျွန်တော်တို့ ဒီအရုပ်ကြီးကို မြို့ထဲယူပြီး နတ်သမီးရဲ့ဗိမာန်မှာ သွားထားတာ သင့်တော်လိမ့်မယ် ထင်တယ်' ဟုဆိုသည်။

'ဟာ၊ မဖြစ်ဘူးဗျ' ကက်ပိစ်က ကန့်ကွက်သည်။ 'အသီးနီက ဂရိတွေကို မျက်နှာသာ ပေးလာတာ ကြာပြီဗျ၊ ဒါကြီးကို အခုချက်ချင်း မီးရှို့ပစ်တာ ကောင်းလိမ့်မယ်။ ဒါမှမဟုတ် ဗိုက်ထဲ ဘာတွေရှိလဲ ဖောက်ကြည့်မှ ဖြစ်မယ်'

သို့သော် ပရီယမ်က ကြားဝင် အဆုံးအဖြတ် ပေးသည်။ 'သိုင်မိုးတီးစ် ပြောတာ မှန်တယ်၊ ဒါကြီးကို ဒလိမ့်တုံးတွေနဲ့တင်ပြီး လိမ့်ယူရမယ်၊ အသီးနီရဲ့ ပစ္စည်းကို ဘယ်သူမှ အဂါရဝ မပြုကြစေနဲ့'

သို့နှင့် မြင်းရုပ်ကြီးကို မြို့တွင်းသွင်းဖို့ ကြိုးစားကြသည်။ အရုပ်တာ ကြီးပြီး မြို့တံခါးပေါက်က သေးနေရာ နံရံကိုပင် ဖြိုရ ဖဲ့ရသည်။ ဒါတောင်မှပင် ဆေးကြိမ်လောက် ညပ်၍ နေသေးသည်။ ထရွိုင်းမြို့သားတွေ သူတို့မြို့ကို ဖျက်မည့် ရန်သူများအား ဝမ်းဗိုက်ထဲ ထည့်ခေါ်လာသည့် မြင်းရုပ်ကြီးကို အသီးနီဗိမာန် ရောက်အောင် ခဲယဉ်း ပင်ပန်းစွာ သယ်ဆောင်ကြသည်။ တစ်ချိန်တည်းတွင် ပဲ့ရွဲ့သွားသည့် မြို့တံခါးကိုလည်း လုံခြုံရေး သတိရှိစွာဖြင့် အလျင်အမြန် ပြန်လည် ပြင်ဆင်ကြသည်။

ညသန်းကောင်ယံ အချိန်၌၊

အောဒစ်ဆီယပ်(စ)က အီးပီယပ်(စ)အား အံဝှက်တံခါးကို ဖွင့်စေသည်။ မြင်းဗိုက်ထဲက စစ်သည်တွေ ကြိုးလှေကားဖြင့် တိတ်ဆိတ်စွာ ဆင်းလာကြပြီး မြို့တံခါးကို အလျင်အမြန် သိမ်းပိုက်သည်။ ထို့နောက် မြို့တွင်းသို့ ဝင်လာသည့် ဂရိတပ်က အငိုက်မိသွားသည့် ထရွိုင်းသားများကို လိုက်လံ ခုတ်ထစ် သတ်ဖြတ် ကြလေသည်။

အင်အားကြီးသော ရန်သူကို ဆယ်နှစ်တိုင်တိုင် ခုခံနိုင်ခဲ့သော ထရွိုင်းသား တို့သည် မြင်းရုပ်တစ်ရုပ်နှင့် လှည့်ဖြားသည့် ဂရိတို့၏ စစ်ပရိယာယ်ကို နားမလည်သဖြင့် စစ်ကြီးရှုံးပြီး တစ်မြို့လုံးပါ ပျက်စီးခဲ့ရသည်။

ထိုစဉ်က စတင်ကာ ထရိုဂျန်မြင်း ဟူသော စကားတစ်ခွန်း ထင်ရှားစွာ ကျန်ရစ်ပေသည်။

[ ရည်ညွှန်း။ ။ Robert Graves ၏ The Greek Myths ]

## လူ့ထုံးစံမိုးမှု

လူအများ စုဝေးနေထိုင်ကြသည့်အခါ တစ်ဦးကိုတစ်ဦး အပြန်အလှ
ထိန်းကျောင်းရန် ဥပဒေ စည်းကမ်းတွေ၊ သဘော တူညီချက်တွေ ချမှတ်
ရသည်။

သည်စည်းကမ်းကို ကိုယ်လည်း လိုက်နာမည်၊ သူလည်း လိုက်နာ
တောင်းဆိုမည်။

သူရောကိုယ်ပါ ညှိနှိုင်းသဘောတူထားသည့် စည်းကမ်းများအတိုင်း
လိုက်နာ နေထိုင်ကြသည့်အခါ အတူနေသူအားလုံး စိတ်ချမ်းသာမှု ရရှိကြသည်

အလားတူပင် တိုင်းပြည်များမှာလည်း မည်သို့သော အခြေခံ စည်းကမ်းချ
များအားဖြင့် မိမိတို့ စုပေါင်း နေထိုင်ကြမည် ဟူ၍ တိုင်းသူပြည်သား
သဘောတူညီကြသည့် ဖွဲ့စည်းပုံ အခြေခံ ဥပဒေများ၊ မိမိတို့ လူအဖွဲ့အစည်း
သင့်တော်လျော်ညီမည်ဟု ယူဆသည့် ဥပဒေစည်းကမ်းများ သတ်မှတ်
၎င်းအခြေခံများ တရားဥပဒေများအတိုင်း ထိန်းကျောင်းစီမံမည့် အစိုးရများ
အုပ်ချုပ်ကြသော သဘော ရှိသည်။

### ထာဝရတည်သော ဥပဒေမရှိ

သို့သော် တိုင်းပြည်များမှာရှိသည့် ဥပဒေများ စည်းမျဉ်းများ ဟူသည်
အစဉ်ထာဝရ မပြောင်းမလဲ တသမတ်တည်း တည်နေမည့် အရာများ မဟုတ်
ကာလဒေသ ပယောဂတို့အပေါ် မူတည်၍ ပြောင်းလဲကြရသော သဘော
ရှိသည်။ ဥပမာ ဆိုရှယ်လစ်စီးပွားရေးစနစ် တည်ဆောက်နေသော တိုင်းပြည်
၎င်းစနစ်ကို ကာကွယ်သော ဥပဒေ ရှိသော်လည်း၊ ထိုစနစ်ကို စွန့်လွှတ်သည့်အခါ
ထိုဥပဒေမျိုး မလိုအပ်တော့သော သဘော ဖြစ်သည်။

ထိုသဘောအရ လူ့အဖွဲ့အစည်းတစ်ခုအတွင်း သည်ကနေ့ ဥပဒေစည်းကမ်း
များသည် ပြီးခဲ့သော ကာလတစ်ခုက ရှိခဲ့သည်များနှင့် အားလုံး တစ်ထပ်တည်း
မတူဘဲ တိုးခြင်း လျော့ခြင်း၊ သတ်မှတ်ချက်တို့ ကွဲပြားခြားနားခြင်းများ
ရှိနေကြသကဲ့သို့ နောင်ကာလတစ်ခု ရောက်သောအခါ၌လည်း ယ
ရှိနေသည်များနှင့် တစ်ထပ်တည်း မတူဘဲ အတိုးအလျော့ အပြောင်းအလဲများ
ရှိနေဦးမည်သာ ဖြစ်သည်။

ထိုနည်းတူ တိုင်းပြည် အချင်းချင်း နှိုင်းယှဉ်လျှင်လည်း အချို့စည်းမျဉ်းများတွင် တစ်ထပ်တည်းတူ၍ အချို့တွင် အနည်းငယ်ကွဲလွဲကာ၊ အချို့တွင်မူ လုံးဝ ပြဒါးတစ်လမ်း သံတစ်လမ်း ဆန့်ကျင်နေတတ်တာ တွေ့ရှိရမည်ဖြစ်သည်။

အဓိပ္ပာယ်ကား လူ့အဖွဲ့အစည်းများကို မတူညီကွဲပြားသော အခြေခံစည်းမျဉ်း အမျိုးမျိုးဖြင့် စုရုံးဖွဲ့စည်းနိုင်ကြသည် ဟူသောသဘော ဖြစ်သည်။

သည်အခါ စုရုံးဖွဲ့စည်းမှုတစ်ခု ကောင်းသည် မကောင်းသည်၊ သင့်တော်သည် မသင့်တော်သည်ကို စဉ်းစားဝေဖန်စရာ အကြောင်း ရှိလာသည်။

## အများပြည်သူအတွက် ကောင်းသလား

သည်နေရာ၌ ဝေဖန် အကဲဖြတ်ရန် အချက်တစ်ရပ်က ယင်းလူ့အဖွဲ့အစည်းရှိ ဥပဒေစည်းမျဉ်းများနှင့် မူဝါဒများသည် အများပြည်သူအတွက် ကောင်းကျိုးပြုမှု ဖြစ်စေနိုင်သနည်း ဟူသောအချက် ဖြစ်၏။ ဤသည်ကို ၎င်းချည်း သက်သက်ဖြင့်ပင် ဆန်းစစ်နိုင်သလို အခြားသော ဥပဒေစည်းမျဉ်းများ မူဝါဒများနှင့် နှိုင်းယှဉ်၍လည်း၊ ကောင်းခြင်း ဆိုးခြင်း၊ သာခြင်း နာခြင်းများကို ချင့်ချိန်နိုင်ပါသည်။

ဒုတိယစိစစ်ရန် အချက်က ဖွဲ့စည်းမှု ပုံသဏ္ဌာန်နှင့် ယင်းနှင့် ဆက်နွှယ်သော စည်းမျဉ်း စည်းကမ်းများကို မည်သူတို့က စီမံဖန်တီးသနည်း ဟူသောအချက်ဖြစ်သည်။

အကြောင်းက စီမံဖန်တီးသူ ကွဲပြားသလို ၎င်းတို့ ချမှတ်မည့် ဥပဒေစည်းမျဉ်းနှင့် မူဝါဒများ ကွဲပြားခြားနားနိုင်သောကြောင့် ဖြစ်သည်။ ထို့ကြောင့် လူ့အဖွဲ့အစည်းတစ်ခုအား မည်သူတွေ စီမံဖန်တီးနေသလဲ ဟူသည် အရေးကြီး၏။

တစ်နည်းပြောရသော် မည်သူ အုပ်စိုးနေသလဲ။

## အုပ်စိုးသူများနှင့် အုပ်စိုးပိုင်ခွင့်

အချို့တိုင်းပြည်များတွင် တစ်ဦးတည်းက ဆုံးဖြတ်လုပ်ကိုင်နေတာ[illegible] ဝမှာ ဘုရင်စနစ် (monarchy)။ တိုင်းသူပြည်သားအားလုံး [illegible] ထိုင်ရမည်ကို ဘုရင်တစ်ဦးတည်းက ဆုံးဖြတ်သည်။ အချို့တိုင်းပြည်တွင်မူ သူတစ်စုက အုပ်စိုးသည် (oligarchy)။ တိုင်းပြည်၏ [illegible]

မူဝါဒများကို ၎င်းလူစုက ရွေးချယ် ချမှတ်သည်။ အချို့တိုင်းပြည်တွင်ကား ပြည်သူလူထုသည်ပင် အုပ်စိုးသူများ ဖြစ်ကြသည် (democracy)။ တိုင်းပြည် အရေးကိစ္စကို လူထု၏ သဘောဆန္ဒဖြင့် ဆုံးဖြတ်လုပ်ကိုင်သည်။

သည်လို အမျိုးမျိုး အပြားပြား ရှိကြသည့်အထဲတွင် ဘယ်ဟာသည် သင့်တော် မှန်ကန်သလဲ စဉ်းစားဖို့ ရှိသည်။

ဘယ်သူတွေသည် အုပ်စိုးပိုင်ခွင့် ရှိသလဲ။

တိုင်းပြည် အရေးကိစ္စများကို ဘယ်နည်းဘယ်ပုံ ဆုံးဖြတ်လုပ်ကိုင် သင့်သလဲ။

တိုင်းပြည်တစ်ခု၏ စုရုံးဖွဲ့စည်းမှု ပုံသဏ္ဌာန်ကို မည်သူတွေ သတ်မှတ် ပြဋ္ဌာန်းပိုင်ခွင့် ရှိသလဲ။

ဥပဒေစည်းကမ်းများကို တော်ဝင် မိသားစုက ထုတ်ပြန်မည်လား၊ ကျွမ်းကျင်သူ ပညာရှင်တစ်စုက ရေးဆွဲမည်လား၊ တိုင်းပြည်တွင် အချမ်းသာ အကြွယ်ဝဆုံး ပုဂ္ဂိုလ်များက သတ်မှတ်မည်လား၊ သို့တည်းမဟုတ် ပြည်သူ လူထုကြီးက ဆုံးဖြတ် ပြဋ္ဌာန်းမည်လား။

အများ၏ အရေးကိစ္စကို လူတစ်ယောက် သို့မဟုတ် တစ်စုတစ်ဖွဲ့ကသာ ဆုံးဖြတ်မည်ဆိုလျှင် လူအများ လက်ခံနိုင်စရာမရှိ။ အဲဒါဆိုလျှင် မတရား ဖိနှိပ်အုပ်စိုးမှု ဖြစ်လိမ့်မည်။ အဲသည် ပုံစံအုပ်စိုးမှုများကို သက်ဦးဆံပိုင်စနစ်၊ အာဏာပိုင်စနစ်၊ ဓားမိုးအုပ်စိုးသော စနစ် စသဖြင့် ခေါ်ဝေါ်ခဲ့ကြသည်။

## ဒီမိုကရေစီ

လူအများ နှစ်သက်ကြသည်က လုပ်ပိုင်ခွင့် အာဏာအရပ်ရပ်သည် လူထုလက်ဝယ် ရှိကာ ယင်းလုပ်ပိုင်ခွင့်များကို လူထုကိုယ်တိုင် ကျင့်သုံးခွင့် သို့မဟုတ် မိမိတို့ နှစ်သက်ရာ ရွေးချယ်ထားသည့် ကိုယ်စားလှယ်များမှတစ်ဆင့် ကျင့်သုံးခွင့်ရှိသည့် စနစ်မျိုး ဖြစ်သည်။ တစ်နည်းပြောရသော် ဒီမိုကရေစီစနစ် သို့မဟုတ် လူထုအများစု နှစ်သက်လက်ခံသည့် အစိုးရ (popular governme[nt]) စနစ် ဖြစ်သည်။

သို့သော် လူတစ်ဦး သို့မဟုတ် လူတစ်စုအဖို့မှာသာ မိမိတို့ နှစ်သက်ရာ မူဝါဒ သို့မဟုတ် ဥပဒေစည်းကမ်းများ ရွေးချယ်ချမှတ်ဖို့ လွယ်သည်။ လူထု သို့မဟုတ် လူများစုကြီး အနေဖြင့်မူ ဆုံးဖြတ်ပိုင်းခြားမှုများကို လွယ်လင့်တကူ ပြုလုပ်နိုင်မည် မဟုတ်ပေ။ အကြောင်းက လူများသည့် အားလျော်စွာ အယူအဆ

အပြားပြား ရှိနိုင်ကြသောကြောင့် ဖြစ်သည်။ ကိစ္စတစ်စုံတစ်ရာနှင့် ပတ်သက်၍ ဥပဒေတစ်ရပ် ချမှတ် လိုသူများရှိသလို ယင်းဥပဒေပေါ်ပေါက် လာမှာကို မလိုလားသူများလည်း ရှိနိုင်သည်။ အလားတူ စီးပွားရေး၊ နိုင်ငံရေး စသည်တို့နှင့် စပ်လျဉ်းသည့် မူဝါဒတစ်ခုကို နှစ်သက်သူရှိသလို မနှစ်သက်သူများလည်း ရှိနိုင်သည်။ သို့သော် လူထုစိုးမိုးသည့် လူ့အဖွဲ့အစည်း အတွင်းမှာလည်း ဥပဒေစည်းမျဉ်းများ မူဝါဒများကား ချမှတ်ရမည်သာ ဖြစ်ရာ၊ ဆုံးဖြတ်ရန် နည်းလမ်းတော့ ရှိရပေမည်။

ယေဘုယျအားဖြင့်မူ အများစု သဘောတူသည့် အရာကို ရွေးချယ် ဆုံးဖြတ်ပြီး သဘောမတူသည့် လူနည်းစုကလည်း ယင်းဆုံးဖြတ်ချက်ကို (မပြောင်းလဲ နိုင်သေးမီ ကာလတစ်လျှောက်) လေးစားလိုက်နာရမည့် သဘော ဖြစ်သည်။ တစ်ဖက်တွင် အများစု၏ သဘောဖြင့် လူနည်းစုအား နှိပ်ကွက်စီးနင်း မလုပ်နိုင်အောင် သို့မဟုတ် နစ်နာဆုံးရှုံးစေခြင်း မဖြစ်ရအောင် ကာကွယ်တားဆီးသည့် နည်းလမ်းများလည်း ရှိရပေမည်။

ထို့ကြောင့်၊

## ဒီမိုကရေစီ အခြေခံများ

လူထုအုပ်စိုးမှု တကယ်ရှိသည့် ဒီမိုကရေစီ နိုင်ငံတစ်ခုဖြစ်ရန် မည်သည့် အခြေခံအချက်များ ရှိဖို့ လိုအပ်မည်လဲ။ တိတိကျကျ စစ်ကြောကြည့်ရသော်၊

ပထမအချက်။

အများပြည်သူ အာဏာပိုင်စိုးမှု ရှိရမည်။ အဓိပ္ပာယ်က တိုင်းပြည်ရှိ ဥပဒေ စည်းမျဉ်းများ ပြဋ္ဌာန်းခြင်း၊ မူဝါဒများ ချမှတ်ခြင်းတို့တွင် အရွယ် ရောက်သော လူတိုင်း ပါဝင်ဆွေးနွေးခွင့်၊ ငြင်းခုံခွင့်၊ ထောက်ခံခွင့်၊ ကန့်ကွက်ခွင့်၊ ဆန္ဒမဲပေးခွင့်များ ရှိရမည်။

ဒုတိယအချက်။

နိုင်ငံသားတိုင်းသည် နိုင်ငံရေးအရ တန်းတူညီမျှခွင့် ရှိရမည်။ နိုင်ငံ့အရေး ကိစ္စများတွင် အခြားသူများနှင့် တန်းတူရည်တူ လူတစ်ဦးအဖြစ် ဆုံးဖြတ်ချက်များ ဆောင်ရွက်ခွင့် ရှိရမည်။

တတိယအချက်။

တိုင်းပြည်အရေးနှင့် စပ်လျဉ်းသည့် မိမိအတွေးအမြင် အယူအဆများကို လွတ်လပ်စွာ ပြောဆိုဆွေးနွေးခွင့်နှင့် သူတစ်ပါး အတွေးအမြင် အယူအဆ

ချိုးနှံတို့အား လွတ်လပ်စွာ နားထောင်မှတ်သားခွင့်များ ရှိရမည်။ တစ်နည်း ပြောရသော် လူတိုင်း၌ လွတ်လပ်ပွင့်လင်းသော ဆွေးနွေးပွဲများတွင် ပါဝင်ခွင့် ရှိရမည်။ ပါဝင်ဖို့လည်း လိုအပ်သည်။

အဲဒါသည် ဒီမိုကရေစီအတွက် အခြေခံ လိုအပ်ချက်များ ဖြစ်သည်။

အဲသည် အခြေခံများ တည်ရှိနေသော ဒီမိုကရေစီနိုင်ငံတွင် နိုင်ငံရေး နယ်ပယ်၌ မည်သည့်အရာများကို မြင်တွေ့ရမည်နည်း။

## ဒီမိုကရေစီနိုင်ငံ၌

ဥပဒေပြု လွှတ်တော်များအတွက် ရွေးကောက်ပွဲများ ကျင်းပသည့်အခါ လူတစ်ကိုယ် မဲတစ်မဲ ပေးခွင့်ရတာ တွေ့ရလိမ့်မည်။

ရွေးကောက်ပွဲတွင် အရွယ်ရောက်သူတိုင်း ပါဝင်အရွေးခံပိုင်ခွင့်ရှိတာ တွေ့ရလိမ့်မည်။

ရွေးကောက်ပွဲတွင် ပါတီအများ ဝင်ရောက် ယှဉ်ပြိုင်ကြ၍ ၎င်းတို့မှာ မတူကွဲပြားသော အယူအဆများ ရှိကြတာ တွေ့ရလိမ့်မည်။

အဲသည် ပါတီများနှင့် ရွေးကောက်ပွဲဝင် ပုဂ္ဂိုလ်များသည် မိမိတို့၏ အတွေးအမြင် အယူအဆများ၊ တိုင်းပြည်အတွက် မိမိတို့ ဆောင်ရွက်မည့် လုပ်ငန်းအစီအစဉ်များကို လူပရိသတ်များ ရှေ့တွင် အကျယ်တဝင့် ဆွေးနွေးခြင်း မေးမြန်းသည်ကို ဖြေကြားခြင်းများ ပြုလုပ်ကြလိမ့်မည်။

အဲသည် ဆွေးနွေးပွဲများတွင် လူတိုင်း ပါဝင်ပြောဆို ဝေဖန်ထောက်ပြ ခွင့်များ ရကြသည်ကို တွေ့ရပါလိမ့်မည်။

အများပြည်သူတို့က ယင်းသို့ တိုင်းပြည်အရေး ဆွေးနွေး ငြင်းခုံမှုများ၌ စိတ်ဝင်စားကြ၊ လက်ခံကြ၊ ပါဝင်ဆင်နွှဲကြပြီးလျှင် မိမိတို့ နှစ်သက်ရာ ပါတီများ ပုဂ္ဂိုလ်များကို ဆန္ဒမဲပေးကြပါလိမ့်မည်။

ထို့နောက်တွင် လူထု၏ ဆန္ဒမဲ အများဆုံးရသော ပါတီအဖွဲ့အစည်းနှင့် ၎င်းအဖွဲ့ဝင် ပုဂ္ဂိုလ်များသည် တိုင်းရေးပြည်ရာများ စီမံဆောင်ရွက်ခွင့် အာဏာကို သက်တမ်းကာလတစ်ခုအတွက် ရရှိသွားသည်ကို တွေ့ရပါလိမ့်မည်။

အဲဒါသည် လူထုအုပ်စိုးမှုရှိသည့် ဒီမိုကရေစီ လူ့အဖွဲ့အစည်းများတွင် တွေ့ရှိရမည့် ယေဘုယျ အနေအထား ဖြစ်ပါသည်။

ယေဘုယျဟု ဆိုရခြင်းကား၊

အခြေခံအချက်များ ပြည့်စုံသည် ဆိုသည့်တိုင် အဆင့်တိုင်း အချက်တိုင်းမှာပင် တိုင်းပြည် တစ်ပြည်နှင့်တစ်ပြည် အရည်အသွေးချင်း ကွာခြားနိုင်ကြသောကြောင့် ဖြစ်ပါသည်။

ညွှန်း ။ ။ Thomas Christiano ၏ 'The Rule of the Many: Fundamental Issues in Democratic Theory'

# ရွှေပုံကြားက ဆင်းရဲသားတိုင်းပြည်

ဆင်းရဲသော တောမြို့ကလေး။

တင်ဘတ်(က)တူး (Timbuktu) ဟုခေါ်သည်။

အာဖရိကကုန်းတွင်း ခေါင်ခေါင်မှာ ရှိသည်။

သို့သော် လူမသိသူမသိ မဟုတ်။

ယူနက်စကို အဖွဲ့ကြီးက စောင့်ရှောက်မှုပြုနေသည့် ကမ္ဘာ့အမွေအနှစ်စာရင်းဝင်ဒေသဖြစ်၍ ကမ္ဘာလှည့်ခရီးသည်များ ဝင်ထွက်ရောက်ရှိနေကြသည်။ ယူနက်စကိုကတော့ သည်ဒေသသည် သဲ့အတိုင်း ပစ်ထားလျှင် သဲကန္တာရ ဖုံးသွားနိုင်သည့် အန္တရာယ် ရှိနေသဖြင့် ကာကွယ်ဖို့ ကြိုးစားနေသည်။

အဲသည်လို အရပ်က ကူရသည့် အခြေအနေမျိုး ဆိုက်ရောက်နေသော တင်ဘတ်(က)တူးသည် တစ်ခါတုန်းက ဥရောပနှင့် အာဖရိကတစ်ခွင်မှာ ထင်ရှား၍ လူတကာ နှုတ်ဖျား၌ ရေပန်းစားသည့် သူကြွယ်မြို့တော်တစ်ခု ဖြစ်ခဲ့သည်။

ကြွယ်ဝရသည့် အကြောင်းရင်းကား ရွှေထွက်ခြင်း ဖြစ်သည်။



လူတွေ ကူးသန်းသွားလာမှု နည်းပါးသေးသည့် လွန်ခဲ့သော နှစ်ပေါင်း ၆၀၀-၇၀၀ ခန့်ကပင် အာဖရိက အတွင်းပိုင်း အခေါင်အဖျားဒေသ တစ်ခုမှာ ရွှေအကြီးအကျယ် ထွက်နေသည် ဟူသော သတင်းသည် ဥရောပသားကုန်သည်များအတွက် စိတ်လှုပ်ရှားစရာ ဖြစ်ခဲ့သည်။

မြေထဲပင်လယ် ကမ်းရိုးတန်း ဆိပ်ကမ်းမြို့များသို့ အာဖရိက ရွှေတွေရောက်လာသည်။ သည်ရွှေတွေဖြင့် ရောင်းဝယ် ဖလှယ်ကြသည်။ အဲသည်ရွှေသည် တင်ဘတ်(က)တူးက လာသည်ဟု သိကြသော်လည်း အများစုကတော့ တင်ဘတ်(က)တူး ဆိုတာ ဘယ်နေရာလဲ မသိကြ။ ဟိုးဝေးလံခေါင်ဖျားအရပ်တစ်နေရာ ဟူသောသဘောဖြင့်သာ ပြောဆိုကြခြင်း ဖြစ်သည်။

နည်းနည်း ပိုသိသူတွေကတော့ အာဖရိက အနောက်ပိုင်း နိုင်ဂျာမြစ်ဖျားတစ်နေရာ ဟူ၍ သိကြသည်။

အဲသည်မှာ ရွှေတွေ အကြီးအကျယ် ထွက်သည်။ ရွှေအကြောင်းပြောကြသည့် ဒဏ္ဍာရီတွေက အမျိုးမျိုး။ မုန်လာပင်ကို ဆွဲနုတ်လိုက်လျှင်

ဥတန်းလန်းနှင့် ထွက်လာသလို မြေကြီးထဲ နည်းနည်းတူးပြီး လက်ထိုးနှိုက်လိုက်ရုံဖြင့် ရွှေတုံးရွှေခဲတွေ လက်ထဲပါလာသည် ဆိုတာမျိုး ပြောသူတွေရှိသည်။ တချို့ကလည်း အဲဒီမှာ ရွှေတူးတဲ့ ပုရွက်ဆိတ်တွေ ရှိတယ်။ မြေကြီးထဲ တွင်းခေါင်းလေးတွေ တူးပြီး ဆင်းသွား၊ ရွှေမှုန်လေးတွေ ရွှေစလေးတွေ သယ်လာ၊ ရွှေစကြီးကြီးတွေကျတော့ တစ်အုပ်ကြီး ဝိုင်းတွန်းပြီး ထုတ်လာတယ်။ ဘာအစာမှလည်း ကျွေးစရာ မလိုဘူး။ သူတို့ရှိတဲ့ နေရာမှာ ကိုယ် နေနေရုံပဲဟု ဆိုကြသည်။ တချို့ကတော့ အဲဒီမှာ မြေတွင်းထဲနေတဲ့ လူတစ်မျိုးတွေ ရှိတယ်။ အမည်းတော့ အမည်းပဲပေါ့။ အဝတ် မဝတ်ဘူး။ တွင်းထဲနေ တွင်းထဲစားပြီး ရသမျှ ရွှေတွေ တူးထုတ်ပေးတယ် ဟုဆိုသည်။

အဲသည် တတိယ ဒဏ္ဍာရီက အမှန်ဖြစ်ပေလိမ့်မည်။

ဘယ်လောက် ရွှေပေါသည့် အရပ်မှာဖြစ်ဖြစ် ရွှေတွင်းထဲ ငရဲခံရသည့် အဲသည် လူမျိုးတွေ ရှိကြစမြဲ ဖြစ်သည်။

ဒုက္ခကြီးမားစွာဖြင့် သူတို့တွေ တွင်းထဲက ထုတ်ယူပေးလိုက်သည့် ရွှေကို အဆင့်ဆင့် လက်ပြောင်းကာ တချို့လူတွေ အကြီးအကျယ် ချမ်းသာကြသည်။

အဓိကကတော့ အရပ်ရပ်က ရွှေကုန်သည်တွေ။

ရွှေအရောင်းအဝယ် စနစ်တကျ မဖြစ်သေးမီ အစပိုင်းကာလမှာ ရွှေလိုချင်သော ကုန်သည်က လူသုံးပစ္စည်း တိုလီမိုလီတွေ သယ်ကာ အစွန်အဖျား တောပိုင်းထဲသွား၊ ရွှေရွာတွေရဲ့အစပ်မှာ ရွာသားတွေနှင့် တွေ့ဆုံ၊ ကုန်သည်တစ်ယောက်က သူ့ပစ္စည်းတွေကို နေရာတစ်ခုမှာ သွားချ၊ ပြီး နောက်ဘက် ခပ်လှမ်းလှမ်း ပြန်ဆုတ်နေ၊ ရွှေရွာသားက ကုန်သည်၏ ပစ္စည်းတွေ လာယူ၊ မလှမ်းမကမ်းမှာ စစ်ဆေးကြည့်ရှု၊ ပြီးလျှင် သင့်တော်သည် ထင်သည့် ရွှေထုပ်တစ်ထုပ် စောစောက နေရာမှာ လာချပေး။ တစ်ယောက်နှင့်တစ်ယောက် စကားလည်းမပြော၊ ဈေးလည်း မညှိဘဲ အရောင်းအဝယ် ပြုကြခြင်း ဖြစ်သည်။

ကုန်သည်တွေက သည်စနစ်နှင့် ဟန်ကျတော့ တောပိုင်းအနှံ့အပြားသို့ ကုန်သွားရောင်းကြသည်။ သည်လိုဖြင့် ကုန်သွယ်ရေးလမ်းကြောင်း ထင်ရှား လာသည့်အခါ သူတို့ထက် ပို၍ အကျိုးခံစားရသူတွေ ပေါ်လာသည်။ သည် အထဲမှာ အများဆုံး ခံစားရသူက သည်နယ်ဝယ်အေသတို့ အနီးရှိ ကုန်သွယ်ရေး လမ်းကြောင်းကိုလည်း ထိန်းချုပ်ထားနိုင်သည့် မာလီ (Mali) ဘုရင် အင်ပိုင်ယာ ဧကရာဇ်များ ဖြစ်သည်။

မာလီဘုရင်များထဲတွင် ကြွယ်ဝမှုနှင့် ပတ်သက်၍ အထင်ရှားဆုံး အေ တင်ဘာဘ်(က)တူးတွင် ထီးနန်းစိုက်ခဲ့သည့် ဘုရင်မူဆာ (Mansa Musa) ဖြစ်သည်။

ခရစ်နှစ် ၁၃၂၄ မှာ မာလီဘုရင် မူဆာ မက္ကာသို့ ဝတ်ပြု ခရီးထွက်သည်။ ရာစုနှစ်ကျော်ကြာသည့် သည်ခရီးစဉ်အတွင်း အီဂျစ်ပြည်၌ သုံးလတာ ထည်ဝတ် နေထိုင်သည်။ ထိုစဉ်က ဘုရင်မူဆာ ကြွယ်ဝချမ်းသာပုံနှင့် သူ၏ ခင်းကျင်း ခမ်းနားကြီးကျယ်ပုံများ အကြောင်းကို အီဂျစ်ပြည်၌ မျိုးဆက်ပေါင်း များစွာ ဒဏ္ဍာရီသဖွယ် ဆင့်ကမ်းပြောဆိုခဲ့ကြသည်။

ရှင်ဘုရင်က ခရီးစဉ်မှာ သုံးစွဲရန်အတွက် ဘဏ္ဍာတော် ရွှေတွေ ကုလားအုတ် တန်းနှင့် တင်ယူလာသည်။ ကုလားအုတ် တစ်ကောင်မှာ ရွှေပေါင်ချိန် ၃၀၀ တင်ထားပြီး ကုလားအုတ် စီးရေ ၁၀၀ ခန့် ပါရှိသည်။ ယခုခေတ် ငွေနှင့် တွက်သော် အမေရိကန် ဒေါ်လာ သန်းပေါင်း ရာချီနေသည်။

အိမ်ရှင် အီဂျစ်ဘုရင်ကို လက်ဆောင်ဘဏ္ဍာ မြောက်မြားစွာ ပေးသည်။ ဘာသာရေး အဆောက်အအုံများ အတွက်လည်း ရွှေတုံးရွှေခဲတွေ ထောင်ချီ လှူဒါန်းသည်။ အရာရှိအရာခံများ၊ သူ့အား ခရီးဦးကြိုပြုသူ၊ စည့်ခံသူ၊ ဖျော်ဖြေသူ၊ ဝေယျာဝစ္စ ဆောင်ရွက်ပေးသူတို့ကိုလည်း လက်ဆောင်အဖြစ် ရွှေတုံးရွှေခဲတွေပင် ပေးသည်။

ခရီးစဉ် ပြီးဆုံး၍ အိမ်ပြန်မည့် အချိန်၌ ဘုရင်မှာ ငွေတစ်ပြား တစ်ချပ်မျှ မကျန်။ သို့သော် ပူစရာမလို။ ချေးငှားမည့် သူတွေက အားတက်သရော ဖြစ်သည်။ အိမ်ပြန်ရောက်သောအခါ ချေးငွေတန်ဖိုးထက် နှစ်ဆကျော်မျှ ပြန်လည်ပေးပို့ရာ ချေးသူတွေ တွက်ချေကိုက်ကြသည်။

အီဂျစ်ပြည်မှ ရွှေဈေးကတော့ သူ့ခရီးစဉ်အပြီးမှာ လေးချိုးတစ်ချိုး လောက်အထိ ကျသွားခဲ့သည် ဟုဆိုသည်။



အဲသည်လောက် ချမ်းသာကြွယ်ဝခဲ့သည့် ဘုရင်မူဆာ၏ မာလီနိုင်ငံမှာ ယခုအခါမှာလည်း ရွှေတွေ ထွက်နေဆဲ ဖြစ်သည်။

ဗြိတိသျှ ဘူမိဗေဒ တိုင်းတာရေးအဖွဲ့၏ ၂၀၀၈ ခုနှစ် စာရင်းအရ မာလီသည် ရွှေထုတ်လုပ်မှုတွင် ကမ္ဘာ့အဆင့် ၈ နေရာ၌ ရှိသည်။ မာလီ၏ အနောက်ဘက်ဖျားတွင် ကမ္ဘာ့ထိပ်တန်းစာရင်းဝင် ရွှေတွင်းနယ်မြေကြီး သုံးခု

ရှိနေသည်။ မာလီတွင် ရွှေတူးဖော်ရေးလုပ်ငန်းသည် ဖွံ့ဖြိုးနေဆဲ အကျိုး အမြတ်တွေ ကြီးမားနေဆဲ ဖြစ်သည်။ မြေအောက်တွင် မထုတ်ရသေးသည့် ရွှေကြောတွေ ရှိနေပြီး နောက်ထပ် ရွှေသိုက် အသစ်တွေလည်း တွေ့ရှိနေရဆဲ ဖြစ်သည်။

သို့သော် ရွှေလုပ်ငန်းပိုင်ရှင်များကတော့ မာလီသားများ မဟုတ်ကြ။ ရွှေရှာဖွေတူးဖော်ရေးကို တောင်အာဖရိက ကုမ္ပဏီကြီးနှစ်ခုဖြစ်သည့် Anglogold နှင့် Randgold တို့က လက်ဝါးကြီးအုပ် လုပ်ပိုင်ခွင့်ရထားသည်။ မာလီ ရွှေတွင်းများသည် အထွက်နှုန်း ကောင်းပြီး လုပ်အားခ အပါအဝင် လုပ်ငန်း တွန်ကျစရိတ်များကလည်း အလွန်သက်သာသည်ဖြစ်ရာ ကုမ္ပဏီတွေ အကြီး အကျယ် ဟန်ကျနေသည်။

သို့သော် တွင်းထဲဆင်းပြီး အလုပ်လုပ်ရသည့် မာလီသားများမှာကော၊

ဒဏ္ဍာရီထဲက ပုရွက်ဆိတ်များလို ကိုယ့်မြေထဲက ရွှေတိုရွှေစကို ရှာဖွေ သယ်ထုတ်ကာ တွင်းဝက စောင့်နေသည့် တိုင်းတစ်ပါးသားများသို့ ပူဇော် ဆက်သရသည့် အဖြစ်မျိုးနှင့် ကြုံနေရသည်။

စီးပွားရေး၊ လူမှုရေး၊ ပညာရေး၊ ကျန်းမာရေး စသည့် အဖက်ဖက်တို့မှာပင် ချွတ်ခြုံကျကာ လူလုံးမလှ ဖြစ်နေကြသည်။

ရွှေမြေတွေ ပိုင်ဆိုင်လျက်နှင့်ပင် မာလီကား ကမ္ဘာ့အဆင်းရဲဆုံး စာရင်းဝင် နိုင်ငံတစ်ခု ဖြစ်နေချေသည်။

# ဟီရိုရှီးမားနှင့် နာဂါဆာကီမှ အဏုမြူ စစ်တလင်း

ဒုတိယကမ္ဘာစစ်ကြီး၏ နောက်ဆုံးပိုင်းကာလ ၁၉၄၅ ခုနှစ် ဩဂုတ်လတွင် အမေရိကန် ပြည်ထောင်စုက ဂျပန်မြို့ကြီးနှစ်မြို့ ဖြစ်သော ဟီရိုရှီးမားနှင့် နာဂါဆာကီတို့ကို အဏုမြူဗုံးများ ကြဲချခဲ့ကြသည်။

စောစောပိုင်းတွင် အင်္ဂလိပ် အမေရိကန် မဟာမိတ်တပ်များက ဂျပန်မြို့ကြီး ၆၇ မြို့ကို ၆ လမျှကြာအောင် မီးလောင်ဗုံးများ အပြင်းအထန် ကြဲချ တိုက်ခိုက်ပြီးနောက် ဂျပန်တို့ ခြွင်းချက်မရှိ လက်နက်ချကြရန် ရာဇသံပေးသည့် ပို့စဒမ် ကြေညာချက်ကို ထုတ်ပြန်ခဲ့သည်။

ဂျပန်က ရာဇသံကို လျစ်လျူရှုသည့်အခါ အမေရိကန် သမ္မတ ဟယ်ရီ ထရူးမင်းက အဏုမြူလက်နက်ဖြင့် တိုက်ခိုက်ရန် ခွင့်ပြုမိန့် ထုတ်ပေးသည်။

သို့နှင့် ၁၉၄၅ ခုနှစ် ဩဂုတ်လ ၆ ရက်နေ့တွင် ဟီရိုရှီးမားမြို့၌ Little Boy(ချာတိတ်ကလေး)ဟု အမည်ပေးထားသည့် ယူရေနီယမ်ဗုံးကို လည်းကောင်း ဩဂုတ်လ ၉ ရက်နေ့တွင် နာဂါဆာကီမြို့၌ Fat Man(လူဝကြီး) ဟု အမည်ပေး ထားသည့် ပလူတိုနီယမ်ဗုံးကို လည်းကောင်း ကြဲချခဲ့ကြရာ ခြောက်နှစ်တာ တိုက်ခိုက်လာခဲ့သည့် ကြောက်မက်ဖွယ် ဆိုးရွားပြင်းထန်သော စစ်ပွဲကြီးကို တုန်လှုပ်ချောက်ချားဖွယ် အကောင်းဆုံး ဖြစ်ရပ်ကြီးနှစ်ခုဖြင့် လက်စသိတ်ပေး လိုက်သလို ဖြစ်သွားခဲ့သည်။

သို့သော် စစ်ကြီး ပြီးသွားသည့် နောက်တွင်မူ ထိုစဉ်က အဏုမြူဗုံး ကြဲခဲ့ခြင်းသည် စစ်ရေးစစ်ရာအရ အမှန်တကယ် လိုအပ်မှု ရှိမရှိ၊ လူမှုကျင့်ဝတ်အရ သင့်တော် မှန်ကန်မှု ရှိ မရှိကို ငြင်းခုံဝေဖန်ခဲ့ကြရာ ယနေ့ တိုင်အောင်ပင် ဖြစ်သည်။

## အမေရိကန်အဏုမြူ အစီအစဉ်နှင့် ကနဦး ပစ်မှတ်များ

ဒုတိယကမ္ဘာစစ်အတွင်းအမေရိကန်သည် မန်ဟက်တန်ပရိုဂျက် (Manhattan Project) အမည်ဖြင့် အဏုမြူလက်နက် တီထွင်ပြုလုပ်ရေး အစီအစဉ်တစ်ခု ချမှတ်ဆောင်ရွက်ခဲ့သည်။ အမေရိကန် ရူပဗေဒ သိပ္ပံပညာရှင် အိုပင်ဟိုင်းမား (J.Robert Oppenheimer)ဦးစီးသည့် ၎င်းအစီအစဉ်တွင် ဗြိတိန်နှင့် ကနေဒါတို့ ပံ့ပိုးကူညီခဲ့ပြီး၊ ဗုံးဖြစ်မြောက်အောင် စီမံဖန်တီးပေးသူများထဲတွင် ဂျာမနီ၊

အီတလီ၊ ဟန်ဂေရီ စသည့် ဥရောပနိုင်ငံများက ရွှေ့ပြောင်းလာကြသည့် အဏုမြူသိပ္ပံပညာရှင်များနှင့် အင်ဂျင်နီယာများလည်း ပါဝင်ကြသည်။

ပထမဆုံးအဏုမြူဗုံးကို အမေရိကန် ပြည်ထောင်စု နယူးမက္ကဆီကို ပြည်နယ်ရှိ အလာမိုဂေါ်ဒိုဒေသတွင် ဇူလိုင်လအတွင်း စမ်းသပ်ပြီး ဗုံး၏ အာနိသင်ကို တည်ဆောက်သူတို့ မျက်မြင်ဒိဋ္ဌ ကြည့်ရှုကြသည်။

သို့သော် စမ်းသပ်မှု မပြုရသေးမီ ၂ လခန့် အလိုကပင် ဂျပန်ပြည်၌ ဗုံးကြဲမည့် နေရာများကို စိစစ်ရွေးချယ်ပြီး ဖြစ်သည်။ အိုပင်ဟိုင်းမားပင် ဦးစီးပါဝင်သည့် ပစ်မှတ်ကော်မတီက စောစောပိုင်း အကြံပြုတင်ပြခဲ့သည့် မြို့များမှာ ကျိုတို၊ ဟီရိုရှီးမား၊ ယိုကိုဟားမားနှင့် ကော့ကူးရာတို့ ဖြစ်သည်။

ပစ်မှတ်များ ရွေးချယ်ပြီးနောက်တွင် သည်မြို့များကို သမားရိုးကျ ဗုံးကြဲ တိုက်ခိုက်မှု အစီအစဉ်များမှ ချန်လှပ်ထားရန် လေတပ်နှင့် ညှိနှိုင်းဆောင်ရွက်ကြသည်။ ရည်ရွယ်ချက်က အဏုမြူဗုံး၏ သက်ရောက်မှု ပမာဏကို ပို၍ တိတိကျကျ တွက်ချက်နိုင်ရန်အတွက် ဖြစ်သည်။

**ဟီရိုရှီးမား**

ဟီရိုရှီးမား (Hiroshima) သည် စက်မှုလုပ်ငန်း မြို့တစ်မြို့ ဖြစ်ပြီး စစ်ရေးစစ်ရာ အရလည်း အရေးပါသည်။ ဂျပန်တောင်ပိုင်း ကာကွယ်ရေးကို တာဝန်ယူထားသည့် ဒုတိယစစ်ဌာနချုပ်နှင့် တပ်မဟာဌာနချုပ်တစ်ခု ရှိသည်။ ဆက်သွယ်ရေး အချက်အချာ နေရာတစ်ခုဖြစ်ပြီး စစ်လက်နက်ပစ္စည်းနှင့် ရိက္ခာသိုလှောင်စခန်းများ ရှိသည်။ ထို့ပြင် ပုံမှန်လေကြောင်း စစ်ဆင်ရေးများတွင် သူ့ကို ချန်လှပ်ထားသဖြင့် မြို့က အခြေအနေ ကောင်းနေပြီး အဏုမြူဗုံးသားချိန်၌ လူဦးရေ ၃၅၀,၀၀၀ ခန့် ရှိသည်။

ဟီရိုရှီးမားသည် ပထမဆုံး အဏုမြူဗုံးကြဲ စစ်ဆင်ရေးတွင် ပထမ ပစ်မှတ် ဖြစ်သည်။ အကယ်၍ အဆင်မပြေခဲ့သော် ဒုတိယနှင့် တတိယ [illegible] ပစ်မှတ်များအဖြစ် ကော့ကူးရာ (Kokura) နှင့် နာဂါဆာကီ (Nagasaki) တို့ကို ရွေးချယ်ထားသည်။ စစ်ဆင်ရေးတွင် ဘီ - ၂၉ ဗုံးကြဲလေယာဉ် ၃ စင်း ပါဝင်ပြီး ခေါင်းဆောင်ဖြစ်သူ ဗိုလ်မှူးကြီး ပေါလ်တစ်ဘတ်(စ) Paul Tibbets က ဗုံးတင်ထားသည့် Enola Gay လေယာဉ်ကို မောင်းနှင်လာသည်။

လေယာဉ်အတက်မှာ စိတ်မချရသဖြင့် [illegible] ဗုံးကို သုံးစွဲရန် အသင့်ပြင်သည်။ ပစ်မှတ်ရောက်ရန် မိနစ် ၃၀ အလို၌

လုံခြုံရေး အထိန်း ကိရိယာများကို ဖြုတ်လိုက်သည်။

အမေရိကန် လေယာဉ်များ ဂျပန်တောင်ပိုင်းသို့ ဝင်ရောက်လာနေသည်ကို ကြွယ်ခရေဒါစခန်းများက တစ်နာရီခန့် ကြိုတင်သိရှိပြီး သတိပေးမှုများ ပြုလုပ်သည်။ ဟီရိုရှီးမားရှိ ရေဒါစောင့်ကြည့် သူက လေယာဉ်များ မိမိတို့ထံသို့ ဦးတည်လာနေကြောင်း သိသော်လည်း အုပ်စုကြီးမဟုတ်၊ သုံးစင်းထက်မပိုကြောင်း ခြင်းသဖြင့် လေကြောင်းရန် သတိပေးချက်ကို ရုပ်လိုက်သည်။ ဗုံးကြဲရန် လာခြင်း မဟုတ်၊ ထောက်လှမ်းရေး လေယာဉ်များသာ ဖြစ်လိမ့်မည်ဟု ၎င်းတို့ ယူဆခဲ့ကြသည်။ ထို့ပြင် အဲသည်အချိန်က ဂျပန်တွေမှာ တိုက်လေယာဉ် များရော လောင်စာဆီပါ အင်အားနည်းနေပြီဖြစ်သဖြင့် နှစ်စီး သုံးစီးလောက်ကို တက်ပြီး တိုက်ခိုက်ရန်လည်း စိတ်ကူးမရှိကြတော့။

ဟီရိုရှီးမားစံတော်ချိန် ၈ နာရီ ၁၅ မိနစ်တွင် ယူရေနီယမ် -၂၃၅ အလေးချိန် ၆၀ ကီလိုဂရမ် ပါဝင်သည့် Little Boy ကို လေယာဉ်ပေါ်မှ ချလိုက်သည်။ သွားသီး ပုံသဏ္ဌာန်ရှိသည့် ယူရေနီယမ်ဗုံးသည် ၅၇ စက္ကန့်မျှ ကျလာပြီး မြေပြင်အထက် အမြင့်ပေ ၂၀၀၀ ခန့်၌ သတ်မှတ်သည့်အတိုင်း ပေါက်ကွဲသည်။ သို့သော် လေတိုက်နေသဖြင့် ပေါက်ကွဲသည့် နေရာက မူလချိန်ရွယ်သည့် Aioi တံတားနှင့် ပေ ၈၀၀ ခန့်လွဲကာ ရှီမာခွဲစိတ်ဆေးရုံအထက် တည့်တည့် နားလောက် ရောက်သွားသည်။

ပေါက်ကွဲအားမှာ ယမ်းဘီလူး TNT တန်ချိန် ၁၃,၀၀၀ နှင့် ညီမျှသည်။ ဗုံးကျသည့် နေရာအနီး အချင်း တစ်မိုင်ခန့်တွင် ရှိသမျှ အရာတို့ လုံးလုံး လျားလျား ပျက်စီးပြီး ဧရိယာ ၄.၄ စတုရန်းမိုင် ပတ်ဝန်းကျင်တွင် မီးဟုန်းဟုန်း ထတောက်သည်။ လူဦးရေ ၇၀၀၀၀-၈၀၀၀၀ ခန့် ရုတ်ခြည်း သေဆုံးပြီး ၎င်းနောက်တွင် မီးလောင်ဒဏ်၊ အဆောက်အဦး ပြိုပိသည့် ဒဏ်၊ ဓာတ်ရောင်ခြည် သင့်သည့်ဒဏ်နှင့် ကင်ဆာ စသည့် အခြား ဆင့်ပွား ရောဂါဘယ ဒဏ်တို့ကြောင့် သေဆုံးသူများ အပါအဝင် စုစုပေါင်း ၁၅၀,၀၀၀-၂၀၀,၀၀၀ မျှအထိ သည်ဗုံးကြောင့် အသက်ဆုံးရသည် ဟုဆိုသည်။

## ဗုံးကြဲခံရသည့် သတင်း

တိုကျိုရှိ ဂျပန်အသံလွှင့်ကော်ပိုရေးရှင်း ကွပ်ကဲရေးဌာနမှ တာဝန်ကျပုဂ္ဂိုလ်က ဟီရိုရှီးမားမှ ရေဒီယို ထုတ်လွှင့်မှု ရုတ်တရက် ရပ်သွားကြောင်း သတိပြုမိသဖြင့်

အခြား တယ်လီဖုန်းလိုင်းတစ်ခုဖြင့် ပြန်ဆက်သွယ်ရန် ကြိုးစားသည်။ မအောင်မြင်။ မီးရထားလမ်း ကြေးနန်း ဆက်သွယ်ရေးသည်လည်း ပြတ်တောက်သွားပြီး၊ မိနစ်နှစ်ဆယ်ခန့် အကြာတွင်မှ ဟီရိုရှီးမားတွင် ကြောက်မက်ဖွယ် ပေါက်ကွဲမှုကြီးတစ်ခု ဖြစ်ပွားကြောင်း၊ ဘာကြောင့်မှန်း မသိကြောင်း သတင်းပို့ချက်တစ်ခု တိုကျိုသို့ ရောက်လာသည်။ ဟီရိုရှီးမားနှင့် ၁၀ မိုင်ခန့် အကွာ ဘူတာငယ်တစ်ခုမှ သတင်းပို့ခြင်း ဖြစ်သည်။ စစ်ဌာနချုပ်ကလည်း ဟီရိုရှီးမားရှိ တပ်များထံ လုံးဝ ဆက်သွယ် မရသဖြင့် စစ်ရုံးမှ အရာရှိငယ် တစ်ယောက်ကို လေယာဉ်ဖြင့် သွားကြည့်ခိုင်းသည်။

၃ နာရီခန့် မောင်းနှင်ပြီးနောက် ၎င်းအရာရှိနှင့် လေယာဉ်မှူးသည် ဟီရိုရှီးမားနှင့် မိုင် ၁၀၀ ခန့် အကွာသို့ ရောက်လာပြီး၊ ထိုနေရာမှ စတင်ကာ ဗုံးကြောင့်ဖြစ်သည့် မီးခိုးတိမ်တိုက်ကြီးကို လှမ်းမြင်ကြရသည်။ ထို့နောက်တွင် မယုံကြည်နိုင်ဖွယ် ပျက်စီးနေသည့် မီးလောင်နေဆဲ မြို့ကြီးကို အံ့သြတုန်လှုပ်စွာ ဝဲပတ်ကြည့်ရှုပြီးနောက် မြို့တောင်ဘက် တစ်နေရာရှိ ကွင်းတစ်ကွင်းတွင် ဆင်းကြသည်။ အရာရှိက တိုကျိုသို့ အစီရင်ခံပြီးနောက်တွင် ကယ်ဆယ်ရေး လုပ်ငန်းများ ချက်ချင်း စတင်ဖို့ ပြင်ဆင်သည်။

ဟီရိုရှီးမားမြို့ ပျက်စီးမှုသတင်းကို တိုကျိုရေဒီယိုက အသံလွှင့် ကြေညာ ရာ၌ ပြင်းထန်သော အပူရှိန်ကြောင့် လူနှင့် အခြားသက်ရှိ သတ္တဝါအားလုံး လောင်မြိုက် သေဆုံးကြောင်း ဖော်ပြခဲ့သည်။ ဩဂုတ် ၈ ရက်တွင် အမေရိကန် သတင်းစာများ၌လည်း တိုကျိုရေဒီယိုကို ကိုးကားရေးသားသည့် သတင်းများ ပါရှိလာသည်။ အဏုမြူဗုံး သတင်းကို ကမ္ဘာက ချက်ချင်းနီးပါး သိကြသော သဘောဖြစ်သည်။

## ဗုံးကြဲပြီးနောက် ထရူးမင်း ကြေညာချက်

ဟီရိုရှီးမား ဗုံးကြဲပြီးနောက်တွင် အမေရိကန် သမ္မတ ထရူးမင်းက အလွန် အင်အားပြင်းသော လက်နက်အသစ်အဆန်းတစ်ခုကို မိမိတို့ သုံးစွဲလိုက်ခြင်း ဖြစ်ကြောင်း၊ ဂျပန်တို့အနေနှင့် ယခင် ထုတ်ပြန်ထားပြီးဖြစ်သည့် လက်နက်ချရေး စည်းကမ်းချက်များအတိုင်း လိုက်နာဆောင်ရွက်ခြင်း မပြုပါက သည် [illegible] ဘယ်တုန်းကမှ မကြုံဖူးသည့် အဖျက်ဗုံးမိုး ရွာချသည်ကို ၎င်းတို့ ခံစားကြရ လိမ့်မည်ဖြစ်ကြောင်း ... စသဖြင့် ကြေညာ ပြောဆိုသည်။

သို့သော် ဂျပန်က အလျှော့မပေး၊ ဘုရင် ဟီရိုဟီတို၊ ဂျပန်အစိုးရနှင့် စစ်ကော်မတီတို့က စစ်ပြေငြိမ်းစာချုပ်တွင် မည်သည့်အချက်များ ထည့်သွင်း ပေးပါဟု တောင်းဆိုရန်သာ စည်းဝေးတိုင်ပင်နေကြသည်။

သည်အချိန်တွင် ယခင်က ဂျပန်နှင့် ကြားနေရေး စာချုပ်ချုပ်ဆိုထားခဲ့သည့် ဆိုဗီယက်ယူနီယံကလည်း စာချုပ်ကို တစ်ဖက်သတ် ရုပ်သိမ်းကာ ဂျပန်ကို အိုးလာနိုက်ရန် ပြင်ဆင်လာသည်။ သို့တိုင်အောင်ပင် ဂျပန်စစ်ခေါင်းဆောင်ပိုင်းက အခြားသူတို့၏ လက်နက်ချရေး အားထုတ်မှုများကို တားဆီးရန် ကြိုးပမ်းဆဲ ဖြစ်သည်။

## ဒုတိယဗုံးနှင့် ကံဆိုးသော နာဂါဆကီ

အမေရိကန်တို့က ဒုတိယအဏုမြူဗုံးကို ဩဂုတ်လ ၁၁ ရက်နေ့၌ ကြဲချရန် စီစဉ်ခဲ့သည်။ သို့သော် ဩဂုတ် ၁၀ ရက် နောက်ပိုင်းတွင် ၄ – ၅ ရက် ဆက်တိုက် ရာသီဥတု ဆိုးနိုင်ကြောင်း သိရသဖြင့် အစီအစဉ်ကို ရှေ့ဘက်တိုးကာ ဩဂုတ်လ ၉ ရက်နေ့သို့ ပြောင်းရွှေ့ သတ်မှတ်ခဲ့သည်။

ဒုတိယဗုံးအတွက် ရွေးချယ်ထားသည့် ပထမ ပစ်မှတ်က ဂျပန်လက်နက် တိုက်များရှိရာ ကော့ကူးရာမြို့ ဖြစ်ပြီး၊ ဒုတိယမှာ နာဂါဆကီ ဖြစ်သည်။

ဩဂုတ်လ ၉ ရက် နံနက်စောစောတွင် ဗိုလ်မှူးချုပ်(စ)ဆွင်နီ=Major Charles W.Sweeney နှင့်အဖွဲ့ မောင်းနှင်သည့် ဘီ –၂၉ ဗုံးကြဲလေယာဉ် Bockscar သည် Fat Man ဟု အမည်ပေးထားသည့် ဖရဲသီးပုံဗုံးကို တင်ဆောင်ကာ ခရီးစဉ် စတင်လာသည်။ သူနှင့်အတူ မိုးလေဝသ ထောက်လှမ်းရေး လေယာဉ်၊ ဓာတ်ပုံရိုက် မှတ်တမ်းတင်မည့် လေယာဉ်တို့ အပါအဝင်၊ အကူ လေယာဉ်များလည်း လိုက်ပါ လာကြသည်။

အကြောင်းကြောင်းကြောင့် လေယာဉ်တွေ ချိတ်ဆက်လွဲကာ ကော့ကူးရာသို့ နာရီဝက် နောက်ကျပြီး ရောက်သွားသည့်အခါ မိုးလေဝသက ခပ်စောစော သတင်း ရထားသလို ကြည်ကြည်လင်လင် မဟုတ်၊ မြို့အထက် ကောင်းကင်၏ ၇၀ ရာခိုင်နှုန်းလောက် တိမ်တိုက်တွေ ဖုံးနေသည်။ မြို့ကို သုံးကြိမ်တိတိ ဝဲကြည့်သည်။ ပြောက်ကျား ပြောက်ကျား မြင်ရသော်လည်း ပစ်မှတ် ဗဟိုအဖြစ် သတ်မှတ်ထားသည့် နေရာကို မမြင်ရ။ အမိန့်ညွှန်ကြားချက်က ပစ်မှတ်မမြင်ရလျှင် မချရဟု တိတိကျကျ ဆိုထားသည်။ သည်အချိန် လေယာဉ်က မြို့ကို ဝဲနေရသဖြင့် ဆီနည်းလာနေပြီး အရံဆီတိုင်ကီမှ ဆီကလည်း ဆီပန့်ချို့ယွင်း

သဖြင့် သုံးမရဖြစ်နေသည့်အခါ ကောက္ကူးရာမှာ ကြာကြာ စောင့်မနေနိုင်တော့ဘဲ နာဂါဆကီသို့ ထွက်ခွာကြရသည်။

နာဂါဆကီမှာလည်း တိမ်ရှိနေသည်။ သို့သော် ကံဆိုးချင်တော့ တိမ်ကွဲကြားက မြို့ကို မြင်ရသဖြင့် ဗုံးတာဝန်ခံ ဗိုလ်ကြီး ဘီဟန်က ပစ်မှတ်ကို မျက်မြင်ချိန်ရွယ် နိုင်ခဲ့သည်။ သို့နှင့် နံနက် ၁၁ နာရီ ၁ မိနစ်တွင် ပလူ တိုနီယမ် – ၂၃၉ အလေးချိန် ၆.၄ ကီလိုဂရမ် ပါသည့် 'လူဝကြီး'ကို ကြဲချ ဖြစ်သည်။ ချပြီး ၄၃ စက္ကန့်အကြာ အမြင့်ပေ ၁၅၄၀ တွင် ပေါက်ကွဲသည်။ သည် တစ်ကြိမ်မှာ ပစ်မှတ်နှင့် နှစ်မိုင်ခန့်အထိ လွဲသွားခဲ့သည်။ မြို့အနောက် မြောက်ဘက်ခြမ်းတွင် ဟီရိုရှီးမားလိုပင် အပြင်းအထန် ထိခိုက်ပျက်စီးမှုဖြစ်ပြီး မြို့၏ ပင်မအပိုင်းကတော့ တောင်များ ကာကွယ်ပေးထားသဖြင့် သက်သာ သွားခဲ့သည်။

သို့တိုင် ယမ်းဘီလူး တန်ချိန် ၂၁,၀၀၀ အားနှင့် ပေါက်ကွဲခြင်းဖြစ်ရာ ရုတ်တရက် သေဆုံးမှုက ၄၀,၀၀၀–၇၅,၀၀၀ ထိ ရှိခဲ့ပြီး နောက်ပိုင်း သေဆုံးမှု များနှင့် စုပေါင်းသော် ၈၀,၀၀၀ မျှ ရှိသည် ဟုဆိုသည်။

သေဆုံးသူ ထိခိုက်ဒဏ်ရာ ရသူများထဲတွင် ဟီရိုရှီးမား၌ ဗုံးဒဏ်ခံခဲ့ရ၍ သေမပျောက် လွတ်မြောက်ခဲ့ပြီး နောက်တွင်မှ မြို့ကိုစွန့်ခွာကာ နာဂါဆကီသို့ ထွက်လာမိခဲ့ကြသူ အချို့လည်း ပါဝင်သည်။ ထူးထူးခြားခြား နှစ်ထပ်ကွမ်း ကံဆိုးကြသူများ ဖြစ်သည်။

နာဂါဆကီ ကံဆိုးခြင်းနှင့် ပတ်သက်၍ နောက်ပိုင်းတွင်မှ သိလာရသည့် အချက်တစ်ခု ရှိသေး၏။ ပစ်မှတ်ကော်မတီ၏ မူလဆန်ခါတင် စာရင်းတွင် နာဂါဆကီ မပါဝင်ခဲ့ပေ။ ၎င်းတို့ စာရင်းကို စစ်ဝန်ကြီးထံ တင်ပြသည့်အခါ စစ်ဝန်ကြီး စတင်(မ)ဆင် (Henry L.Stimson) က စာရင်းကို ပြင်သည်။ စတင်(မ)ဆင် လက်ထပ်ပြီးစက ဇနီးသည်နှင့် ဂျပန်ပြည်သို့ ဟန်းနီးမွန်း ထွက်သည့်အခါ သာယာလှပ၍ ရှေးဟောင်းအဆွေအနှစ် ပေါ်ကြွယ်ဝသည့် မြို့တော်ဟောင်း ကျိုတိုသို့ ရောက်ရှိပြီး နှစ်သက်စွဲလမ်းခဲ့ဖူးသည်။ ထိုသည့် သံယောဇဉ်ကို အကြောင်းပြု၍ ကျိုတိုကို အထူးမြို့ပုံစံ ဖျက်ဆီးမည့် စာရင်းမှ ပယ်ဖျက်ရန် သူ တိုက်တွန်းပြီး ၎င်းနေရာတွင် သူ ခံစားမှု မရှိသော နာဂါဆကီကို အစားထိုး ပေးခဲ့သည်။ ထို့ကြောင့် သမ္မတ ထရူးမင်း၏ အတည်ပြုချက် ရယူသည့်အခါ ကျိုတိုနေရာ၌ နာဂါဆကီ ပါဝင်ခဲ့ခြင်း ဖြစ်သည်။

## ကော့ကူးရာ ထံထူးပုံ

အခေါ်ရိုကန်တို့အနေဖြင့် ဗုံးနှစ်လုံး ကြဲပြီးသည်အထိ ဂျပန် လက်နက်မချခဲ့သော် နောက်ထပ် ဆက်၍ ကြဲချဦးမည် ဖြစ်သည်။ အကြောင်းက လက်နက်ချသော ဂျပန်ပြည်ကို သမားရိုးကျ လက်နက်များဖြင့် တိုက်ခိုက်ပြီး ဘစ်ကွန်းချင်း သိမ်းပိုက်ရမည်ဆိုလျှင် ဂျပန်တွေ အကြီးအကျယ် သေကျေပျက်စီးသကဲ့သို့ မိမိစစ်သည်များလည်း အမြောက်အမြား ကျဆုံးမှာ သေချာနေသောကြောင့် ဖြစ်သည်။

အဏုမြူ စက်ရုံများကလည်း သည်အတွက် ဆက်လက် လုပ်ကိုင်နေကြရာ ဩဂုတ်လ တတိယပတ်တွင် ကြဲချရန် နောက်တစ်လုံး ရှိနေပြီး၊ စက်တင်ဘာနှင့် အောက်တိုဘာတွင် နောက်ထပ် သုံးလုံးစီ ကြဲနိုင်ရန် ပြင်ဆင်ထားခဲ့သည်ဟုဆိုသည်။

သို့သော် စစ်ဒဏ်ကို ဆက်၍ မခံနိုင်တော့သည့် ဂျပန်တို့က လက်နက်ချတော့မည် ဖြစ်ကြောင်း ဩဂုတ်လ ၁၅ ရက်နေ့တွင် ကြေညာရာ မကြာမီပင် ဒုတိယကမ္ဘာစစ်ကြီး တရားဝင် ပြီးဆုံးသွားခဲ့သည်။

ယင်းသို့ မကြေညာပါက အစီအစဉ်အရ တတိယဗုံး အကြဲခံရမည့်နေရာသည် ကော့ကူးရာ ဖြစ်သည်။ ကော့ကူးရာသည် ဂျပန်ပြည်ရှိ လက်နက်ခဲယမ်းမီးကျောက် ထုတ်လုပ်ရာ နေရာများထဲတွင် အရေးပါသည့် အကြီးဆုံးနေရာတစ်ခု ဖြစ်ပြီး ၎င်းမှ သမားရိုးကျ လက်နက်များသာမက အဆိပ်ဓာတ်ငွေ့များ၊ ပိုးမွှားလက်နက်များပါ ထုတ်လုပ်နေရာ၊ ယင်းအတွက်ကြောင့်ပင် အဏုမြူပစ်မှတ် ရွေးချယ်ရာ၌ သူ ပါဝင်ခဲ့ခြင်း ဖြစ်သည်။

ပထမအကြိမ် ဟီရိုရှီးမား ဗုံးကြဲရာတွင် သူက အရံပစ်မှတ် ဖြစ်ခဲ့ပြီး ဒုတိယ ဗုံးတုန်းက မိုးလေဝသကြောင့် လွတ်မြောက်ကာ၊ တတိယ ဗုံးကြဲခါနီးတွင် စစ်ပြီးသွားရာ သူ့လောက် ကံကောင်းသူ မရှိဟု ဆိုရပေမည်။ သည့်အပြင် သူက အဏုမြူပစ်မှတ် စာရင်းတွင် ပါဝင်နေသဖြင့် စောစောပိုင်းက တခြားမြို့တွေ ရိုးရိုးဗုံးများ ကြဲစဉ်ကလည်း ချန်လှပ်ခြင်း ခံခဲ့ရသည်ဖြစ်ရာ သူ့ထက် ကံကောင်းရုံမက ကံထူးသည်ဟုပင် ဆိုရပေမည်။

## အဏုမြူဗုံးဒဏ် နှစ်ကြိမ်ခံရသူများ

စစ်ကြီး ပြီးဆုံးသည့်နောက်တွင် ဂျပန်တို့က အဏုမြူဗုံးဒဏ် ခံခဲ့ရသူများ (explosion affected people) ဂျပန် အခေါ် ဟီဘာကုရှ (hibatusha) များကို

အမည်စာရင်း ကောက်ခံခြင်း၊ ၎င်းတို့ ခံစားရသည့် နောက်ဆက်တွဲ ဝေဒနာများကို မှတ်တမ်းတင်ခြင်းနှင့် ၎င်းတို့အတွက် ကူညီစောင့်ရှောက်ခြင်းများ ပြုလုပ်ခဲ့သည်။ ဟီရိုရှီးမားနှင့် နာဂါဆာကီတွင် ဆောက်လုပ်ထားသည့် အဏုမြူဗုံးဒဏ်သင့် လူများအတွက် အောက်မေ့ဖွယ် ဗိမာန်များတွင်၊ နောက်ဆုံးသေဆုံးသည့် ဟိဘာကုရှတို့၏ အမည်များကိုပါ ရေးထိုးဖြည့်သွင်းခဲ့ကြသည်။ ထိုစာရင်းများအရ ၂၀၀၉ ခုနှစ် ဩဂုတ်လ အဏုမြူဗုံး နှစ်ပတ်လည်ကာလတွင် ဟီရိုရှီးမားရှိ ဗိမာန်၌ အမည်နာမ ၂၆၃,၉၄၅ နှင့် နာဂါဆာကီတွင် ၁၄၉,၂၂၆ ရှိရာ စုစုပေါင်း ဟိဘာကုရှ ဦးရေမှာ လေးသိန်းတစ်သောင်းကျော် ရှိပေသည်။

ယင်းအနက် ဟီရိုရှီးမားရော နာဂါဆာကီမှာပါ အဏုမြူဗုံးဒဏ်ခံခဲ့ရသူဦးရေမှာ ရာဂဏန်းမျှ ရှိသည် ဟုဆိုသည်။ ၎င်းပုဂ္ဂိုလ် ၁၆၅ ဦးအကြောင်းတင်ပြထားသည့် မှတ်တမ်းတင် ရုပ်ရှင်ကားတစ်ခုကို ၂၀၀၆ ခုနှစ်က ရိုက်ကူးပြီး ကမ္ဘာ့ကုလသမဂ္ဂရုံးတွင် ပြသခဲ့သည်။

အဆိုပါ ဗုံးဒဏ်ခံ ပုဂ္ဂိုလ်များထဲတွင် အထင်ရှားဆုံးမှာ ဆူတိုမူး ယာမာဂူချီ (Tsutomu Yamaguchi 1916-2010) ဖြစ်သည်။ ဆူတိုမူးမှာ ၂၀၀၉ ခုနှစ် မတ်လတွင် ဂျပန်အစိုးရက တစ်ဦးတည်းသော နှစ်ထပ်ကွမ်း ဗုံးဒဏ်ခံ ပုဂ္ဂိုလ် (double hibakusha) အဖြစ် အသိအမှတ်ပြုခဲ့၍ လည်းကောင်း၊ များမကြာမီက ထွက်ပေါ်ခဲ့ပြီး စာအုပ်လောကတွင် များစွာ ဂယက်ရိုက်ခဲ့သော ချားလ်(စ) ပယ်လီဂရီနို (Charles Pellegrino) ၏ ဟီရိုရှီးမားက နောက်ဆုံး ရထား (The Last Train From Hiroshima) စာအုပ်တွင် ပါဝင်သည့် အင်တာဗျူးကြောင့် လည်းကောင်း များစွာ ထင်ရှားခဲ့သည်။

## နှီးသက်ပြင်း ဆူတိုမူး

နာဂါဆာကီမြို့သား ဆူတိုမူးသည် မစ်ဆူဘီရှိ ကုမ္ပဏီအတွက် ရေနံတင်သင်္ဘော ပုံစံများ ရေးဆွဲပေးရသည့် ပုံဆွဲဆရာ ဖြစ်သည်။ သူသည် အလုပ်တာဝန်ဖြင့် ဟီရိုရှီးမားသို့ ရောက်ရှိခဲ့ပြီး ဩဂုတ်လ ၆ ရက်နေ့ မနက်တွင် မိတ်ဆွေနှစ်ဦးနှင့်အတူ နာဂါဆာကီသို့ ပြန်ရန် ဘူတာရုံသို့ လာခဲ့သည်။ လမ်းခုလတ်တွင် သူ၏ လက်မှတ်တံဆိပ်တုံး မေ့ကျန်ခဲ့တာ သတိရသဖြင့် ပြန်ယူရန် အလုပ်ဌာနသို့ သွားသည်။ အဲသည်တွင် 'ဟီရိုလားအေး' [illegible] လေယာဉ်ကို ၂ မိုင်နီးပါးအကွာမှ လှမ်းမြင်သည်။ လေယာဉ်ပေါ်မှ [illegible] ၂ ခု ကျလာတာ မြင်ရပြီးနောက် ကောင်းကင်တစ်ခုလုံး [illegible]

သူလည်း နောက်ဘက် လွင့်ထွက် သွားသည် ဟုဆိုသည်။ ပေါက်ကွဲမှုကြော
သူ့နားစည်တွေ ပွင့်ထွက်သွားသည်။ အခိုက်အတန့်အဖို့ မျက်စိနှစ်ဖက်လုံးလည်
ကန်းသွားသလို မှောင်အတိ ကျသွားသည်။ ကိုယ်အပေါ်ပိုင်း ဘယ်ဘက်အခြ
တစ်ခုလုံးလည်း မီးဟပ်ခံလိုက်ရပြီး လူက သတိလစ်သလို ဖြစ်သွားသည်
နောက်တော့မှ ငါ မသေဘူးဟု သတိရကာ မျက်စိလည်း တဖြည်းဖြည်
ပြန်မြင်လာရသဖြင့် မိတ်ဆွေများရှိရာ ပြန်ခဲ့သည်။ သူ့မိတ်ဆွေတွေ
သေမပျောက် တွေ့ရသဖြင့်၊ အပျက်အစီးတွေ လူသေအလောင်းတွေကြ
တိုးဇော့ဖြတ်သန်းကာ ဘူတာရုံ ရှိရာသို့ သွားကြသည်။ ထိုည၌ ဗုံးခိုကျ
တစ်ခုတွင် အိပ်ကြရပြီး နောက်နေ့၌ နာဂါဆကီသို့ ထွက်သည့် ရထားဖြ
လိုက်ပါခဲ့ကြသည်။ အဲသည်နေ့က ရထားပေါ်တွင် ပါလာခဲ့ကြသူများ
တစ်ခါမှ မကြုံဖူးသည့် ဒဏ်ရာများ အနာအဆာများကြောင့် သူ့ရဲတစ္ဆေများ
သိပ္ပံ သည်းထိတ်ဖို ရုပ်ရှင်ကားများထဲက ဘာမှန်းမသိသည့် သတ္တဝါများ
ထိတ်လန့်တုန်လှုပ်ဖွယ် ကောင်းလှကြောင်း သူ ပြောပြခဲ့သည်။

နာဂါဆကီ ရောက်ပြီးနောက် သူ့ဒဏ်ရာများအတွက် ဆေးကုသမှု ခံယူ
ဩဂုတ်လ ၉ ရက် နံနက် ၁၁ နာရီခန့်တွင် တစ်ကိုယ်လုံး ပတ်တီးစေ
အပြည့်နှင့်ပင် အလုပ်ဌာနသို့ သတင်းပို့ရန် သွားရောက်သည်။

ဗုံးတစ်လုံးတည်းနှင့် တစ်မြို့လုံး ပျက်သွားကြောင်း ပြောပြသည့်အ
ညွှန်ကြားရေးမှူးက မယုံ၊ သူ ဗုံးထိလာခဲ့သည် ဆိုတာတော့ ယုံသည
သို့သော် အဲသည်အရှိန်ဖြင့် စိတ် ကယောက်ကယက် ဖြစ်ကာ မဟုတ်တာ
လျှောက်ပြောနေသည် ဟုထင်သည်။

အဲသည့်အချိန်မှာပဲ အပြင်မှာ အကြီးအကျယ် လင်းလက်သွားတာ တစ
ပြတင်းပေါက်က လှမ်းမြင်လိုက်ရပြီး သူရော သူတို့ရုံး တစ်ခုလုံးပါ လွင့်ထွ
သွားသည်။ ထို့နောက် ဘယ်လောက် မေ့မြောသွားသည် မသိ၊ သူ သတိ
သည့်အခါ ဘုရင် ဟီရိုဟီတိုက ဂျပန်လက်နက်ချကြောင်း ကြေညာသဖြ
ငိုသူတွေငို၍ ဝမ်းသာစွာ အော်ဟစ်သူတွေ အော်ဟစ်နေကြကြောင်း
ပြောပြခဲ့သည်။

ဗုံးဒဏ် နှစ်ကြိမ်ခံရပြီး ခါတ်ရောင်ခြည် နှစ်ကြိမ်သင့်ခဲ့သော်လည
ဆူတိုမူး အသက် မသေခဲ့။ ယခု ၂၀၁၀ ပြည့်နှစ် ဇန်နဝါရီလ ၄ ရက်
သူ့အသက် ၉၃ နှစ် ကျမှသာ အစာအိမ်ကင်ဆာ ရောဂါဖြင့် ကွယ်လွန်သည

သို့သော် မကွယ်လွန်မီ ကာလတစ်လျှောက် နှစ်ထပ်ကွမ်း ဖုံးဒထဲခံအခြင် သူ၏ ထင်ရှားမှုကို အသုံးပြုကာ အဏုမြူလက်နက်များ ဖျက်သိမ်းရေးကို တက်ကြွစွာ ဆောင်ရွက်သွားခဲ့ပေသည်။

# အရှုံးအနိုင် ပြဿနာ

Win-win situation (သူနိုင် ငါနိုင် အနေအထား) ဆိုသောစကား လူအများ ကြားဖူးကြပါသည်။

လူနှစ်ဦးကြား ဖြစ်ပွားနေသည့် ပြဿနာကို သူ မသာ ကိုယ် မနာနည်း ရွှေ့လည်း လျော့ကိုသာ ပျားလည်း စွဲသာနည်းဖြင့် ဖြေရှင်းရန် အကြံပေးသော စကား ဖြစ်သည်။

ရေရှည်အကျိုးကိုကြည့်ကာ မိမိအတ္တကို လျှော့ပြီး ထိန်းထိန်းသိမ်းသိမ်း နိုင်းနိုင်းချိန်ချိန် စဉ်းစားဆုံးဖြတ်ရန် တိုက်တွန်းခြင်းဖြစ်ရာ ကိုယ်ချည်း အနိုင်ယူချင်တတ်သည့် လူ့သဘာဝနှင့် သဟဇာတဖြစ်ပါ့မလားဟု တွက်ဆစရာ ရှိပါသည်။

ယေဘုယျအားဖြင့်တော့ လူတွေက ခေါင်းကျရင် ငါနိုင်တယ်၊ ပန်းကျရင် မင်းရှုံးတယ် ဆိုတာမျိုး လုပ်ချင်တတ်ကြသည်။ တမင် နောက်ပြောလျှင် ဒါလည်း win win တော့ win win ပဲ၊ သို့သော် ကိုယ်တစ်ခြမ်းတည်း စဉ်းစားသည့် win win၊ သူနိုင် ငါနိုင် မဟုတ်၊ ငါနိုင် ငါနိုင် ဟုပြောရလိမ့်မည် ထင်သည်။

ခေါင်းကျကျ ပန်းကျကျ ငါ နိုင်ဖို့။

အဲသည်လို နိုင်အောင် ကြိုးစားသည့်အခါ ဒါမရ ဟိုဟာ ဆိုတာမျိုး လုပ်တတ်တာလည်း ရှိသည်။ စစ်တုရင်မှာ မြင်းက တစ်နေရာကို ခုန်ရွှေ့ကာ အကောင်ကြီး နှစ်ကောင်ကို တစ်ပြိုင်နက် 'ခွ'ချက် လိုက်တာမျိုး။

သူက ခက်ရင်းခွဖြင့် နှစ်ကောင် တစ်ပြိုင်တည်း ချိန်လိုက်တာ။

သို့သော် ချိန်ရုံသာ ချိန်နိုင်သည်။ တစ်ခါတည်း တန်းထိုး၍တော့ မရ။ တစ်ဖက်လူကို အလှည့်ပေးရသည်။ အဲသည်တော့ အနည်းဆုံး တစ်ကောင် လွတ်သွားမည်။ ကြီးတဲ့ အကောင် မစားရ၊ သေးတဲ့ အကောင်ပဲ စားရမည်။

## မော်တန်၏ ခက်ရင်းခွ

အဲသည် စစ်တုရင် ခွချက်ထက် ပိုပိုင်သည့် ခက်ရင်းခွတစ်ခု ရှိသေးသည်။ အဲဒါက မော်တန်၏ ခက်ရင်းခွ (Morton's Fork) ဟုခေါ်သည်။ နှစ်ကောင်စလုံး တစ်ပြိုင်တည်း ထိုးလိုက်သည့် ခက်ရင်းခွ။

သတ္တမမြောက် ဟင်နရီဘုရင် လက်ထက် အင်္ဂလန်ပြည်မှာ နန်းရင်းဝန် လုပ်သည့် ဂျွန်မော်တန် အခွန် ကောက်ပုံကောက်နည်းမှနေ၍ သည်အခည်းနှီး ထွက်ပေါ်လာခြင်း ဖြစ်သည်။

ဘုရင်မင်းမြတ်အတွက် အခွန်တော်တွေ ဘယ်သူ့ထံက ကောက်မည်လဲ စဉ်းစားသည့်အခါ ချက်ချင်း အဖြေထွက်သည်က ငွေကြေးရှိသူတွေထံက ကောက်ရမည် ဟူ၍ ဖြစ်သည်။

ဘယ်သူတွေ ငွေကြေး ရှိသလဲ စဉ်းစားသည့်အခါ ဝယ်ခြမ်းသုံးစွဲနေသူတွေ ငွေကြေးရှိသည်ဟု အဖြေထွက်သည်။

သူတို့ထံက ကောက်။

သို့သော် တချို့က ရှိတာထက် ပိုပြီး သုံးစွဲနေကြသည်။ တကယ်တမ်း ငွေမရှိ၊ ကြွေးသာ ရှိသည်။ အဲသည် လူတွေကို ဘယ်လိုလုပ်မည်လဲ။

ကိစ္စမရှိ။ ဘယ်နည်းနှင့်ဖြစ်ဖြစ် သုံးစွဲနေနိုင်လျှင် ရှင်ဘုရင်ကို ပေးဖို့လည်း တတ်နိုင်ရလိမ့်မည်။ ကောက်သာ ကောက်။

ဒါဖြင့် မသုံးစွဲသူတွေကတော့ ငွေကြေးမရှိသူတွေဖြစ်လို့ သူတို့ကို မကောက်ဘူးပေါ့။

အဲ၊ သည်လိုတော့ ဘယ်ဖြစ်မလဲ။ မသုံးတိုင်း မရှိဘူး မပြောနိုင်၊ တပ်စေးနဲနဲနှင့် ခြိုးခြံချွေတာပြီး ကျစ်ကျစ်ပါအောင် စုထားသူတွေ ရှိသည်။ အဲသည်လူတွေသည် တိတ်တိတ်ကျိတ်ပြီး ချမ်းသာနေနိုင်သည်။ သူတို့ကိုလည်း ကောက်။

ချုပ်လိုက်သော် မော်တန်၏ နည်းက သူဌေးရော၊ ဆင်းရဲသားရော၊ ပေလွှားလွှား ရော၊ သိုသိုသိပ်သိပ်သမားပါ တစ်ယောက်မှ လွတ်မသွားအောင် ဟူသောနည်း ဖြစ်သည်။ သူက စစ်တုရင်က မြင်းလို ချိန်ရုံမဟုတ် တစ်ပြိုင်နက် ချထိုးလိုက်ခြင်း ဖြစ်သည်။

ပြောရလျှင် မော်တန်အဖို့ အမြဲတမ်း ငါနိုင်။

တစ်ဖက်လူအဖို့ နိုင်လမ်း မရှိ။ No-win situation.

## Catch - 22

တစ်ခါတစ်ရံ တစ်ဖက်လူ ထွက်ပေါက် မရအောင် နှစ်ဖက်ချ ပိတ်ထားသော အခြေအနေ လည်း ရှိတတ်သည်။

စာရေးဆရာ ဂျိုးဇက်ဟယ်လာ (Joseph Heller) ၏ Catch - 22

ဝေဒနာထဲမှာ အဲသည့် အနေအထားမျိုးတွေ ဖော်ပြထားသည်။ ရွေးချယ်စရာ မှိုသဘောင်ဆောင်နှင့် တကယ်တမ်း ဘာမှမရှိသည့် အနေအထား။

ဝေဒနာထဲက အဓိက ဇာတ်ဆောင်ဖြစ်သူ လေတပ်ဗိုလ် ဂျွန် ယော်ဆာရီယန် သည် ဒုတိယ ကမ္ဘာစစ်အတွင်း မြေထဲပင်လယ်ရှိ ပီယာနိုဆာကျွန်းတွင် အခြေစိုက်ထားသည့် အမေရိကန် လေတပ်စခန်းမှ ဗုံးကြဲလေယာဉ် မောင်း သမားတစ်ဦး ဖြစ်သည်။ သူက တိုက်ချင်ခိုက်ချင်စိတ် နည်းသည်။ လေယာဉ်ကြီး ဇာတ်မောင်းကာ ရန်သူ့နယ်မြေပေါ် ဗုံးတွေ တဝုန်းဝုန်း ကြဲချလိုက်မည် ဟူသော စိတ်ဓာတ်မျိုး မရှိ။ သည်စစ်ယန္တရားကြီးသည် မိမိအား သေတွင်းသို့ အမြန်ဆုံး ပို့ဆောင်နိုင်ရန် ကြိုးပမ်းနေသည်၊ သည်စစ်ကြီးသည် နိုင်နိုင် ရှုံးရှုံး သူ့ရောကိုယ်ပါ ဖြုန်းတီးရမည့် lose-lose situation ဖြစ်သည်၊ သည် အနေအထားက လွတ်အောင်ရုန်းရမည် ဟူ၍သာ သူမြင်နေသည်။ ထို့ကြောင့် ဗုံးကြဲခရီးစဉ်တွင် မလိုက်ပါရအောင် ကျန်းမာရေး အကြောင်းပြချက်ဖြင့် ရှောင်ဖို့ ကြိုးစားသည်။

သို့သော် ဗျူရိုကရေစီ ယန္တရားက ချုပ်ထားသည့် ပတ်ချာလှည့် ဆင်ခြေ စက်ဝိုင်းထဲမှာ သူ ပိတ်မိနေသည်။

အကြောင်းက၊

လေယာဉ်မောင်းနှင်ရေး တာဝန်မှ ရပ်နားခွင့်ရရန်အတွက် လေတပ်စခန်း ဆေးမှူး၏ လေယာဉ် မမောင်းသင့်ကြောင်း ဆေးမှတ်ချက်လိုသည်။ ဆေးမှူးက သည်ပုဂ္ဂိုလ်သည် စစ်ပွဲဒဏ် မခံနိုင်သဖြင့် ဂယောင်ချောက်ချား ဖြစ်နေသည်။ စိတ်အနေအထား မမှန်၊ သူ့အား ဗုံးကြဲလေယာဉ် မောင်းနိုင်းရန် မသင့်ဟု ဆုံးဖြတ်လျှင် သူ ရပ်နားခွင့်ရမည်။ သို့သော် ဆေးမှူးထံသွားပြီး မိမိ စိတ် ကျန်းမာရေး ချို့တဲ့သဖြင့် နားခွင့်ပေးပါဟု တောင်းခံဖို့ကလည်း ခက်သည်။ အဲဒါဆိုလျှင် စစ်ဆင်ရေးမှာ မလိုက်ပါလိုသဖြင့် အကြောင်းပြခြင်းသာ ဖြစ်သည်ဟု ဆေးမှူးက မြင်လိမ့်မည်။ သေလမ်းနီးသော သည်ခရီးကို လိုက်ပါရမှာ ကြောက်သောသူသည် ရူးသွပ်သူ မဟုတ်၊ စိတ်မှန်သောသူသာ ဖြစ်သည်ဟု ကောက်ချက်ချမှာ သေချာသည်။

သို့သော် ကိုယ့်သေဘေးကို တွေးရကောင်းမှန်း မသိဘဲ လိုက်ပါနေကြသူများ ထဲတွင် တကယ် စိတ်မမှန်သူတွေလည်း အများကြီး ပါနိုင်သည်။ သူတို့ကျတော့ ကိုယ့်ကိုကိုယ် စိတ်မမှန်မှန်း မသိ၊ ဆေးမှူးထံလည်း သွားမပြတော့ နားခွင့်မရ ဗုံးကြဲခရီးများမှာ ဆက်လိုက်နေကြရသည်။

နောက်ဆုံး ချုပ်လိုက်တော့ စိတ်မမှန်သူတွေကို ဆေးမှူး၏ မှတ်ချက်ဖြင့် နားခွင့်ပေးမည်ဟု ဆိုထားသော်လည်း ဆေးမှူးက သွားမစစ်ဘဲ အစစ်ဆေးခံမည့်သူကို ထိုင်စောင့်နေသော အနေအထားတွင် ဘယ်သူမှ ထိုအခွင့်အရေးကို ခံစားခွင့် မရှိ ဖြစ်နေသည်။

ပေးသယောင်နှင့် တကယ်မရသည့် ထိုအနေအထားမျိုးကို Catch - 22 situation ဟု ခေါ်လာကြသည်။ အနိုင်အရှုံးသဘောအရ ပြောရသော် တစ်ဖက်က အမြဲနိုင် တစ်ဖက်က အမြဲရှုံးသည့် win- lose အနေအထား။

ဝတ္ထုထဲမှာ မိုလ်မှူးမေဂျာ (Major Major) ဖန်တီးထားသည့် တခြား Catch-22 အနေအထားတစ်ခုလည်း ရှိသေးသည်။

မိုလ်မှူးမေဂျာက မိမိအား တွေ့ဆုံတင်ပြလိုသူများကို လက်မခံဟု အားမြစ်မထား။ သို့သော် တွေ့ချင်သည် ဟူ၍ တစ်စုံတစ်ယောက် ရောက်လာခဲ့သည်ရှိသော် ရုံးခန်းထဲမှာ မိမိ မရှိလျှင် ဝင်ခွင့်မပေးနှင့်၊ အကယ်၍ ရှိသည် ဆိုလျှင်လည်း အပြင်မှာ ခဏ စောင့်ခိုင်းထားပြီး မိမိကို လာအသိပေးဟု တပ်ကြပ်ကြီးအား ညွှန်ကြားထားသည်။

ထို့နောက်

အပြင်မှာ စောင့်နေသူရှိလျှင် သူက ဘေးပြတင်းပေါက်မှ လစ်သွားသည် ဟုဆိုပါသည်။

## နိုင်တိုင်း ကောင်းသလား

အနိုင်အရှုံး သဘောအရ ပြောလျှင်မူ Catch -22 ဟူသည် ကိုယ်နိုင်ဖို့ သေချာအောင် လုပ်ထားသည့် အနေအထား ဖြစ်သည်။

သို့သော် နိုင်တိုင်း ကောင်းပါသလား။

တစ်ခါတစ်ရံ နိုင်သော်လည်း အကျိုးမရှိတာမျိုးတွေ ကြုံရတတ်သေးသည်။

ဘယ်လို နိုင်သလဲ၊ ဘာတွေနိုင်ပြီး ဘာတွေ အရှုံးပေးလိုက်ရသလဲ စဉ်းစားဖို့ ရှိသည်။

သိပ္ပံမောင်ဝ၏ ဝတ္ထုဆောင်းပါးများထဲမှ အင်အသလံ အကြိုက်ဆုံးသူများ အကြောင်း ဖတ်ဖူးကြလိမ့်မည်။

တစ်ဖက်လူနှင့် ပြိုင်သည့်အခါ ငါနိုင်ဖို့က အဓိက၊ လူကြီးသင်တို့ရှေ့မှာ ငါရှုံးသွားသည်ဟု လုံးဝ မဖြစ်စေရ၊ ငါတွေး ဆိုပြီး လူကြီးတစ်ဦးနှင့်သော သူ့ထက်ငါ အပြိုင် ဈေးတင်ပြီး ပေးကြသည့်အခါ တစ်ယောက်က ထောင်ချင့်

ဆွေမျိုးတွေ အတင်းဝိုင်းဆွဲထားသဖြင့် ရှုံးသွားသော်လည်း ကံသီ၍ ဒု
မရောက်သည့် အရှုံးကောင်း။ အဆမတန် အလွန်အကျွံ ဈေးဖြင့် လေလံအော
သွားသည့် လုမိုက်မှာတော့ တစ်ဖက်လူနှင့် ပြိုင်ရာမှာ နိုင်သော်လည်
သည်အင်းက ရသည့်ငွေဖြင့် လေလံကြေးပေးနိုင်စရာ လမ်းမမြင်၊ ထောင်နန်
ရဖို့သာ သေချာနေသဖြင့် အဲဒါမျိုးကျတော့ 'နိုင်ခွက် ခွက်လန်' အနေအထာ
ဟုဆိုချင်သည်။

အဲသည်လို နိုင်သော်လည်း ခွက်ခွက်လန်သွားသည့် အဖြစ်မျိုးတွေ
သမိုင်းထဲမှာလည်း ရှိသည်။

## ဖီးရပ်(စ)၏ ခွက်ခွက်လန် အောင်ပွဲ

ဉရောပမှာ ရောမအင်ပိုင်ယာ ကြီးကျယ်ဆဲကာလ အက်ပိုင်ရပ်(စ)ပြည်
ဘုရင်ဖီးရပ်(စ) (Pyrrhus)နှင့် ရောမတပ်များ တိုက်ခိုက်ကြသည့် စစ်ပွဲတစ်
ရှိခဲ့သည်။ ဘုရင်ဖီးရပ်(စ)ကို အကြောင်းပြု၍ ဖီးရစ်စစ်ပွဲ (Pyrrhic war)ဟု
ခေါ်ကြသည်။

နှစ်ဘက်အကျအဆုံး ကြီးမားစွာဖြင့် ရင်ဆိုင်တိုက်ခိုက်ပြီးနောက်
ဖီးရပ်(စ)ဘက်က အနိုင်ရသည်။ သို့သော် ရောမအင်ပိုင်ယာမှာ စစ်သည်
အင်အား များပြားလှသဖြင့် သည်ပွဲက အကျအဆုံး ဒဏ်ကို ခံနိုင်သည်
ဖီးရပ်(စ)မှာတော့ သူ့ဆွေတော်မျိုးတော်တွေ၊ သူ အဓိက အားထားရသည့်
စစ်သူကြီးတွေ အပါအဝင် စစ်သည်ဗိုလ်ပါ မြောက်မြားစွာ ကျဆုံးသဖြင့်
မသက်မသာ ခံရသည်။ ရှေ့ရေးတွေးလျှင် စိတ်မအေးရသဖြင့် နိုင်သော်လည်း
ဝမ်းမမြောက်နိုင်။

အထက်မှာ ဆိုခဲ့သည့် 'နိုင်ခွက်ခွက်လန်' အနေအထား။

အဲသည်ချိန် သူ့လူတစ်ယောက်က စစ်နိုင်သဖြင့် ရှင်ဘုရင်အတွက်
ဝမ်းသာဂုဏ်ယူကြောင်း ပြောသည့်အခါ ဖီးရပ်စ်က 'ဒီလိုစစ်ပွဲမျိုး နောက်တစ်ပွဲ
ထပ်နိုင်ရင် ငါ အက်ပိုင်ရပ်(စ)ကို တစ်ယောက်တည်း ပြန်ရလိမ့်မည်' ဟု
စိတ်ပျက်လက်ပျက် ဆိုခဲ့သည်။

သည်အကြောင်းကို အတ္ထုပ္ပတ္တိ ဆရာကြီး ပလူးတာ့ခ် (Plutarch) က
မှတ်တမ်းတင်ရေးသားခဲ့သဖြင့် အဲသည်က စကာ ဖီးရပ်(စ)လို အောင်ပွဲမျိုး
(Pyrrhic victory) ဟူသော စကားတစ်ခု ပေါ်ပေါက်ခဲ့သည်။

ဘယ်နည်းနှင့် နိုင်နိုင် နိုင်ဖို့ ပဓာန လုပ်ကြသည့်အခါ ဖီးရပ်(စ)လိုပင် နိုင်သော်လည်း အကျိုးမရှိ၊ ကိုယ်သာ ထိခိုက်နစ်နာသည့် အဖြစ်မျိုး ကြုံရတတ်သည်။ သည်သဘောကို သိသဖြင့် တချို့ကလည်း မိမိ ထိပ်တိုက် ရင်ဆိုင် အနိုင်ရဖို့ မလွယ်သူများကို တဖြည်းဖြည်း ပြန်းတီးအောင်လုပ်ဖို့ ကြိုးစားကြတာမျိုး ရှိသည်။ သို့သော် တစ်ဖက်လူမှာလည်း သည်လိုဉာဏ်မျိုး ရှိသည်ပဲဖြစ်ရာ သူပြန်း ကိုယ်ပြန်း လုပ်လာလိမ့်မည်။

ထို့ကြောင့် စစ်ဖြစ်ပြီ ဆိုလျှင် ယှဉ်ပြိုင်သူနှစ်ဦးလုံး အနည်းနှင့်အများ ဒုက္ခစီးဆုံးရှုံးရမြဲ ဖြစ်သည်။ ဂျာမန် စစ်ပါရဂူကြီး ကလောက်ဇဗစ်(စ) (Karl von Clausewitz) ကပင် မတိုက်ခင်က နိုင်နေသော စစ်မျိုး မဟုတ်လျှင် စစ်ပွဲဟူသည် နှစ်ဖက်လုံး ရှုံးသည့် အနေအထား (lose-lose situation သို့မဟုတ် no-win situation) ဟု သုံးသပ်ခဲ့သည်။

ထို့ကြောင့်လည်း

နှစ်ဦးနှစ်ဖက် အကျိုးအမြတ်ရှိမည့် သူမသာ ကိုယ်မသာ အနေအထား (win-win situation) နှင့် ရှဉ့်လည်း လျှောက်သာ ပျားလည်း စွဲသာ မဟာဗျူဟာ (win-win strategy) ဆိုတာ လူအများ ပြောလာခဲ့ခြင်း ဖြစ်သည်။

# မုသာဝါဒနှင့် မုသားဝါဒ

သဘော်မှ အမှားအမှန် စစ်ကြောနေတာ မဟုတ်ပါ။ သည်စကားနှစ်လုံးကို အဓိပ္ပာယ်တစ်မျိုးစီအတွက် ခွဲခြားသုံးစွဲကြည့်ခြင်း ဖြစ်ပါသည်။

မုသာဝါဒက နဂိုမူလအသုံးဖြစ်၍ မဟုတ်မမှန် ပြောဆိုခြင်း ဟူသော အဓိပ္ပာယ်ဖြစ်ကြောင်း အများသိပါသည်။

မုသားဝါဒ ဟူသော စကားကိုမူ လိမ်ညာမှုကို ဝါဒလမ်းစဉ်တစ်ရပ်အဖြစ် ကျင့်သုံးခြင်း ဟူသော အဓိပ္ပာယ်ဖြင့် ကျွန်တော် တမင်တကာ သုံးကြည့်ထားခြင်း ဖြစ်ပါသည်။



## မုသားသမိုင်း

လူတွေ တစ်ဦးနှင့်တစ်ဦး အပြန်အလှန် အသံပြု ဆက်သွယ်တတ်စ ကာလကတည်းက မုသားစကားပြောတာ ရှိခဲ့ပါလိမ့်မည်။ မုသားစကားတစ်ခွန်း မကြားဖူးသူ ဆိုတာလည်း အလွန် ရှားပါလိမ့်မည်။ သို့သော် လူအတော် များများပင် တတ်နိုင်သမျှ မုသားစကား မပြောဖြစ်အောင် ထိန်းသိမ်းတတ် ကြသည်ဟု ကျွန်တော် မြင်သည်။ အဲဒါကြောင့်လည်း လူအချင်းချင်းကြားမှာ ပြဿနာ ကြီးကြီးမားမား မရှိဘဲ ဆက်ဆံပေါင်းသင်းနေနိုင်ကြတာ ဖြစ်သည်။ တစ်ယောက်ကိုတစ်ယောက် လိမ်ညာနေခဲ့သော်၊ တစ်ယောက်ကို တစ်ယောက် မယုံကြည်ရခဲ့သော် ဘယ်မှာ အတူတကွ နေနိုင်ကြမည်နည်း။

ထို့ကြောင့် လူ့အဖွဲ့အစည်း ဟူသည် တစ်ဦးအပေါ်တစ်ဦး အပြန်အလှန် ယုံကြည်မှု သို့မဟုတ် မလိမ်မညာမှုအပေါ် အခြေခံ၍ တည်ဆောက်ရသည် ဟုဆိုချင်သည်။

## မုသားမပါ လက်မချော

လိမ်တာညာတာကို လူတွေ မကြိုက်ကြသော်လည်း ရှုပ်ထွေးလှသော လူမှုဆက်ဆံရေး လောက၌ တစ်ခါတစ်ရံ တစ်ဖက်သား စိတ်ချမ်းသာစေရန် အလို့ငှာ (သို့မဟုတ် နားခံသာစေရန် အလို့ငှာ) မမှန်သော စကားကို ပြောဖြစ်ဆိုဖြစ်ကြတာမျိုးလည်း ရှိပါသည်။

ဥပမာအားဖြင့် မျှော်လင့်ချက် မရှိသည့် လူနာက 'ဆရာ ကျွန်တော့် ရောဂါကုလို့ ရပါဦးမလားဗျာ' ဟု မေးသည့်အခါ ဆရာဝန်က 'မှန်တာပေါ့ဗျာ၊ ဘယ်သူမှ ကုလို့ မရနိုင်ဘူးဗျ'ဟု အမှန်အတိုင်း မဖြေဘဲ၊ လူနာ စိတ်သက်သာရာရစေမည့် စကားမျိုးကို လှီးလွှဲ ပြောဆိုခြင်းသည် မုသားဖြစ်သွားလျှင်ပင် ကရုဏာရှေ့ထား၍ ပြောသည့် မုသား ဟုဆိုရပါမည်။

အဲ၊ သေရေးရှင်ရေးလောက် မကြီးကျယ်သည့် ကိစ္စများမှာလည်း တစ်ခါတစ်ရံ ဘယ်သူမှ အကျိုး မယုတ်လျှင်၊ ကိုယ်ကလည်း တစ်စုံတစ်ရာ အကျိုးမျှော်ကိုးသည့် မရိုးမသားစိတ်နှင့် မဟုတ်လျှင်၊ တစ်ဖက် လူ စိတ်ချမ်းသာအောင် ပြောလိုက်တာ သိပ်ပြဿနာမရှိဟု ထင်ပါသည်။ ဥပမာ၊ သူငယ်ချင်းက သူနှင့် သိပ်မလိုက်ဖက်သည့် ဟာတွေ ဝတ်ဆင်လာပြီး 'ဟေ့ကောင် ဘယ်လိုလဲကွ မိုက်ရဲ့လား' မေးသည့်အခါ (အကယ်၍ သူ့ပုံစံကလည်း လူအများကြား အဟားခံရလောက်အောင် အခြေအနေ မဆိုးလျှင်) 'မိုက်တာပေါ့ကွာ' ဟု ထောက်ခံစကား ဆိုလိုက်ခြင်းမျိုး ဖြစ်သည်။

အင်္ဂလိပ်ဘာသာတွင် white lie ဟူသော အသုံးအနှုန်းတစ်ခု ရှိရာ လူမှုဆက်ဆံရေးတွင် အဆင်ပြေ ချောမွေ့အောင်၊ ယဉ်ကျေးဖွယ်ရာဖြစ်အောင် ပြောဆိုကြသည့် အရေးမကြီးသော အထက်က မုသားမျိုးကလေးများကို ခေါ်ဆိုခြင်း ဖြစ်ပါသည်။

## အဖြူရောင်မုသား မည်းသွားသည့် အခါ

သို့သော် ယဉ်ကျေးမှုသဘောအရ မုသား ပြောတာတွေ၊ တစ်ဖက်လူကလည်း မမှန်မှန်းသိလျက် လက်ခံတာတွေ များလာလျှင် တဖြည်းဖြည်း အဖြူရောင်မုသားတွေ ထပ်ကာ အပိုတွေ ပြောတတ်သူ၊ ဖြီးဖြန်းတတ်သူ၊ အမှန်အတိုင်းပြောလေ့မရှိသူ ဖြစ်လာနိုင်သည်။

အဲဒါဆိုလျှင် တကယ်လိမ်ညာသူတွေ ကြားမှာ ရောနှောပါသွားနိုင်သည်။

မုသားကို ခွဲခြားစိတ်ဖြာသူတို့ကတော့ တကယ်လိမ်ညာသော စကားဖြစ်ဖို့ဆိုလျှင် (၁) ပြောသောအရာသည် မမှန်တာတွေ ဖြစ်ရမည်၊ (၂) မဟုတ်မှန်းကြောင်းကို ပြောသူကိုယ်တိုင်လည်း သိရမည်၊ (၃) တစ်ဖက်လူကို လှည့်စားလိုသော သဘောဖြင့် ပြောခြင်း ဖြစ်ရမည် ဟုဆိုပါသည်။

အဲဒါက မုသားစစ်စစ် ဟုဆိုရပါမည်။

သို့သော် သည်မုသားစစ်စစ်ကိုပင် အလွယ်တကူ ပြောတတ်သူတွေ

ရှိသည်။ သည်လူတွေကြောင့် တစ်ပါးသော သူတို့ နစ်နာရတာတွေ ရှိပါသည်။ သို့သော် မုသားသမားတွေ ကိုယ်တိုင်လည်း အချိန်တန်သော် မုသား ပြစ်ဒဏ်ကို ခံရမြဲ ဖြစ်သည်။

အိစွပ်ပုံပြင်ထဲမှာ ရွာသူရွာသားတွေ အထိတ်တလန့်ဖြစ်အောင် 'ဝံပုလွေ ဝံပုလွေ' ဟု ထအော်သော သိုးကျောင်းသားလေးသည် အဲသည်လို ပြစ်ဒဏ်ခံရသူ တစ်ဦး ဖြစ်သည်။ လူလိမ်ဟု အမည်ရသွားပြီးနောက်တွင် သူ့စကားကို ဘယ်သူမှ မယုံတော့။ ဒုက္ခရောက်သည့်အခါ ကယ်မည့်သူ မရှိတော့။

## တစ်ဝက်မှန် စကားများ

ဝံပုလွေမလာဘဲ လာသည်ဟု အော်သော သိုးကျောင်းသားလေး၏ စကားသည် ရာနှုန်းပြည့် မုသားစကား ဖြစ်သည်။ တစ်နည်းပြောသော် အရေးကြီးလျှင် အားကိုးစရာ ဘာအချက်အလက်မှမပါဘဲ ဖြောင့်သက်သက် လိမ်ခြင်းမျိုး ဖြစ်သည်။ သည်ဟာမျိုးမှာ အလိမ်ပေါ်သော် ဘွင်းဘွင်းကြီး ပေါ်သဖြင့် ဖြောင်လိမ်သမားတွေ ခဏလေးနှင့် နာမည်ပျက်တတ်ခြင်း ဖြစ်သည်။

ထို့ကြောင့် ပို၍ နပ်သူတွေက အခြောက်တိုက် မလိမ်၊ မှန်တာလေး နှင့်စပ်၍ လိမ်တတ်သည်။ တစ်ဝက်မှန်စကား (half-truth) များသုံးပြီး လိမ်တတ်သည့် အဲသည်ပုဂ္ဂိုလ်များမှာ ပို၍ဆိုးသည်၊ ပို၍လည်း ကြောက်စရာ ကောင်းသည်။

## လူလိမ်ကလေး နှစ်ယောက်

ဈေးထဲ လူစည်ကားနေတုန်း ကလေးနှစ်ယောက် ဆိုင်တစ်ဆိုင်နား ကပ်ကာ တစ်ယောက်က ပစ္စည်းတစ်ခု နှိုက်သည်။ ပြီး၊ နောက်တစ်ယောက် အိတ်ထဲ အသာ ထိုးထည့်လိုက်သည်။

ဆိုင်ရှင်က တပ်အပ်မမြင်၊ သို့သော် သည်ကောင်လေးတွေ အလစ်သုတ်တာ သေချာသည်ဟု စွပ်စွဲကာ 'စောစောက ငါ့ပစ္စည်း နှိုက်သွားတယ်၊ ပြန်ပေး —' ဟုဆိုသည်။

သည်အခါ အိတ်ထဲမှာ ပစ္စည်းရှိနေသည့် ကောင်လေးက 'ကျွန်တော် ဘကြီး ဆိုင်က ဘာပစ္စည်းမှ မနှိုက်ဘူး၊ ဘုရားစူးပါရစေရဲ့' ဟုဆိုသည်။

နောက်တစ်ယောက်ကို လှည့်ကြည့်တော့လည်း 'ကျွန်တော့်ဆီမှာ ဘကြီး ဆိုင်က ဘာပစ္စည်းမှ မရှိဘူး၊ ဘုရားစူး' ဟုဆိုပြန်သည်။

နှစ်ယောက်လုံး ရဲရဲဝံ့ဝံ့ ကျိန်တွယ်ပြောဆိုနေတော့ ဆိုင်ရှင်လည်း စသေဝေါ နှင့်ပင် သူတို့စကားကို လက်ခံလိုက်ရသည်။

အဲဒါ ပုံပြင်တစ်ပုဒ်ထဲက ဖြစ်သည်။

သည်ပုံပြင်ထဲက ကောင်လေးနှစ်ယောက်သည် အမှန်ကို ဆိုသလား၊ လိမ်ညာသလား။

ကောင်လေးတစ်ယောက်က သူ ဆိုင်ကပစ္စည်း မနိုက်ဘူး ဟုဆိုသည်။ သူ မနိုက်တာတော့ အမှန်ဖြစ်ရာ၊ သည်စကားအရမူ သူပြောတာ မုသားစကား မဟုတ်ဟု ဆိုရမလို ဖြစ်နေသည်။

နောက်တစ်ယောက်လည်း အလားတူ။ သူ့မှာ ဆိုင်ကပစ္စည်း ရှိမနေတော့ မရှိပါဘူး ပြောတာ မမှန်သောစကား မဟုတ်ဟုပင် ဆိုရမည့် သဘော ဖြစ်သည်။

သို့သော် မလိမ်မညာဘူးလား ဆိုလျှင် သူတို့ နှစ်ယောက်ပေါင်းပြီး ဆိုင်ရှင်ကို လိမ်ညာနေကြသည်ဆိုတာ ပုံပြင်ပါ ဇာတ်လမ်းအရ ကျွန်တော်တို့ အားလုံး သိထားပြီး ဖြစ်သည်။

ထို့ကြောင့် ပြန်ချုပ်သော်၊

စောစောက မှန်သလား မမှန်ဘူးလား ဒွိဟပွားစရာ ဖြစ်ရသည်က အဖြစ်အပျက်ထက် စကားလုံးပေါ်မှာ ကျွန်တော်တို့ စဉ်းစားနေမိကြသောကြောင့် ဖြစ်သည်။ အကယ်၍သာ ဆိုင်ရှင်က သူ့ပစ္စည်း နိုက်သည်ဟု မဆိုဘဲ 'မင်းတို့ နှစ်ယောက် ငါ့ဆိုင်က ပစ္စည်း ခိုးထားတယ်၊ အခု ပြန်ပေး' ဆိုက သူတို့ အဖြေရခက်လိမ့်မည်။

ယခုတော့ တစ်ဝက်မှန်စကားများဖြင့် ဘုရားစူးကျိန်ကာ ဆိုင်ရှင်ကို သူတို့ လှည့်ဖြားနိုင်ခဲ့ကြသည်။

ငယ်ငယ်ရွယ်ရွယ်မှာ မုသားစကားကို အဲသည်လောက် လည်လည်ပတ်ပတ် သုံးစွဲတတ်နေသော သည်ကောင်လေးများသည် ကြီးပြင်းလာသောအခါ သည့်ထက် များစွာ ကြီးမားသည့် ရာဇဝတ်ပြစ်မှုများ ကျူးလွန်သည့် လူဆိုး လူဆိုးများ ဖြစ်လာဖို့ များပေသည်။

## မြင့်မြတ်သော မုသားနှင့် ဒဏ္ဍာရီ ဖန်တီးမှု

ရှေ့တွင် ဝံပုလွေမရှိဘဲ 'ဝံပုလွေ' အော်သူကို ကြောင်လိမ်သမား ဟုဆိုခဲ့သည်။

သို့သော် သူ့ထက်ကြီးကျယ်သည့် တကယ် မရှိသော အရာကို ဒီလူများသည် ဇာတ်လမ်းဆင်ကာ ၎င်းထိုးဇာတ် သို့မဟုတ် ဒဏ္ဍာရီကို အများသဘောတူခံ

ယုံကြည်လာအောင် ဖြည်းဖြည်းချင်း စနစ်တကျ ရိုက်ထည့်ကြတာမျိုးတွေ ရှိပါသေးသည်၊

ဤသည်လို လိမ်ညာနည်းကို အစောဆုံး ထင်ထင်ရှားရှား တွေ့ရသည်က ဂရိ နိုင်ငံရေး တွေးခေါ်ရှင်ကြီး ပလေးတိုး (Plato) ၏ သမ္မတနိုင်ငံ (The Republic) ကျမ်းမှာ ဖြစ်၏။ သည်ကျမ်းတွင် ပလေးတိုးက သူ့စိတ်ကူးထဲက စံပြနိုင်ငံ၏ ပုံသဏ္ဌာန်ကို သူ့ဆရာ ဆိုကရတီးစ် (Socrates) ဆွေးနွေးပြောဆိုသည့် အသွင်ဖြင့် ရေးသားခဲ့သည်။

ပလေးတိုးက တိုင်းပြည်ရှိ လူအားလုံးကို တန်းတူညီမျှ သဘောထားသည့် ဒီမိုကရေစီစနစ်ကို ယုံကြည်သူ မဟုတ်။ သူက လူတွေသည် တစ်ဦးနှင့်တစ်ဦး အရည်အသွေးချင်း မတူညီ။ အဲသည် မတူညီတာတွေကို မတူညီသည့်အတိုင်း ပြတ်ပြတ်သားသား ခွဲခြားထားပြီး အားလုံးက မိမိကဏ္ဍအသီးသီးမှာ တာဝန်ကျေပွန်စွာ ထမ်းဆောင်စေခြင်းဖြင့်သာ စံပြနိုင်ငံတော် ပေါ်ထွန်းနိုင်မည်ဟု ရှုမြင်သည်။ ထိုသဘောအရ သူက လူတို့ကို အလွှာအဆင့် သုံးခု ခွဲခြားသည်။ တိုင်းပြည်ကို အုပ်ချုပ်မည့်သူများ၊ တိုင်းပြည်ကို ကာကွယ် စောင့်ရှောက်မည့်သူများနှင့် သာမန် လုပ်စားကိုင်စား ပြည်သူများ ဟူ၍ ဖြစ်သည်။

သူက တိုင်းပြည်အုပ်ချုပ်သည့် အလုပ်ကို လူတိုင်း မလုပ်နိုင်၊ ဉာဏ်ပညာကြီးသူတို့သာ တတ်နိုင်သည်၊ ထို့ကြောင့် သည်တာဝန်ကို ပညာရှိမင်း (Philosopher King) များသို့ အပ်နှင်းရမည်၊ ကျန်လူ အသီးသီးက ... စသဖြင့် ပုံစံချပြီးနောက် သူ့ပုံစံကို လူအများ လက်ခံလာစေရန် နည်းလမ်းရှာသည်။

သည်တွင် သူ တွေ့ရှိသည်က အထက်တွင် ဖော်ပြခဲ့သည့် ထိုးဇာတ် သို့မဟုတ် ဒဏ္ဍာရီ (Myth) တစ်ခု ဖန်တီးရေး ဖြစ်သည်။

သူဖန်တီးဖြန့်ချိမည့် ဒဏ္ဍာရီက၊

ဘုရားသခင်သည် လူတို့ကို ဖန်ဆင်းကတည်းက ၎င်းတို့၏ သွေးထဲတွင် မတူညီသော သတ္တုဓာတ်များ ထည့်သွင်းကာ မတူညီစွာ ဖန်ဆင်းခဲ့သည်။

တိုင်းပြည်အုပ်ချုပ်မည့် ပညာရှိ မင်းတို့၏ သွေးထဲမှာ ရွှေသတ္တုဓာတ်တွေ ကိန်းအောင်းပါဝင်လာသည်။ ၎င်းတို့ကို ထောက်ပံ့ကူညီကာ တိုင်းပြည်ကို ကာကွယ်စောင့်ရှောက်ရမည့် စစ်သည်တော်တို့ သွေးထဲတွင် ငွေသတ္တုဓာတ် ပါဝင်ပြီး၊ အထွေထွေ အရပ်ရပ်သော အသက်မွေးမှု အတတ်များဖြင့် တိုင်းပြည် စည်ကား သိုက်မြိုက်အောင် တည်ဆောက်ရမည့် ပြည်သူတို့၏ သွေးများ၌ ကြေးသတ္တုဓာတ် ပါဝင်နေသည်။

သို့သော် ဒါသည် အမြဲ တစ်သမတ်တည်း သည်အတိုင်းချည်း နေသွားရမည် ဟူ၍ မဟုတ်။ ရွှေဓာတ်ရှိသည့် ပညာရှိမင်းတို့က မွေးဖွားလာသူများထဲတွင် အများစုသည် ရွှေဓာတ်ပင် ပါဝင်လာမည် ဖြစ်သော်လည်း အချို့က ငွေဓာတ်ကြေးဓာတ်များဖြင့် လူဖြစ်လာနိုင်သည်။ အဲသည် လူတွေသည် ငွေအလွှာ ကြေးအလွှာများသို့ ရွှေ့လျောသွားရလိမ့်မည်။ အလားတူ ငွေအလွှာ ကြေးအလွှာမှ မွေးဖွားလာသူများထဲတွင်လည်း ရွှေဓာတ်ရှိသူအချို့ ပါဝင်လာက မြင့်သော အလွှာအဆင့်သို့ ကူးပြောင်းသွားလိမ့်မည်၊... စသဖြင့် ဖြစ်သည်။

ချုပ်ပြောရသော်၊ လူတို့သည် မတူညီသော ဓာတ်၊ သို့မဟုတ် ယင်း ဓာတ်နှင့် တွဲဘက်တည်ရှိသည့် အရည်အသွေးများပေါ် မူတည်ကာ ထိုက်တန်ရာ အလွှာအဆင့်သို့ ရောက်ရှိနေကြခြင်း ဖြစ်၍ အဲဒါကို သိမှတ်လက်ခံရလိမ့်မည်၊ ဟူသောသဘော ဖြစ်သည်။ သည်ဟာကို သူက ရှေးအစဉ်အဆက် ရှိလာခဲ့သည့် ဘာသာရေး ယုံကြည်မှုတစ်ရပ်အသွင် ဖြန့်ချိရန် ကြံစည်ခြင်း ဖြစ်သည်။

သည်ဒဏ္ဍာရီသည် စတင်ဖြန့်ချိချိန်၌ ယုံကြည်သူ နည်းလိမ့်မည် ဆိုတာလည်း သူသိသည်။ သို့သော် နောက်မျိုးဆက် နောက်မျိုးဆက်များသို့ ရောက်သည့်အခါ အစဉ်အလာ ယုံမှတ်ခဲ့သော အရာအဖြစ် လက်ခံသွားကြလိမ့်မည်ဟု သူမြင်သည်။ ထို့နောက် ယခုကိစ္စသည် လိမ်ညာသည် ဖြစ်၍ မကောင်းသလို ရှိသော်လည်း၊ တိုင်းပြည်မှာ လူအားလုံးက သည်ဒဏ္ဍာရီကို ယုံကြည်ကာ ယင်းနှင့်လျော်ညီစွာ နေထိုင်သွားကြမည်ဆိုလျှင် တိုင်းပြည် တည်ငြိမ်၍ သာယာဝပြောမှု ရှိလိမ့်မည်၊ ထို့ကြောင့် မုသားဟု ဆိုလျှင်ပင် တိုင်းပြည်အကျိုးမျှော်ကိုးသော စိတ်ဖြင့် ပြောဆိုသည့် စေတနာ မုသား သို့မဟုတ် မြင့်မြတ်သော မုသား Noble Lie ဖြစ်သည်ဟု The Republic ထဲမှာ ဖော်ပြခဲ့သည်။

ကျမ်းပြုသူ ပလေးတိုးနှင့် ကျမ်းထဲမှ သူ့ဆရာ ဆော့ခရတီးစ်တို့ တောင် ခဲ့သည့် မြင့်မြတ်သော မုသားလမ်းစဉ်ကို ခေတ်အဆက်ဆက် နိုင်ငံရေးဝါဒီများ အများအပြားပင် နိုင်ငံတည်ဆောက်မည့် ပုံသဏ္ဌာန်နှင့် စပ်လျဉ်း၍လည်းကောင်း ကြီးကျယ်သော ပြုပြင်ပြောင်းလဲရေးအစီအစဉ်များနှင့် စပ်လျဉ်း၍လည်းကောင်း အများသူငါ လက်ခံလာအောင် စည်းရုံးလုပ်ဆောင်ရာ၌ အနည်းနှင့်အများ သုံးစွဲခဲ့ကြသည် ဟုဆိုသည်။

ယင်းတို့မှ ထွက်ပေါ်သည့် အကျိုးရလဒ်များနှင့် စပ်လျဉ်း၍ ထောက်ခံသူ ကန့်ကွက်သူ စသဖြင့် အမြင်အမျိုးမျိုး ရှိနိုင်ကြသည်။ သို့သော် အလိမ်အညာ

မခံလိုသူတို့၏ ရှုထောင့်မှ ကြည့်လျှင်မူ စေတနာကောင်းနှင့် ပြောသည်ဆိုသော noble lie သည် ရှေ့တွင် ဖော်ပြခဲ့သည့် မုသားလက္ခဏာ သုံးရပ်လုံးနှင့် တိုက်ဆိုင်ညီညွတ်သည့် လုံးလုံးလျားလျား မုသား ဟုပင် ဆိုရပါမည်။

**မုသားစကားနှင့် ဝါဒဖြန့်ချိရေး**

ပလေးတိုးတို့ စတင်ခဲ့သည့် မုသားစကားဖြင့် ဆွဲဆောင်စည်းရုံးသော နည်းကို နောက်ပိုင်းခေတ်တွင် ဝါဒဖြန့်ချိရေး နယ်ပယ်၌ အစိုးရများ အဖွဲ့အစည်းများ၊ လူအုပ်စုများက တွင်တွင်ကျယ်ကျယ် သုံးစွဲခဲ့ကြသည်။

ဝါဒဖြန့်ချိရေး ဟူသည် သာမန်အားဖြင့် ကြည့်လျှင် သတင်းအချက် အလက်ပေးသော အလုပ်ကို လုပ်သယောင် ရှိသော်လည်း စင်စစ် လူအများတို့၏ သဘောထားအမြင်ကို မိမိ လိုချင်သည့်ဘက်သို့ ရွှေ့ပြောင်းယူနိုင်အောင် ဆွဲဆောင်နေခြင်း ဖြစ်သည်။

သည်အတွက် များသောအားဖြင့် လုပ်လေ့ရှိသည်က တစ်ဝက်မှန် စကား (half-truth) များ ပြောသောနည်း၊ သို့မဟုတ် အမှန်တစ်ခုလုံးထဲက မိမိ ရပ်တည်ချက်ကို ဆန့်ကျင်ချေဖျက်မည့် အပိုင်းများကို ချန်လှပ်ကာ အထောက်အကူပြုမည့် အပိုင်းများချည်း ရွေးယူပြီး ပြောဆိုခြင်းမျိုး ဖြစ်သည်။ သည်နည်းအားဖြင့် ဖြစ်ရပ်တစ်စုံတစ်ရာနှင့် စပ်လျဉ်း၍ 'အဲဒါသည် ဘာဝ' ဟူသော မိမိ၏ အဓိပ္ပာယ်သတ်မှတ် ဖွင့်ဆိုချက်ကို လူအများခေါင်းထဲ ရောက်အောင် ထည့်သွင်းပေးနိုင်လေ့ရှိကြသည်။ မိမိဖွင့်ဆိုချက် သို့မဟုတ် မိမိရှုထောင့်အမြင်ကို နားလည် လက်ခံသွားပြီဆိုလျှင် ယင်းအမြင်ကို အခြေခံ၍ လုပ်ကိုင်သည့် မိမိလုပ်ရပ်များကိုလည်း ကျိုးကြောင်းသင့်မြတ်သော အရာများ အဖြစ် ဆက်လက် လက်ခံကြ၊ ထောက်ခံအားပေးကြမည် ဖြစ်သည်။

ဥပမာ၊ ပထမကမ္ဘာစစ်အပြီး ဂျာမနီပြည်၌ နာဇီတို့က မိမိတို့ ဂျာမန်များ စစ်ရှုံးရခြင်းသည် သစ္စာဖောက်တို့က နောက်ကျောကို ဓားနှင့်ထိုးခြင်းကြောင့် ဖြစ်သည် ဟူသော အယူအဆ ပြန့်ပွားအောင် ကြိုးပမ်းကြသည်။ သည် အယူအဆကို အများ လက်ခံသွားပြီ ဆိုသည့်အခါ ယင်းမှတစ်ဆင့်တက်၍ ဂျူးများ၊ ကွန်မြူနစ်များ၊ ပညာတတ်များကို နှိပ်ကွပ်ခြင်း၊ တစ်နိုင်ငံလုံးကို စစ်ဓာတ်သွင်းခြင်း၊ စစ်ရှုံးစဉ်က လက်လွှတ်ခဲ့ရသည့် နယ်မြေများကို ပြန်လည် သိမ်းပိုက်ခြင်းတို့သည် ဂျာမန် လူထုအမြင်၌ လုပ်သင့်လုပ်ထိုက်၍ လုပ်သော အရာများ ဖြစ်သွားပေသည်။

လူအများ ခေါင်းထဲသို့ မိမိတို့ အမြင်များ ရိုက်သွင်းရာ၌ တစ်ဝက်မှန်စကားများသာမက လုံးလုံးလျားလျား မုသားများကိုလည်း ဖန်တီးအသုံးပြုလေ့ရှိသည်။ disinformation ဟု ခေါ်ကြသည့် သတင်းမှားများ ထုတ်လွှင့်ရာ၌ ဝါဒဖြန့်သမားတို့က တိုင်းပြည်နှင့် လူမျိုးတို့၏ သမိုင်းများ၊ မှတ်တမ်းမှတ်ရာများ၊ လူပုဂ္ဂိုလ် အတ္ထုပ္ပတ္တိ၊ အဖွဲ့အစည်းတို့၏ ရာဇဝင် စသည်များထဲမှ အချက်အလက်များကို ပြုပြင်ပြောင်းလဲခြင်း၊ ဖြည့်စွက်ပြင်ဆင် ရေးသားခြင်း စသည်များ ပြုလုပ်ပြီး မူလအဟောင်းသဖွယ် ပြန်လည်ဖော်ပြလေ့ရှိသည်။ ၎င်းသတင်းမှားများ၊ လုပ်ကြံ ဖန်တီးထားသော အချက်အလက်များကို အကြိမ်ကြိမ် အထပ်ထပ် ထုတ်လွှင့် ဖြန့်ချိခြင်းအားဖြင့် လူအများ နားစွဲကာ အမှတ်အယူ မှားစေသည်။

၎င်းသည်ကား မုသားစကား ပြောခြင်းကို လုပ်ငန်းလမ်းစဉ်တစ်ရပ်သဖွယ် ဆောင်ရွက်ခြင်းဟု ဆိုရပေမည်။

# သမိုင်းရေးသော ဂျာနယ်များ

မိတ်ဆွေတစ်ယောက်က ခင်ဗျားတို့ ဂျာနယ်တွေ သမိုင်းတွေချည်း ရေးနေကြ ပါလားဟု ဝေဖန်သံဖြင့် မေးသည်။ သူက နိုင်ငံရေး အသားပေး ဂျာနယ် အသည်များကို ရည်ညွှန်းခြင်း ဖြစ်သည်။

သူ ဝေဖန်တာကို မငြင်းနိုင်။ အဲဒါကြောင့် ဟာသလုပ်ပြီး ပြန်ဖြေရသည်။ 'သတင်းစာများသည် သမိုင်းကို ပြောနေကြသည်' လို့ ဆရာကြီး လူထုဦးလှ ရေးတယ် မဟုတ်လားဗျာ။ အခုလည်း ဒီကနေ့ ဂျာနယ်ခေတ်မှာ 'ဂျာနယ် များသည် သမိုင်းကို ပြောနေကြသည်'ပေါ့ဗျာ ဟူ၍။

မိတ်ဆွေက ဘာမှဆက်မပြော။

ပြောစရာလည်း မလိုတော့။ သူ့စကားတစ်ခွန်းနှင့်ပင် ကျွန်တော် အတော်ကြီး အခက်တွေ့သွားသောကြောင့် ဖြစ်သည်။

လူထုဦးလှကို ရမ်းသန်းကိုးကားကာ ရုတ်တရက် ထွက်ပေါက်ရှာ လိုက်သော်လည်း ကျွန်တော့်မိတ်ဆွေ ပြောတာနှင့် ဦးလှပြောတာ အဓိပ္ပာယ်ချင်း မတူကြောင်း အားလုံး သိပါသည်။

ဆရာကြီး ဦးလှက ရှေးသတင်းစာဟောင်းများကို လှန်လှော တူးဆွကာ သမိုင်းဝင် ဖြစ်ရပ်တွေကို ဖြစ်ဆဲကာလမှာပင် သတင်းစာတို့ ရေးသား တင်ပြခဲ့ကြပုံကို ထုတ်ပြပြီး၊ အဲသည် သတင်းစာတွေသည် သူ့ခေတ်ကာလ အခြေအနေ အကြောင်းခြင်းတများကို ဖော်ပြနေသည့် နေ့စဉ်သမိုင်းများ ဖြစ်သည် ဟုဆိုခဲ့ခြင်း ဖြစ်သည်။

ကျွန်တော့်မိတ်ဆွေကတော့ ကျွန်တော်တို့သည် နေ့စဉ် အပတ်စဉ် သမိုင်းသစ်တွေကို မရေး၊ သမိုင်းဟောင်းတွေကိုသာ ပြန်လှန် တင်ပြနေကြသည် ဟုဆိုလိုက်တာ ဖြစ်ပါသည်။

ဘာကြောင့် သည်လို ဖြစ်ရသလဲ။

သမိုင်းဆရာကြီး ဒေါက်တာ သန်းထွန်း၏ 'မအ အောင်လို့' ဝါဒကို အကောင်အထည်ဖော်သော သဘောဖြင့် သမိုင်းသင်ခန်းစာတွေ ရှာဖွေတင်ပြ နေကြတာလား။ ဒါသည်လည်းပဲ အပြစ်တင်စရာတော့ မဟုတ်။

သို့သော် ကျွန်တော်တို့ ဂျာနယ်တွေမှာ နိုင်ငံရေးလောကက ကောင်းသော (အထူးသဖြင့်) မကောင်းသော သမိုင်းကြောင်းများကို ဖော်ပြရေးသား

ကြတာတွေ၊ သက်ကြီးရွယ်အိုတို့၏ အတိတ်ကာလ နောက်ကြောင်းပြန်တွေ၊ ငယ်စဉ်ကာလ ကိုယ်တွေ့ဖြစ်ရပ်တွေ စသဖြင့် ပုံသဏ္ဌာန်မျိုးစုံနှင့် ဖော်ပြသည့် သမိုင်း အရေးအသားတွေ များလွန်းနေတာ မငြင်းနိုင်။ ပိုဆိုးသည်က သည်ကနေ့ ရေးသည့် အတိတ်သမိုင်းကြောင်းတွေ သာမက သမိုင်းဟောင်းကို ပြသည့် စာဟောင်းပေဟောင်းတွေကိုပါ အများအပြား ထပ်မံ ဖော်ပြလာကြခြင်း ဖြစ်သည်။

အချိန်အခါနှင့် တိုက်ဆိုင် ညီညွတ်စွာ ဖော်ထုတ် တင်ပြလိုက်သည့် ပြန်လည် ဆန်းသစ် စာတို့သည် တန်ဖိုးရှိပါ၏။ သို့သော် များလွန်းသည့် အခါ၌မူ စာအုပ်ဟောင်းများထဲမှ အယ်ဒီတာ အကြိုက်တွေ ရွေးကာ စုစည်း ထုတ်ဝေလိုက်တာနှင့် သွားတူသည်။

ကိုယ့်ပေါင်ကိုယ်လှန် ထောင်းသည့်ကိစ္စ သည်မှာရပ်လျှင် နည်းသေးသည် ဟုဆိုကြလိမ့်မည် ထင်သည်။ ဒါဖြင့် ဘာတွေ ကျန်သေးသလဲ။ တခြား ဘယ်ပေါင်တွေ ရှိသေးသလဲ။

ကျွန်တော်တို့မှာ အတိတ်ကာလတွေ မရေး၊ မျက်မှောက်ကိုပဲ ရေးမည့် စာနယ်ဇင်းသမား ရှားပါးနေသည်လား။

ရေးတတ်သူ နည်းပါးသဖြင့် အယ်ဒီတာတွေက အဟောင်းများနှင့် ဖြည့်နေ ထေနေ ရသည်လား။

ဒါမှမဟုတ် မြင်တတ် ရေးတတ်ပါလျက် မရေးဘဲ လက်ရှောင်သူတွေ များနေသည်လား။

သို့မဟုတ် ရေးဆရာများ ပြောခဲ့သလို အကြောင်းကြောင်းသော အကြောင်း ကြောင်းတွေကြောင့် မရေးနိုင်ကြတာလား။

အဲသည် အထဲမှာ ဘယ်အရာက အချိုးအစားများသနည်း၊ ဘာက အဓိက ကျသနည်း။ စဉ်းစားကြည့်ဖို့ လိုလိမ့်မည်။

သို့သော် စဉ်းစားနေဆဲမှာတော့ ကျွန်တော်တို့ ဂျာနယ်တွေမှာ ခေတ်ကာလ လူမှုရေး၊ နိုင်ငံရေး၊ စီးပွားရေး အခြေအနေများကို ထင်ရှားပီပြင်စွာ ဖော်ပြသည့် စာတို့ အားနည်းနေလိမ့်ဦးမည်။ အများပြည်သူ့ ခံစားချက်နှင့် မျှော်လင့်ချက်များ သဘောထား အမြင်များကို ဖော်ထုတ်ပြနိုင်သည့် စူးရှထက်မြက်သော သုံးသပ် ဝေဖန်စာတို့ နည်းပါးနေပေလိမ့်ဦးမည်။

သို့သော် မည်သည့်အကြောင်းကြောင့်ဖြစ်စေ၊ သည်ကနေ့ ဂျာနယ်တွေသည် နောင်တစ်နေ့တွင် သမိုင်းထဲ ရောက်သွားကြလိမ့်မည်။ အဲသည်ခါ သမိုင်း

ကြောင်းကို ခြေရာကောက်သူ၊ ခေတ်ကာလများကို ဝေဖန်စစ်ကြောသူတို့အ အကဲဖြတ် မှတ်ချက်ချကြလိမ့်မည်။

အဲသည်ခေတ်သည် ဘယ်သို့သော ခေတ်၊ အဲသည်ခေတ်က ဂျာနယ်တွေသည် ဘယ်သို့သော ဂျာနယ်တွေ၊ သမိုင်းစဉ်ရှိ သူ့ရှေ့ကပေါ်ခဲ့သော သူ့နောက်တွင် ပေါ်လာသော ဂျာနယ်များနှင့် နှိုင်းယှဉ်က သည်ဂျာနယ်တွေ၏ အဆင့်အတန်းသည် ဘယ်နေရာလောက်မှာ ရှိသည် စသဖြင့် တိုင်းတာ သတ်မှတ်ကြလိမ့်မည်။

အဲသည်အခါ ရက်စက်သော ဝေဖန်သူက ကျွန်တော်တို့ခေတ် ဂျာနယ်တွေသည် အဟောင်းကို ပြန်ရေးသော ဂျာနယ်ဟောင်းများ ဖြစ်သည်။ သမိုင်းအရာမှ အသော်လည်း မျက်မှောက်ရေးရာမှာတော့ နုံချာလှသည်ဟု မှတ်ချက်ချမှာ ကျွန်တော် စိုးရိမ်သည်။

အဲဒါဆိုလျှင်လည်း သူ့ကို အပြစ်တင်စရာ မရှိ။ ကျွန်တော်တို့ တာဝန်သာ ဖြစ်လိမ့်မည်။

သို့သော်၊ ဝေဖန်တာတွေကို သည်းခံရင်း ကျွန်တော်တို့တွေ သမိုင်းတွေပဲ ဆက်ရေးနေကြဦးမည်လား။

# သဘာဝဘေးနှင့် ဆင်းရဲချမ်းသာ

သဘာဝဘေးရန်သည် မျက်နှာ လိုက်တတ်ပါသလား။

ချမ်းသာသူကို ညှာ၍ ဆင်းရဲသူကိုမှ ပို၍ နှိပ်စက်တတ်သလား။

မြန်မာမှာတော့ ကံဆိုးမ သွားလေရာ မိုးလိုက်လို့ရွာ ဟူသော စကားတစ်ခု ရှိသည်။ မိုးရွာတာသည် ကံဆိုးသူကို ထပ်ဆင့် ဒုက္ခပေးသည့် အရာလား။

ဘာကြောင့် အဲသည်လို ဖြစ်ရသည်လဲ။

## သင်္ဘောနစ်ရာမှာ ဆင်းရဲသား များများသေသည်

သင်္ဘောတိုင်းတော့ ဟုတ်မည် မထင်။

သို့သော် တိုင်တန်းနစ် သင်္ဘောကြီး နစ်တော့ လူချမ်းသာတွေထက် ဆင်းရဲသားတွေ များများ သေကြသည်တဲ့။ လူမှုရေးသိပ္ပံကျမ်းတစ်အုပ်မှာ အဲသည်လို ရေးထားတာ ဖတ်ရတော့ အံ့သြသွားသည်။

ဟုတ်ရဲ့လား၊ ဘာဆိုင်လို့လဲဟု တွေးမိသည်။

ဆိုင်တာပေါ့။

တိုင်တန်းနစ်က အတ္တလန်တိတ် သမုဒ္ဒရာကိုဖြတ်ကာ အင်္ဂလန်မှ အမေရိကာ သို့သွားသည့် ပင်လယ်ကူးသင်္ဘောကြီး။ အထပ်ပေါင်း များစွာ ပါသည်၊ အခန်းပေါင်း များစွာ ပါသည်။ ပထမတန်းလက်မှတ် ဝယ်ယူသည့် လူချမ်းသာ တွေက သားနားသပ်ရပ်သည့် အပေါ်ဆုံးထပ်တွေက စီးသည်၊ အဲသည် အထပ်တွေချည်းကြည့်လျှင် သင်္ဘောက တကယ့်ဇိမ်ခံသင်္ဘောကြီး။

သူတို့အောက်မှာ ဒုတိယတန်းလက်မှတ် စီးသူတွေအတွက် သာမန် အခန်းများ ရှိသည်။

ဟိုးအောက်ဆုံး သင်္ဘော ဝမ်းခေါင်းနှင့် အနီးဆုံးအပိုင်းမှာ တတိယတန်း လက်မှတ်ပဲ ဝယ်နိုင်သည့် ဆင်းရဲသားတွေ ကျဉ်းကျဉ်းကျပ်ကျပ် လိုက်ပါ[illegible]

ရေခဲတောင်နှင့် တိုက်မိပြီး ရေတွေဝင်ကာ သင်္ဘော နစ်တော့[illegible] အသက်ကယ်လှေတွေရှိရာ ပြေးကြရသည်။ လှေတွေက အပေါ်ဆုံး[illegible] ရှိသည်။ ပထမတန်းစီး ခရီးသည်တွေနှင့် အနီးဆုံး။ သူတို့က [illegible] အလွယ်တကူ ရောက်သည်။ သူတို့ အရင် နေရာရသည်။

ထို့ကြောင့် စာရင်းချုပ်သော် ပထမတန်းတွေက ၆၀ ရာခိုင်[illegible] ရှင်သည်။ ဒုတိယတန်းက ၃၆ ရာခိုင်နှုန်း လွတ်မြောက်ပြီး [illegible]

စီးသူများထဲမှ ၂၄ ရာခိုင်နှုန်းသာ ကျန်ရှိကြသည်။

အောအောတုန်းကတော့ ချမ်းသာခြင်း ဆင်းရဲခြင်းသည် သဘော်ကို မိမိစီးရခြင်းနှင့် သာမန်ခရီးသွားရခြင်း လောက်မှာသာ ကွာခြားသော်လည်း သာနေကြသည့်အခါ၌မူ သေရေးရှင်ရေး အဆုံးအဖြတ်ပေးသည့် အချက် ဖြစ်သွားခဲ့သည်။

## နေရာတကာ ဆင်းရဲသားတို့ တစ်ဝန်းရှုံးကြသည်

သဘော်စီးသည့် နေရာတစ်ခုတည်းလား။

မဟုတ်ပါ။

လူမှုအသိုင်းအဝိုင်းထဲမှာ ဆင်းရဲသားတို့ ဘက်ပေါင်းစုံ၌ တစ်ပန်းရှုံးကြသည်။ ဆင်းရဲခြင်းကြောင့် နေရာတကာ ခွဲခြားခံရတာ အားလုံးအသိ။

သည့်အပြင် ...

ဆင်းရဲခြင်းကြောင့် အရင်းအနှီး ကင်းမဲ့ကာ ဥစ္စာခနေရှာဖွေရန် အခွင့်အလမ်း နည်းပါးသည်။

ဆင်းရဲခြင်းကြောင့် ပညာသင်ကြားနိုင်ခွင့် နည်းပါးကာ ဘဝတိုးတက်ရေး အခြေခံကောင်းများ ဆုံးရှုံးရသည်။

ဆင်းရဲခြင်းကြောင့် ရောဂါဘယ ထူပြောကာ အသက်ရှည်ရှည် မနေကြရ။

တိုင်းပြည် မြို့ရွာတစ်ခုတည်းမှာ နေသူချင်းတူသော်လည်း ဆင်းရဲသား တို့မှာ ပတ်ဝန်းကျင်ရှိ သဘာဝရင်းမြစ်များကို ရယူခံစားနိုင်ခွင့် နည်းပါးသည်။ တောတောင်သယံဇာတကို ချမ်းသာသူတို့ ချုပ်ကိုင်ထားသည်။ ရေမြေသယံဇာတ ကိုလည်း ထိုနည်းငင်း။

သည့်အပြင် လူမှုအသိုင်းအဝိုင်းအတွင်း အများသူငါတို့နှင့် ဆိုင်သည့် ခံစားပိုင်ခွင့်များကိုလည်း ချမ်းသာသူတို့ပင် အဓိက ရယူကြသည်။

သည်လို ခံစားခွင့်နည်းပါးမှု၊ မမျှတမှု၊ မိမိဘက်က နစ်နာမှုတွေကို တင်ပြတောင်းဆိုဖို့မှာလည်း ဩဇာအာဏာရှိသူ၊ စိမံခန့်ခွဲပေးနိုင်သူတို့နှင့် ဆင်းရဲသားများ အလှမ်းဝေးကြသည်။

တစ်ဖန် ...

အလုပ်သမားချင်းတူလျှင် ဆင်းရဲ၍ ပညာရည် နိမ့်ကျသူတို့က အလုပ်အကိုင် အခွင့်အလမ်း ပိုနည်းသည်။ ရေရှည် အကျိုးရှိမည့် အလုပ်မျိုးကို ရွေးချယ် မနေနိုင်။ ရရာအလုပ်ကို ဝင်လုပ်ရသည်။ စီးပွားရေးလောက၌ အပြောင်းအလဲ

တစ်စုံတစ်ရာကြောင့် မိမိ ဝင်ရောက်နေသည့် အလုပ်အကိုင်မျိုးများ ပျက်စီးလျှင် အလုပ်သစ် ရှာဖွေရယူနိုင်ဖို့ ခဲယဉ်းသွားပြန်သည်။

လယ်ယာလုပ်ကိုင်သူချင်း အတူတူတွင်လည်း ဆင်းရဲသော စိုက်ပျိုးရေး သမားသည် ငွေအရင်းအနှီး၊ ပစ္စည်းကိရိယာ အရင်းအနှီး မတတ်နိုင်သဖြင့် မိုးခေါင်ခြင်း၊ မိုးများခြင်း စသည့် ရာသီဥတု ဖောက်ပြန်မှုဒဏ်ကို ခံနိုင်ရည် နည်းသည်။ ပိုးကျခြင်း၊ မြေဆီဩဇာ ခန်းခြောက်ခြင်း ပြဿနာများကိုလည်း ဖြေရှင်းနိုင်စွမ်း နည်းသည်။

ထို့ကြောင့် ဆင်းရဲသားသည် ပုံမှန်အခြေမှာပင် လုံးချာပတ်ချာလည် နေကာ ပုံမှန်မဟုတ်သည့် ပြဿနာမျိုး ဝင်ပါက ချက်ချင်းပင် ကသောင်းကနင်း ပရမ်းပတာ ဖြစ်သွားတတ်သည်။

## မိုးခေါင်–ဆင်းရဲသံသရာထဲက အီသီယိုပီးယား

ဆင်းရဲသားနှင့် ဆင်းရဲသော တိုင်းပြည်သည် အနေအထားချင်း အတူတူပင် ဖြစ်သည်။

ဆင်းရဲသော တိုင်းပြည်မှာ ပုံမှန်ထက်ဆိုးသော သဘာဝဘေးရန် ကျရောက်လျှင် အခြေအနေပျက်ပြီ။

အကြောင်းက ဘေးရန်ကို ကြိုတင် ခန့်မှန်းနိုင်စွမ်း နည်းခြင်း၊ ဘေးရန်ကို ရင်ဆိုင်ခုခံနိုင်စွမ်း နည်းခြင်းနှင့် ဘေးရန်ကျရောက်ပြီးနောက်တွင် ပြန်လည် ထူထောင်နိုင်စွမ်းနည်းခြင်းတို့ကြောင့် ဖြစ်သည်။

ယခုအခါ ကမ္ဘာတစ်လွှား၌ ရာသီဥတု ဖောက်ပြန် ပြောင်းလဲမှုများကြောင့် ကသီလင်တ ဒုက္ခရောက်ကာ ညည်းသံညူသံတွေ များလှသည်။ သို့သော် လူချမ်းသာများ၊ ချမ်းသာသော တိုင်းပြည်များ အဖို့မှာ အခိုက်အတန့် ကသိကအောက် ဖြစ်ရုံလောက်သာ ရှိသည်။ အတန်ကြာလျှင် နဂိုပုံမှန် ပြန်လည် လည်ပတ်နိုင်သည်။

ဆင်းရဲမွဲတေမှု အရာမှာ ထင်ရှားသည့် အီသီယိုးပီးယားပြည်မှာ မိုးခေါင် ရေရှားသည့် ပြဿနာကို ဖြေရှင်းနိုင်သည် မရှိ။ အကြိမ်ကြိမ် [illegible] နှိပ်စက်ခံနေရသည်။

'မိုးက ရွာရမယ့်အချိန်မှာ ဘယ်တော့မှ မရွာဘူး၊ ကျွန်တော်တို့ [illegible] ပြီးလို့ အပင်လေးတွေလည်း ပေါက်လာရော မိုးက ပြတ်သွား[illegible] အားလုံး သေသွားပြီ ဆိုတော့မှ ပြန်ရွာတယ်၊ ရှိတဲ့ကျွဲနွား[illegible]

ရေငတ်နဲ့ အတော်များများ သေကုန်တော့ ကျန်တဲ့အကောင်တွေ မြန်မြန် ထုတ်ရောင်းပြီး လူအတွက် စားနပ်ရိက္ခာ ဝယ်ရတယ်'

အဲဒါ အီသီယိုးပီးယား လယ်သမားတွေထံမှ မကြာခဏ ကြားရသည့် စကားမျိုး ဖြစ်သည်။ သူတို့ဘဝက မိုးပေါ်မှာ လုံးလုံးလျားလျား မှတည်နေသည်။ သူတို့ဘဝ ကံကြမ္မာကို မိုးလေဝသလက်ထဲ ဝကွက်အပ်ထား ကြသည်ဟု ဆိုချင်သည်။

မိုးမှန်လျှင် ကံကောင်းမည်၊ မိုးမမှန်လျှင် ကံဆိုးမည်။

အီသီယိုးပီးယားမှာ လူဦးရေ၏ ၈၅ ရာခိုင်နှုန်းသည် အသေးစား လယ်သမားများ၊ တစ်နိုင် မွေးမြူရေးသမားများဖြစ်ရာ ရာသီဥတု ဖောက်ပြန်လျှင် တစ်နိုင်ငံလုံး ကံဆိုးကြသည်။

စင်စစ် မိုးလေမမှန်သည့်ကိစ္စက သူတို့ချည်းခံရသည် မဟုတ်။ သူတို့နှင့် မိုးလေသဘာဝချင်း တူညီသည့် အခြားတိုင်းပြည်များလည်း ရှိသည်။ အဲသည် အထဲမှ တတ်နိုင်သူတွေ၊ တတ်ကျွမ်းသူတွေက မိုးနည်းသည့် ဒဏ်ကိုခံနိုင်သော သီးနှံအမျိုးအစားများ စိုက်ပျိုးခြင်း၊ သစ်တောများ မပျက်စီးအောင် ထိန်းသိမ်းခြင်း ထင်းအစားထိုးလောင်စာများ သုံးစွဲနိုင်အောင် စီမံခြင်း၊ မွေးမြူရေးသမားတို့ ကလည်း စွတ်စိုရာသီနှင့် ခြောက်သွေ့ရာသီအတွက် စားကျက်မြေများ ခွဲခြား ထားရှိခြင်း၊ ကျွဲနွားတို့ထက် ခံနိုင်ရည်ရှိသည့် ဆိတ်များ၊ ကုလားအုတ်များ မွေးမြူခြင်း၊ ရိုးရာအလုပ်များချည်း မဟုတ်ဘဲ လက်မှုလုပ်ငန်း စသည့် အခြားအသက်မွေးဝမ်းကျောင်း အလုပ်များပါ ဖြန့်ကြက်လုပ်ကိုင်ခြင်း စသည့် နည်းများအားဖြင့် တစ်ဦးချင်းရော တစ်တိုင်းပြည်လုံးပါ တောင့်တင်းကြံ့ခိုင် လာအောင် လုပ်ဆောင်ကြသည်။

အီသီယိုးပီးယားမှာလည်း သည်အတိုင်း လုပ်မည်ဆိုလျှင် မဖြစ်နိုင်စရာ မရှိ။ လုပ်ရန်အကြံပေးသူ၊ အားပေးတိုက်တွန်းသူ၊ နည်းလမ်းပြသူ၊ ကူညီလိုသူ တွေလည်း ရှိသည်။ သို့သော် စီမံခန့်ခွဲရေးသမား အဆင့်ဆင့်မှသည် နိုင်ငံသား တစ်ဦးချင်းတို့အထိ လုပ်သင့်လုပ်ထိုက်သည် များကို ထိထိရောက်ရောက် ဆောင်ရွက်နိုင်ခြင်း မရှိသေးရာ ယခုထိ အီသီယိုးပီးယားသည် သဘာဝဘေးရန်ကို ကြံ့ကြံ့ခံနိုင်သည့် တောင့်တင်းသော နိုင်ငံအဖြစ်သို့ မရောက်ရှိသေးပေ။

## ဟေတီနှင့်ချီလီ ငလျင်ချင်းတူသော်လည်း ခံရပုံ ကွာခြားသည်

မိုးခေါင်ရေရှားခြင်းလို အချိန်ဆွဲပြီးဖြစ်သည့် သဘာဝဘေးရန်မျိုးသာ

မဟုတ်၊ လျှော်လှုပ်ပြီး အချိန်တိုအတွင်း ဖြစ်ပေါ်သည့် ဆူနာမီ ရေလှိုင်းဘေး၊ ဟာရီကိန်း–ဆိုင်ကလုန်း–တိုင်ဖွန်း စသည့် ရက်အနည်းငယ်မျှ ကြာသည့် မုန်တိုင်းဘေး၊ လုံးဝသတိမပေးဘဲ ရုတ်တရက်ဖြစ်သည့် မြေငလျင်ဘေးတို့မှာလည်း ကြိုတင် ပြင်ဆင်နိုင်သူ၊ ကြိုတင် ပြင်ဆင်တတ်သူတို့ အထိအခိုက် နည်းပါးပြီး မသိသူ၊ မတတ်သူ၊ မတတ်နိုင်သူတို့သာ ဖြစ်လာပြီဆိုလျှင် အကာအကွယ်မဲ့ အလူးအလဲ ခံရမြဲ ဖြစ်သည်။

ယခုနှစ် ဖေဖော်ဝါရီအတွင်း ဟေတီနိုင်ငံနှင့် ချီလီနိုင်ငံတို့တွင် ရှေ့ဆင့်နောက်ဆင့် ဖြစ်ပွားခဲ့သည့် မြေငလျင်နှစ်ခုနှင့် ယင်းတို့၏ သက်ရောက်မှုများကို နှိုင်းယှဉ်လျှင် ဆင်းရဲသော တိုင်းပြည်နှင့် ချမ်းသာသော တိုင်းပြည်၊ စွမ်းဆောင်နိုင်သော တိုင်းပြည်နှင့် မစွမ်းဆောင်နိုင်သော တိုင်းပြည်တို့ သဘာဝဘေးရန်ကို ခံနိုင်ရည်ရှိပုံချင်း မည်မျှကွာခြားလှကြောင်း တွေ့မြင်နိုင်မည် ဖြစ်သည်။

၂၀၁၀ ဇန်နဝါရီ ဟေတီမှာ လှုပ်ခဲ့သော ငလျင်သည် ပြင်းအားအဆင့် ၇ ရှိပြီး ဖေဖော်ဝါရီလ ချီလီမှာလှုပ်သော ငလျင်က ပြင်းအား ၈.၈ ရှိသည်။ စကေးကို ကြည့်လျှင် များစွာမကွာသလို ထင်ရသော်လည်း ငလျင်ဗဟိုချက် ဖြစ်ပေါ်သည့် အင်အားချင်း နှိုင်းယှဉ်သော် ချီလီက အဆများစွာ ပိုသည် ဟုဆိုသည်။

သို့သော် ထိခိုက်သေပျောက်သည့် အရေအတွက်က ဇောက်ထိုးပြောင်းပြန် ဖြစ်နေသည်။ ဟေတီမှာ လူ ၂ သိန်းကျော်သေ၍ ချီလီမှာ ၈၀၀ ခန့်သာ သေဆုံးတာ တွေ့ရသည်။

ဘာကြောင့် သည်လိုဖြစ်ရသနည်း။ ဟေတီသားတွေ ကံဆိုးပြီး ချီလီသားတို့ ကံကောင်းခြင်းလား။ မဟုတ်ပါ။

ငလျင်လှုပ်တာတစ်ခုတည်း ကြည့်၍ ပြောလျှင်တော့ နှစ်ဦးလုံး ကံဆိုးတာပဲ ဟုဆိုနိုင်သည်။ သည်အထဲမှာမှ ချီလီက ငလျင် ခဏခဏ လှုပ်တာဆိုတော့ ပို၍ ကံဆိုးသည်ဟုပင် ပြောရလိမ့်ဦးမည်။ ဟေတီမှာ လွန်ခဲ့သော နှစ်ပေါင်း ၂၅၀ လောက်က တစ်ကြိမ်သာပဲ ပြင်းပြင်းထန်ထန် လှုပ်ဖူးသည်။

သို့သော် ခဏ ခဏ ငလျင်လှုပ်ဖူး၍ အတွေ့အကြုံ ရှိနေသော ချီလီက ပြင်ဆင်မှု အပြည့်အဝ ရှိနေသည်။ ငလျင်ဆိုတာက လူကို သေစေသည် ကျလောက်အောင် ကိုင်လှုပ်နိုင်သည် မဟုတ်။ သူ့ကြောင့် တန်ဆောင်များ ပြိုကျပိကျမှသာ လူသေသည်။ အဲသည်တော့ အဆောက်အဦတွေကို ငလျင်ဒဏ်

ခံနိုင်အောင် ဆောက်ထားလျှင် ငလျင်ကြောင့် သေစရာအကြောင်း မရှိ။

သို့သော် နည်းပညာလိုသည်။ ငွေကြေးလည်း ပိုသုံးရသည်။ စနစ်တကျ ကြပ်မတ်ဖို့လည်း လိုသည်။

ယခု ချီလီမှာ သက်သာတာ အဲသည် အနေအထားတွေ ပြည့်စုံ၍ ဖြစ်သည်။ ချီလီမှာ အဆောက်အအုံ အသစ်တစ်ခု ဆောက်မည်ဆိုလျှင် ငလျင်ဒဏ်ခံ စံချိန်စံညွှန်းများနှင့်အညီ ပုံစံရေးဆွဲတင်ပြပြီး ခွင့်ပြုချက်ရမှ ဆောက်ရသည်။ အဆောက်အဦတိုင်း ၎င်းအတိုင်း ဖြစ်သည်ဟု မပြောနိုင်သော်လည်း အများစုက တော့ စံချိန်မီကြသည်။ အကယ်၍ စံချိန်စံညွှန်းမကိုက်ညီသဖြင့် ထိခိုက် ပျက်စီးမှုရှိခဲ့လျှင် ထိရောက်စွာ အရေးယူခြင်း ခံရသည်။

ချီလီမှာ ငလျင်ပညာရှင်များ၊ ငလျင်ဒဏ်ခံ အဆောက်အအုံများ ပုံစံထုတ် ဆောက်လုပ်သည့် ဗိသုကာနှင့် အင်ဂျင်နီယာများလည်း အများအပြား ရှိသဖြင့် ရုံးများ၊ ကျောင်းများ၊ ကုန်တိုက်များ စသည့် အဆောက်အဦကြီးများသာမက တန်ဖိုးနည်း လူနေအိမ်များပင် ငလျင်ဒဏ်ခံ နည်းပညာဖြင့် တည်ဆောက်နိုင် ကြသည်။

ထို့ကြောင့်လည်း အင်အား အလွန်ပြင်းသည့် ယခု ငလျင်မှာပင် အပျက်အစီး နည်းပါးခြင်း ဖြစ်သည်။

ဟေတီမှာတော့ ဘိလပ်မြေ နည်းနည်း၊ သဲများများနှင့် အထဲမှာ သံချောင်း မပါဘဲ ဆောက်ကြသည့် အုတ်တိုက်တွေများသဖြင့် ငလျင်လှုပ်သည့်အခါ ပေါင်မုန့်ကြွပ်တွေ အထပ်လိုက် တက်နင်းခံရသလို ရှိသမျှ ကြေမွပြိုကျကာ အုတ်ပုံသဲပုံများ ဖြစ်သွားကြသည်။ ပြိုသည့်အထဲတွင် နန်းတော် အဆောက် အအုံရော၊ သမ္မတအိမ်တော်ပါ ပါသွားသည်။ ဝန်ကြီးရုံး အဆောက်အအုံ ၁၅ ခု ရှိသည့်အနက် ၁၃ ခု ပျက်စီးသည်။ ဟေတီသားတွေ ငလျင်ဒဏ်ခံ နည်းပညာဆိုတာ မကြားဖူးဘူးလား ဆိုတော့ မဟုတ်။ ကြားဖူးကြသည်။ အဲသည့်နည်းပညာဖြင့် ဆောက်ထားတာလည်း ရှိသည်။ သို့သော် တစ် တိုင်းပြည်လုံး စုပေါင်းမှ သုံးလုံးပဲရှိသည်ဟု ဟေတီသား ဗိသုကာတစ်ဦးက ဆိုသည်။

ဟေတီနှင့် ချီလီ အဲသည်လောက် ကွာခြားရခြင်း အကြောင်းရင်းကို ပြန်ချုပ်ကြည့်တော့ ရှေ့တွင်ဖော်ပြခဲ့သည့် ဆင်းရဲချမ်းသာ ကွာဟမှုက အဓိက ဆိုတာ သွားတွေ့ရသည်။

ဟေတီသည် အနောက်ကမ္ဘာခြမ်းမှာ အဆင်းရဲဆုံးနိုင်ငံ ဖြစ်နေချိန်တွင် ချီလီက တောင်အမေရိကတွင် တစ်ဦးချင်း ပျမ်းမျှ ဂျီဒီပီ အမြင့်ဆုံး တိုင်းပြည် ဖြစ်နေသည်။ ချီလီသားတွေက ဟေတီသားတို့ထက် ၁၀ ဆမက ဝင်ငွေ ကောင်းသည်။ တစ်ဖက်တွင် ချီလီမှာ ဦးဆောင်နေသူများနှင့် ဟေတီကို စီမံအုပ်ချုပ်သူများလည်း စွမ်းဆောင်ရည်ချင်း ကွာခြားကြသည်။ စိတ်ခံစား စေတနာများသည်လည်း ထိုနည်းလည်းကောင်း။ ကမ္ဘာ့နိုင်ငံများကို အဂတိ လိုက်စားမှု အနည်းအများအလိုက် တန်းစီသည့်အခါ ချီလီက အဆင့် ၂၅ ရှိကာ ဟေတီက ၁၆၈ နေရာမှာ ရောက်နေသည်။

အဲဒါကြောင့် လျှော့အပါအဝင် သဘာဝဘေးရန်များကို ရင်ဆိုင် ဖြေရှင်းရာ၌ ကြိုတင် ပြင်ဆင်မှုတွင်ရော ဖြစ်ပျက်ပြီးနောက် ဆောင်ရွက်မှုတွင်ပါ ချီလီက သွက်လက်ထက်မြက်သလောက် ဟေတီက ချို့ယွင်းညံ့ဖျင်းနေခြင်း ဖြစ်သည်။

ဟေတီ၏ ဒုက္ခကို ကမ္ဘာက ဝိုင်းဝန်းဖြေရှင်းနေစဉ် ချီလီသည် စာနာ ထောက်ထားမှု အကူအညီ အနည်းငယ်ကိုသာ ယူပြီး သူ့ကိစ္စသူ နိုင်နင်းစွာ ဖြေရှင်းသွားသည်။

စင်စစ် ချီလီတွေလည်း ငွေဖွန်းကိုက် မွေးလာသည် မဟုတ်။ ၁၉၉၀ မတိုင်မီက ချီလီသည် အာဏာရှင်အုပ်စိုးသောနိုင်ငံ ဖြစ်ခဲ့သည်။ လျှော့ကြောင့် အကြီးအကျယ် သေပျောက်မှုတွေလည်း သူတို့ ခံခဲ့ရဖူးသည်။ သည်ဘက် ခေတ်တွင် တိုင်းပြည် ဖွံ့ဖြိုးတိုးတက်အောင် ဆောင်ရွက်နိုင်သဖြင့် သဘာဝ ဘေးဒဏ်ကို ခံနိုင်သည့် တောင့်တင်းခိုင်မာသော နိုင်ငံအဖြစ် ချီလီသားတွေ ဂုဏ်သိက္ခာရှိစွာ ရပ်တည်လာနိုင်ခြင်း ဖြစ်သည်။

လျှော့ဘေးဒဏ်တွေ ခံရချိန်တွင် ဟေတီကို အားပေးလိုသူတွေက၊ ချီလီက တတ်နိုင်သည်၊ ဟေတီကိုသာ ဝိုင်းကူကြပါဟု ဆိုကြသည်။

တစ်စိတ်တစ်ပိုင်းတော့ မှန်သည်။ သို့သော် ချီလီပင် မတတ်နိုင်ရာက တတ်နိုင်လာသေးလျှင် ဟေတီလည်း နောင်တစ်နေ့ ကိုယ့်ခြေထောက်ပေါ် ကိုယ်ရပ်တည်နိုင်ဖို့အတွက် အလေးထား ကြိုးစားသင့်သည်။

သို့မဟုတ်လျှင်တော့ သူများတွေက ဖွံ့ဖြိုးမှုမှာ စံနမူနာပြ နိုင်ငံအဖြစ် မှန်ဘီရိုထဲမှာ လုလုပပ ပြသခံနေရစဉ် ကိုယ်ကတော့ သုံးမရသဖြင့် အမှိုက် တောင်းထဲ အထည့်ခံရသည့် အနေအထား ရောက်သွားနိုင်သေးသည်။

# သူတစ်ပါးကို ရင်ဆိုင်ယှဉ်ပြိုင်နိုင်ဖို့ နည်းလမ်းကောင်း လိုပါသည်

## (၁) သမိန်ပရမ်း၏ နည်း

မြန်မာရာဇဝင်ထဲမှာ သမိန်ပရမ်းနှင့် ဂါမဏိ စီးချင်းထိုးတာ ဖတ်ဖူးကြ၏။

နှစ်ယောက်လုံး သူရဲကောင်းတွေချည်း။

မြင်းစီးကျွမ်းသည်၊ ဓားခုတ်လှံထိုး ကျွမ်းသည်၊ ရဲစွမ်းသတ္တိ ရှိသည်။

သို့သော် ရင်ဆိုင်တိုက်ခိုက်မည့်အချိန် သူတို့နှစ်ယောက်ကို ယှဉ်ကြည့်လျှင် ဂါမဏိက အပေါ်စီး အနေအထားဟု မြင်ရသည်။ သူက တရုတ်တွေ မြှောက်စားပေးထားသည့် လူစွမ်းကောင်း၊ အစားအသောက် ကောင်းကောင်းစား၍ ခွန်အားအပြည့်။ မြင်းကောင်းမြင်းသန့်ကို စီး၍ ဓားလှံလက်နက်ကလည်း ကြီးကျယ်ခမ်းနားသည်။ သမိန်ပရမ်းက ဂါမဏိနှင့် တိုက်ရမည်ဆိုတော့မှ အကျဉ်းခန်းထဲက ထုတ်၊ ကမန်းကတမ်း အစာအာဟာရ ကျွေး၊ လမ်းဘေးက မြင်းတစ်စီးနှင့် ရက်တို လေ့ကျင့်ပြီး တိုက်ရသူ။

သည်ကြားထဲ ဂါမဏိက သံချပ်အကျီ ဝတ်ထားသေးသည်ဆိုတော့ လုံးဝ မမျှတသည့် အနေအထား။

သို့သော်၊ သမိန်ပရမ်းက အခုတ်အထစ် ကျွမ်းကျင်မှု သက်သက်ကို အားကိုးပြီး ဝင်တိုက်တာ မဟုတ်။

သူ့မှာ နည်းလမ်း ရှိသည်။

သို့မဟုတ်၊ နည်းလမ်းရှာတတ်သော အလေ့အထ ရှိသည်။

ဘယ်လို တိုက်မလဲဆိုတာ စဉ်းစားကြံဆပြီးမှ တိုက်ပွဲဝင်တာ ဖြစ်သည်။

ထို့ကြောင့်၊ ပထမဆုံး တရုတ် လူစွမ်းကောင်းအား ပွဲကြည့်ပရိသတ် သိပ်ကောင်းနေတာကို အကြောင်းပြု၍ သူတို့နှစ်ဦး ရင်ဆိုင်မတိုက်မီ မြင်းရေးစွမ်းရည်ပြကြရန် စည်းရုံးသည်။ ဂါမဏိက သဘောတူသဖြင့် မြင်းကို ကိုယ်ကိုချူ၍ တစ်မျိုး၊ ရပ်၍တစ်ဖုံ၊ လက်နှစ်ဘက် ဆန့်တန်း၍တစ်နည်း စီးပြကြသည်။

သမိန်ပရမ်း၏ အဲသည်အစီအစဉ်က သူ့ မြင်းစီးကျွမ်းကြောင်း ပရိသတ်ကို ပြချင်၍ မဟုတ်၊ ဂါမဏိ၏ အစွမ်းအစနှင့် လက်နက်ကိုင်ဆောင် လှုပ်ရှားပုံကို အကဲခတ်လို၍ ဖြစ်သည်။

အဲသလို အကဲခတ်ရင်း ဂါမဏိ၏ သံချပ်အကျီမှာ ချိုင်းအောက်က ကြိုးပြတ်၍ ဟနေတာ သူ မြင်လိုက်သည်။

ပျော့ကွက်ကို ရှာတွေ့ပြီ။

အဲသည်တော့ တကယ် တိုက်ကြသည့်အခါ ဂါမဏိကို အနီးကတ် တိမ်းရှောင်လှည့်ပတ်ကာ သူ့ကို ခုတ်ရန် ဂါမဏိ လက်မြှောက်ချိန်တွင် ချိုင်းအောက်အဟာမှ နေ၍ နံကြားသို့ လှံနှင့်ထိုးသည်။ နဂိုကတည်းက လေ့ကျင့်ကျွမ်းကျင်ပြီးသားဖြစ်ရာ လှံက ထုတ်ချင်းပေါက်ဝင်သွားပြီး ဂါမဏိ ကျလေသည်။

## (၂) ဂျပန်ဓားသမား၏ တိုက်ကွက်

သမိန်ပရမ်းတို့နှင့် ခပ်ဆင်ဆင် ဂျပန် ဓားရေးပြိုင်ပွဲတစ်ခု ရှိသည်။

တတိယ ရှိုဂန်အိယေမစ်ဆု လက်ထက်က ဖြစ်သည်။ အိယေမစ်ဆုက ဓားခုတ် ပွဲတွေ အလွန် စိတ်ဝင်စားသည်။

တစ်ကြိမ်မှာ သူ ရှာထားသည့် လက်ရွေးစင် ဓားသမားတစ်စုနှင့် စွမ်းရည် ပြပွဲတစ်ခု သူ စီစဉ်သည်။ ပွဲသို့ ရောက်ရှိလာသူများထဲမှာ မြင်းစီး အလွန် ကျွမ်းသည့် ဘန်ကူးရိုးဆိုသူ တစ်ယောက်လည်း ပါဝင်ရာ သူ့အား စွမ်းရည်ပြပွဲမှာ ပါဝင်ရန် အိယေမစ်ဆုက ဖိတ်ခေါ်သည်။ ဘန်ကူးရိုးကလည်း မငြင်း။ မြင်းစီးပြီး တိုက်ရမည်ဆိုလျှင် သူ ပါဝင်မည် ဟုဆိုသည်။ ဒါတင်မက မြင်းနှင့် ဆိုလျှင် ဘယ်သူ့ကိုမဆို သူ နိုင်အောင် တိုက်နိုင်သည်ဟုလည်း ဆိုလိုက် သေးသည်။

သို့နှင့် အိယေမစ်ဆုက သူ့ဓားသမားများအား ဘန်ကူးရိုး ကြိုက်သည့် ပုံစံနှင့် ယှဉ်ပြိုင်ခိုင်းလိုက်သည်။ တကယ် တိုက်ကြသည့်အခါ စောစောက ဘန်ကူးရိုး ပြောခဲ့သည့်အတိုင်းပင် မြင်းစီး ဓားခုတ်မှာတော့ သူ့ကို ဘယ်သူမှ မယှဉ်နိုင်တာ တွေ့ရသည်။

သူက မြင်းစီး ချန်ပီယံ၊ ဟိုဓားသမားတွေက မြင်းကို သာမန်လောက်သာ စီးတတ်သူတွေဆိုတော့ ဓားစွမ်းရည်ကို မြေပြင်မှာလောက် ပြည့်ပြည့်ဝဝ မပြနိုင်ကြ။

သူ့လူအားလုံး ရှုံးပြန်တော့လည်း အိယေမစ်ဆုက စိတ်ထဲ သိပ်မကျေနပ်ချင်။ အဲဒါနှင့် ပရိသတ်ထဲက ကြည့်နေသည့် အခြားဓားသမားတစ်ဦးဖြစ်သော မျူနိုနိုရီကိုခေါ်ကာ ကဲ၊ ခင်ဗျား စမ်းကြည့်ဗျာဟု ဆိုပြန်သည်။

မျူနိုနိုရီကလည်း မငြင်းပါ။ ပြိုင်ပွဲသုံးသည့် သစ်သားဓားကိုကိုင်ကာ ဆွဲကာ မြင်းတစ်စီးပေါ် တက်လိုက်သည်။ ပြီးလျှင် တိုက်ပွဲဝင်ရန် အသင့်

အနေအထားဖြင့် မြင်းကို အသော့နှင်သွားပြီး ဘန်ကူးရှိးနား အရောက်တွင် တုန့်ခနဲရပ်ကာ ဘန်ကူးရှိးကို လှမ်းမခုတ်ဘဲ သူ စီးထားသည့် မြင်းနှာနုကို ဓားပြားနှင့် ရိုက်လိုက်သည်။ မြင်း ရုတ်တရက် ပတတ်ရပ်သည့်အခါ ဘယ်လောက် မြင်းစီးကျွမ်းသည့် ပုဂ္ဂိုလ်ဖြစ်ဖြစ် တခြား အလုပ် မလုပ်နိုင်၊ မြင်းပေါ်က လိမ့်မကျအောင်ဘဲ ကြိုးစားထိန်းနေရသည်။

အဲသည်ချိန် မျူနီနိုရီက ဓားနှင့် ခုတ်ချလိုက်ရာ ဘန်ကူးရှိး မြင်းပေါ်က လွင့်ကျသွားသည်။

ပြိုင်ပွဲတစ်ခု အနိုင်ရရန်အတွက် ကျွမ်းကျင်မှု အရေးပါသလို၊ ပြိုင်ဆိုင်မည့် နည်းလမ်းကို ကြိုတင်စဉ်းစား ရွေးချယ်ထားတတ်ဖို့လည်း အရေးကြီးကြောင်း ပြသသည့် သာဓကများပေတည်း။

## (၃) မီးသတ်သမား၏ လျှပ်တစ်ပြက် ဉာဏ်

သမိန်ပရမ်းနှင့် မျူနီနိုရီတို့မှာ နည်းလမ်းရှာရန် အချိန်နည်းနည်းစီ ရကြသည်။ သမိန်ပရမ်းက ပရိယာယ်ဆင်၍ အချိန်ရအောင် ယူသည်။ မျူနီနိုရီက ပရိသတ်အဖြစ် ထိုင်ကြည့်နေကတည်းက သည်လူ့ကိုတော့ သမားရိုးကျ သွားတိုက်နေ၍ မရ၊ သူ ထင်မထားသောနည်းဖြင့် အငိုက်ဖမ်းနိုင်မှ ရမည်ဟု စဉ်းစားမိခဲ့ပုံရသည်။ တိုက်ပွဲအစီအစဉ် ရှိပြီးကာမှ ကွင်းထဲ ဆင်းလာခဲ့သည့် သဘော။

သို့သော်၊ အဲသည်လို အချိန်မရဘဲ တစ်ဖက်က အင်ကြီးအားကြီးနှင့် ဖိစီးလာနေသည်၊ ဒရောသောပါး ပရမ်းပတာ အခြေအနေမှာ ဘယ်လို ရင်ဆိုင်မလဲ စဉ်းစားကြံဆနိုင်သူ၊ နည်းလမ်းကောင်းကို ရှာတွေ့တတ်သူမျိုးလည်း ရှိပါသေးသည်။

တစ်ခါတုန်းက အမေရိကမှာ မီးသတ်သမားတစ်စု အဟုန်ကြီးသော တောမီးတစ်ခုနှင့် ရင်ဆိုင်ခဲ့ရသည်။ ရှည်လျားမှာ စိုးသဖြင့် အနေအထားကို အကြမ်းဖျင်းပဲ ပြောပါမည်။

တောမီးက မြင့်မောက်သော တောင်တန်းနှင့် ကျယ်ပြောသော မြေပြန့်လွင်ပြင် တို့ဆုံရာ နေရာမျိုးမှာ ဖြစ်ပွားသည်။ တောင်တန်းမှာ ထင်းရှူးတောရှိ၍ လွင်ပြင်မှာ မြက်ရိုင်းတောကြီး ရှိသည်။

အစပိုင်းမှာ မီးက သိပ်မကြီးသဖြင့် မီးသတ်သမားအဖွဲ့ကို မီးနှင့်နီးသည့် နေရာများမှာ လေထီးနှင့် ချထားပေးခဲ့သည်။

သူတို့ ရောက်သွားပြီးကာမှ ထင်းရှူးတောမှာ လောင်သည့်မီးသည် တစ်ပင်ကတစ်ပင် ကူးစက်ကာ မီးအုပ်ဆောင်းကြီး ဖြစ်သွားသည်။ သည်အခါ မီးရှိန် အဆမတန် မြင့်တက်၍ မီးကျီးခဲတွေ မီးလောင်နေသော သစ်ကိုင်းစတွေ ပတ်ဝန်းကျင်သို့ လွင့်စင် ထွက်သည်။

အခြေမလှသောအခါ သူတို့ ဆုတ်ခွာကြသည်။ သို့သော် သူတို့ ပြေးလွှားရသည်က မြက်ရိုင်းတွေ ကြားမှာ။

မြက်ရိုင်းတွေ မီးစွဲသည့်အခါမှာတော့ မီးက မြင်းရိုင်းတစ်ကောင်လို တရကြမ်း ပြေးတော့သည်။

မီးသတ်သမားတွေ ကိုယ်ပေါ် ရှိသမျှ ပစ္စည်းအားလုံး ခွာချစွန့်ပစ်ကာ မီးရှေ့က ပြေးသည်။

သူတို့ထက် မြန်သော မီးကို လွတ်အောင် ပြေးနိုင်စရာ လမ်းမရှိ။ သို့သော် လူဆိုသည်က သေရေးရှင်ရေးဆိုလျှင် ပြေးဖို့ပဲ တတ်ကြသည်။

အဲသည်အချိန် မီးသတ်အဖွဲ့ခေါင်းဆောင် ဒေါ့ချ်က ပြေးနေရာမှ ရုတ်တရက် ရပ်ကာ သူ့လူတွေအားလုံး ရပ်ကြဖို့ လှမ်းအော်သည်။ တစ်တောလုံး မီးလောင်နေသည့် အသံများကြားမှာ သူ့အသံကို ဘယ်သူမှ သေသေချာချာ မကြားကြ။ ကြားလျှင်လည်း ရပ်မည် မဟုတ်။ သူ့ကို မြင်သူတွေကလည်း မီးသတ်ဗိုလ်တော့ မီးလန့်ပြီး ရူးသွားပြီဟုပဲ ထင်ကြမည်။

အကြောင်းက သူက လက်ထဲ မီးခြစ်တစ်လုံး ထုတ်ကိုင်ကာ သူ့ရှေ့က မြက်ပင်တွေကို မီးထရှို့ခြင်း ဖြစ်သည်။

နေပူရှိန် တောမီးအရှိန်တို့ဖြင့် လောင်ချင်နေလှပြီ ဖြစ်သည့် မြက်ရိုင်းတွေက ချက်ချင်း ထလောင်ကာ မီးတောက်တွေ အရှိန်နှင့် ပြန့်ထွက်သွားသည်။

ဒေါ့ချ်က အဲသည်လို သူမီးရှို့၍ မီးကျွမ်းပြီး ပြာနှင့် မီးမှုန်မီးမွှားလောက်သာ ကျန်ခဲ့သည့် နေရာကွက်လပ်ထဲ ပြေးဝင်ကာ လက်ကိုင်ပဝါကို ရေဘူးထဲက ရေနှင့် ရွှဲအောင်ဆွတ်သည်။ ထို့နောက် ရေစိုအဝတ်ကို ပါးစပ်နှင့် တင်းတင်း ကိုက်ရင်း ပြာတောထဲမှာ လှဲချကာ မျက်စိကို စုံမှိတ်၍ နေလိုက်သည်။

နောက်က ပြေးလိုက်လာသည့် တောမီးသည် သူ့အနားမှာ လောင်စာ မရှိသဖြင့် လောင်မသွား။ သူ့ကို ကွင်း၍ သွားသည့် မီးတောက်မီးလျှံတွေ အရှိန်ပြင်းပြင်း ဟပ်သွားတာသာ သူ ခံလိုက်ရသည်။

သူ့ဘေးပတ်လည်မှာ မီးတွေ ငြိမ်းသွားပြီ ဆိုတော့မှ သူ ထသည်။

သူ့ကိုယ်မှာ ပြာအလိမ်းလိမ်း ကပ်တာကလွဲ၍ ဘာဒဏ်ရာမှ မရ

သူ့လူတွေကို အပြေးအလွှား လိုက်ရှာသည့်အခါ ကံအားလျော်စွာ ဆေးလိပ်ဆောင်အကက်ကွဲတစ်ခုနား ရောက်သွားပြီး အဲသည်မှာ တိုးကပ် ခိုအောင်းနေခဲ့သူတစ်ယောက်သာ အသက်ရှင်တာ တွေ့ရသည်။ ကျန်လူ ၁၃ ယောက်တတော့ မြက်ရိုင်းများနှင့်အတူ လောင်ကျွမ်းသေဆုံးသွားခဲ့ပြီ ဖြစ်သည်။

သူတို့ ခေါင်းထဲ ဒေါ့ချ်၏ အကြံဉာဏ်မျိုး မဝင်ရောက်ခဲ့။ သူ လုပ်နေတာ မြင်သူကလည်း သဘောမပေါက်သဖြင့် သူ့ဆီ ပြေးမလာခဲ့။ အမြန်ဆုံး ပြေးဖို့တစ်ခုသာ သူတို့ သိခဲ့ကြသည်။

အသည်းအသန် အချိန်မှာ ဒေါ့ချ် အကြံရခဲ့သည့် 'မီးကို မီးဖြင့် ကာကွယ်သောနည်း' သည် နောင်အခါ မီးသတ်သမား မြောက်မြားစွာကို အသက်ဘေးမှ လွတ်မြောက်စေခဲ့သည့် လက်စွဲနည်းနာတစ်ခု ဖြစ်ခဲ့ပါသည်။

# ဒီမိုကရေစီနိုင်ငံဖြစ်ဖို့ နိုင်ငံရေးသမား များများလိုသည်

ရှေးဦးစွာ

နိုင်ငံရေးသမား ဆိုတာ ဘာလဲ။

နိုင်ငံရေးသမား ဟူသည် တိုင်းပြည်ရပ်ရွာ၏ အထွေထွေ အပြားပြားသော ကိစ္စရပ်များနှင့် စပ်လျဉ်း၍ မှားသည်၊ မှန်သည်၊ သင့်တော်သည်၊ မသင့်တော်သည်၊ ဘယ်သို့ဘယ်ပုံ ဆောင်ရွက်သင့်သည် စသည့် မိမိ၏ အတွေးအမြင် အယူအဆများကို အများသိအောင် ဖြန့်ချီသူ၊ လက်ခံလာအောင် စည်းရုံး ဆွဲဆောင်သူ၊ သဘောတူသူများကို စုစည်းသူ၊ ထို့နောက် ထိုအမြင်၊ ထိုအယူအဆများအတိုင်း အကောင်အထည်ဖော်ဖြစ်အောင် ကြိုးပမ်းသူများ ဖြစ်သည်။

ထို့နောက် ...

ဒီမိုကရေစီ။

ဒီမိုကရေစီ ဟူသည် အများပြည်သူတို့၏ ယုံကြည်ချက်များ၊ ဆန္ဒ သဘောထားများအားဖြင့် တိုင်းရေးပြည်ရာတို့ကို စီမံဆောင်ရွက်ရသော စနစ် ဖြစ်ရာ၊ ဒီမိုကရေစီနိုင်ငံတစ်ခု အောင်မြင်စွာ ဖြစ်ထွန်းဖို့တွင် အများပြည်သူ ကြားက အယူအဆများကို ကိုယ်စားပြု ဖော်ပြနိုင်သည့် နိုင်ငံရေးသမား အများအပြား လိုအပ်သည်။

တစ်နည်းပြောသော် ...

တိုင်းပြည်တစ်ပြည်၌ နိုင်ငံရေးသမား နည်းပါးနေသရွေ့၊ သို့မဟုတ် နိုင်ငံ့အရေးကို ထက်သန်တက်ကြွစွာ ဆောင်ရွက်လိုသူ နည်းပါးနေသရွေ့ အဲသည်တိုင်းပြည်သည် ဒီမိုကရေစီနှင့် ကင်းဝေးနေဦးမည် ဖြစ်သည်။

## ကောင်းသော နိုင်ငံရေးသမား မကောင်းသော နိုင်ငံရေးသမား

ယခုတလော စာနယ်ဇင်းများတွင် နိုင်ငံရေးသမား မကောင်းကြောင်း ရေးသောစာတွေ အတော်များများ တွေ့ရသည်။

လူတို့ထုံးစံအတိုင်း နိုင်ငံရေးသမားများထဲမှာလည်း ကောင်းသူရှေ့ မကောင်းသူပါ ပါဝင်နေကြမည် ဖြစ်သည်။ ကောင်းတာကို ကောင်းကြောင်း ပြောသလို မကောင်းတာကို မကောင်းကြောင်း ပြောကြမှာလည်း သဘာဝ ဖြစ်သည်။

သို့သော် နိုင်ငံရေးသမား မကောင်းကြောင်းကို ဝါဒဖြန့်သလို ပြောလျှင်ကား နိုင်ငံရေးသမားကိုရော နိုင်ငံရေးအလုပ်ကိုပါ သိမ်းကျုံးဆန့်ကျင်သော သဘော သက်ရောက်သည်။

စင်းစစ် နိုင်ငံရေးသမား ဟူသည်တွင် တိုင်းပြည်ကို မိမိအယူအဆ၊ မိမိ သဘောထားများဖြင့် စီမံဖန်တီးခွင့်ရအောင် ကြိုးပမ်းနေသူများရော၊ စီမံခန့်ခွဲခွင့် ရှိနေကြသူများပါ အကျုံးဝင်သည်။

သည်အထဲမှာ ကောင်းသူလည်း ရှိမည်၊ မကောင်းသူလည်း ရှိမည်။

အရေးကြီးသည်က အဲသည်လူတွေ ကောင်းအောင် တော်အောင် ထိန်းကျောင်းဖို့ ဖြစ်သည်။ အဲသည် အလုပ်ကို လူထုက လုပ်ရလိမ့်မည်။ လူထုကြားထဲမှ နိုင်ငံရေးသမား များများထွက်လျှင်၊ အဲသည်အထဲက အကောင်းဆုံး၊ အတော်ဆုံးတွေကို လူထုက ရွေးချယ်နိုင်မည်။ သည်လူတွေကို လွတ်လပ်မျှတစွာ ယှဉ်ပြိုင်စေခြင်း၊ ပြိုင်ဘက် အချင်းချင်းရော လူထု ကိုယ်တိုင်ပါ စောင့်ကြပ်ဝေဖန်ခြင်းဖြင့် ကောင်းသော တော်သော အနေအထားမှ ယိမ်းယိုင် သွေဖည်မသွားအောင် ထိန်းထားပေးနိုင်မည်။

လွတ်လပ်ပွင့်လင်းသော စနစ်အောက်တွင် မကောင်းသော နိုင်ငံရေးသမား ထွက်ပေါ်ရန် ခဲယဉ်းသည်။ ထွက်ပေါ်လျှင်လည်း ရေရှည် မတည်တံ့နိုင်။

၆

## ဘယ်သူတွေ နိုင်ငံရေးလုပ်ကြသလဲ

နိုင်ငံရေးနယ်ပယ်ထဲသို့ အကြောင်းအမျိုးမျိုးဖြင့် ရောက်ကြသူတွေ ရှိသည်။ တချို့က ရောက်လာလိုက် ပျောက်သွားလိုက်၊ ဝင်လိုက် ထွက်လိုက်။ သည်နယ်ပယ်မှာ ရေရှည် နေကြသူတွေကတော့ နိုင်ငံရေးစိတ်ဓာတ် တကယ် စွဲမြဲခိုင်မာသူများ ဖြစ်သည်။

နိုင်ငံရေးစိတ်ဓာတ် ဆိုသည်က အထက်မှာဆိုခဲ့သည့် တိုင်းပြည်ကိစ္စ၊ ရပ်ရွာကိစ္စများမှာ အားတက်သရော ပါဝင်ဆောင်ရွက်ချင်နေသည့် စိတ်ဓာတ် ဖြစ်သည်။ သည်စိတ်ဓာတ် ပြင်းထန်သူတွေသာ နိုင်ငံရေးလောကခံကို ကြံ့ကြံ့ ခံနိုင်ကြသည်။

နိုင်ငံရေးဆိုသည်က မပြတ်ယှဉ်ပြိုင်နေသော အလုပ်မျိုးဖြစ်ရာ တစ်ရံ တစ်ခါ၌ ပြိုင်ပွဲက ကြမ်းတမ်းတတ်သည်။ စစ်ပွဲဟူသည် နိုင်ငံရေး၏ အဆက် ဖြစ်သည် ဟူသော စကားတစ်ခုလည်းရှိရာ နိုင်ငံရေးပြိုင်ပွဲတို့ မည်မျှအထိ ကြမ်းတမ်းသွားနိုင်ကြောင်း သိနိုင်သည်။ တိုင်းတစ်ပါးနှင့် ပတ်သက်သော

နိုင်ငံရေး ကြမ်းတမ်းနိုင်သလို ပြည်တွင်းနိုင်ငံရေးလည်း ကြမ်းတမ်းနိုင်သည်။

ထို့ကြောင့်လည်း နိုင်ငံရေးကို စိတ်ဝင်စားကြသူများနှင့် ပတ်သက်၍ ယေဘုယျအားဖြင့် နှစ်ပိုင်းခွဲခြားပြီး ပြောတတ်ကြခြင်း ဖြစ်သည်။

တက်ကြွလှုပ်ရှားသူ (activist)များနှင့် အားပေးထောက်ခံသူ (sympathizer) များ။

သို့မဟုတ်

ကွင်းထဲမှာ လက်နက်ကိုယ်စီ ကိုင်ကာ ယှဉ်ပြိုင်တိုက်ခိုက်ကြသူ gladiator များနှင့် ပွဲကြည့်စင်ပေါ်က အားပေးကြည့်ရှုသူ spectator များ ဟူ၍။

တကယ် ထက်သန်တက်ကြွသူတို့သာ နိုင်ငံရေးသမား စစ်စစ်များ ဖြစ်လာကြသော သဘောပင်။

## လုပ်ပိုင်ခွင့် သို့မဟုတ် နိုင်ငံရေးအာဏာ ရရှိကြသူများ

နိုင်ငံရေးအာဏာ၊ သို့မဟုတ် တိုင်းရေးပြည်ရာ စီမံခန့်ခွဲမှု အာဏာကို နိုင်ငံရေး မလုပ်သူတို့ ရစရာအကြောင်းမရှိ။ ရှေးတုန်းကတော့ ကျောက်ဖျာပေါ် အိပ်ပျော်နေသူ၊ မြို့တံခါးပေါက်သို့ လှည်းတစ်စီးနှင့် မနက်အစောဆုံး ရောက်လာသူ စသည့် ပုဂ္ဂိုလ်များကို အတင်းအဓမ္မ ရှင်ဘုရင် တင်မြှောက်သာမျိုးတွေ ရှိခဲ့ဖူးသည်။

သည်ခေတ်မှာတော့ နိုင်ငံရေး လုပ်သူများသာ အာဏာကို ရရှိကြသည်။

ဒါလည်း အံ့သြစရာအကြောင်းတော့ မရှိ။ ဘယ်အရာမဆို လုပ်သောသူသာ ရရှိတာ သဘာဝပဲ။

သို့သော် ရပုံရနည်းတွေ အမျိုးမျိုး ရှိသည်။

တချို့က တော်လှန်ရေးနှင့် အာဏာရသည်။ တချို့က အာဏာရှင် ဖခင်က လွှဲပြောင်းပေး၍ အာဏာရသည်။ တချို့က သူတစ်ပါးထံမှ သိမ်းပိုက်ပြီး အာဏာရသည်။ တချို့က ကိုယ့်အုပ်စုက ခန့်အပ်သဖြင့် အာဏာရသည်။

ဒီမိုကရေစီစနစ်မှာတော့ လွတ်လပ်၍ တရားမျှတသော ရွေးကောက်ပွဲများတွင် ပြည်သူတို့က ရွေးကောက် တင်မြှောက်သဖြင့်သာ အာဏာရနိုင်ကြသည်။

အဲဒါက အငြိမ်းချမ်းဆုံးနည်း၊ ဣန္ဒြေ အရဆုံး နည်းဖြစ်သည်။ ဝင်တာလည်း ဣန္ဒြေရသည်။ ထွက်တော့လည်း ထိုနည်းရင်း။

ဒီမိုကရေစီပြည့်ဝသော နိုင်ငံကြီးများတွင် အာဏာသက်တမ်း တာဝန်ဆုံးသူနှင့်

အာဏာသက်တမ်း စတင်သူတို့ အကြီးအကဲ အိမ်တော်မှာ ယဉ်ကျေးစွာ လက်ခံ ကြိုဆိုကြ၊ တည်ငြိမ်စွာ နှုတ်ဆက် ထွက်ခွာကြတာတွေသည် တိုင်းပြည်၏ နိုင်ငံရေး ယဉ်ကျေးမှု မြင့်မားပုံကို ပြသည့် ဂုဏ်ယူစရာ လက္ခဏာတစ်ရပ် ဖြစ်သည်။

**ဒီမိုကရေစီ နိုင်ငံရေးသမား**

ရွေးကောက်ပွဲနည်းလမ်းဖြင့် အာဏာရရှိသည့် ဒီမိုကရေစီ နိုင်ငံရေးသမား ကောင်းတစ်ယောက် ဖြစ်ဖို့သည်လည်း လွယ်ကူသည်တော့ မဟုတ်။

လူထုထောက်ခံမှုကို ခဏတစ်ဖြုတ် လှည့်ဖြားမှုနှင့် မရနိုင်။ လူထုကြားမှာနေ လူထုအတွက်လုပ် လူထုအရေးကိစ္စ မှန်သမျှမှာ သူ့ကို ရှေ့တန်းက မြင်နေရမှ လူထုက ဒါတို့လူပဲဟု အသိအမှတ် ပြုမည်။

တို့လူဆိုသည့်တိုင် ခေါင်းဆောင် တင်လောက်သူလား၊ သာမန်အဆင့်လား စဉ်းစားလိမ့်ဦးမည်။ လူထုကြားထဲက ပြဿနာတွေ အခက်အခဲတွေ ဖြစ်ပြင်ပြောင်းလဲစရာတွေကို သူများထက် စူးစူးရှရှ မြင်တတ်၊ တွေ့တတ်၊ ဒါ ဘာဝပဲ ပီပီသသ ရှုပ်လုံးဖော်တတ်၊ တင်ပြပြောဆိုတတ်၊ အများပါဝင်လာအောင် စည်းရုံးဆော်သြကာ ဦးစီးဆောင်ရွက်တတ်မှ၊ သည်လူကတော့ အရည်အချင်းရှိသူပဲ ခေါင်းဆောင် တင်မြှောက်လောက်သူပဲဟု ယုံကြည်လာမည်။

တချို့က ခေါင်းဆောင်မှုသည် နဂိုပါ ဟုဆိုသည်။ စင်စစ် ဦးဆောင်ချင်သည့် စိတ်သာ နဂိုပါဖြစ်၍ အရည်အသွေးများကား နိုင်ငံရေးနယ်ပယ်အတွင်းမှာ လေ့ကျင့် ပျိုးထောင်ရင်းသာ ရရှိစမြဲ ဖြစ်သည်။

ဥပမာ မိမိအယူအဆကို အများသဘောပေါက်အောင် ရှင်းလင်း ပြောဆိုသော အလုပ်။

ဒါသည်ပင် မလွယ်ပါ။ ဂရုစိုက် လေ့ကျင့်ရင်းသာ တဖြည်းဖြည်း ကျွမ်းကျင် လာနိုင်သည်။

အထက်က အရည်အချင်းနှင့် ဆက်စပ်ကာ လူတစ်ဖက်သားကို ကိုယ့်ဘက် ပါလာအောင် စည်းရုံးတတ်မှု စွမ်းရည်။

ဒါလည်း အပြောအဆိုရော၊ မိမိ၏ လူမှုဆက်ဆံရေး ဓလေ့စရိုက်များပါ ထိန်းကျောင်းပြုပြင်ယူမှ ရနိုင်သည်။

ပြီးလျှင် နောက်ထပ် အရေးကြီးသော စွမ်းရည်တစ်ခုက အင်တိုက်အားတိုက် အလုပ်လုပ်နိုင်ခြင်း ဖြစ်သည်။

ဟိုတုန်းကတော့ အောင်မြင်သော နိုင်ငံရေးသမားများနှင့် ပတ်သက်၍ ဝင်ကို ဆွဲဆောင်အား (magnetism) ဆိုသော စကားမျိုး သုံးလေ့ရှိသည်။ တချို့ခေါင်းဆောင်တွေမှာ လူလူချင်း ဆွဲဆောင်နိုင်သည့် သံလိုက်ဓာတ်အား ရှိသည်၊ သူတို့ကို မြင်လျှင် သူတို့အသံ ကြားလျှင် သူတို့ဘက် ပါသွားတတ်သည် ဟုဆိုခြင်း ဖြစ်သည်။

သို့သော် သံလိုက်ဓာတ်ကို အလိုလို မရပါ။ အများပြည်သူ အရေးကိစ္စများတွင် ဦးဆောင်ပါဝင်ရင်း လူထု၏ လေးစားယုံကြည်မှု ရလာသည်နှင့်အမျှ တဖြည်းဖြည်း သံလိုက်ဓာတ်ဝင်သလိုဖြစ်ကာ ဆွဲဆောင် နိုင်စွမ်းရှိလာခြင်း ဖြစ်သည်။

ထို့ကြောင့် နိုင်ငံရေးသမားများသည် လူထုနှင့် မပြတ်ထိတွေ့ ဆက်ဆံနေဖို့ လိုသည်။ လူအများနှင့်သက်ဆိုင်သော ပြဿနာတိုင်းမှာ သူပါဝင်ဖို့ လိုသည်။ သည်အတွက် အားပြည့်အင်ပြည့် အလုပ်မလုပ်နိုင်လျှင် နောက်တန်းသို့ သူရောက်သွားလိမ့်မည်။

## နိုင်ငံရေးဦးနှောက်

နိုင်ငံရေးသမားသည် လူထုကြားမှာ မနားမနေ လှုပ်ရှားနိုင်ရုံနှင့် ကိစ္စမပြီး။ ဦးနှောက်စွမ်းရည်လည်း ရှိဖို့လိုသေးသည်။

နိုင်ငံရေး ဦးနှောက်။

ပြဿနာတို့၏ သော့ချက်ကို ရှုမြင်တတ်သော ဦးနှောက်။

သည်ပြဿနာသည် 'ဘာ'ဖြစ်သည်။ သည်ပြဿနာကို ကိုင်တွယ်ဖြေရှင်းနိုင်ဖို့ ဘာတွေလိုသည်၊ ဘယ်သူတွေ လိုသည်၊ ဘယ်သို့လုပ်ရမည်။ အဲဒါတွေ သိဖို့လိုသည်။

အဲသည်လို သိရန်အတွက် လက်ရှိ နိုင်ငံရေးယန္တရားထဲမှာ ဘာတွေ ဘယ်လောက် လုပ်နိုင်သည်၊ ဘယ်အခြေအနေအရာတွေကို ဘယ်လို တွေ့နိုင်း ရှောင်နိုင်၊ ကျော်လွှားနိုင်သည်၊ ဘယ်အရာတွေက ထိုလို့တို့လို့ မရ၊ ဘယ်တို့ အတွက်ကျတော့ ဘာတွေပါ အစအဆုံး ပြောင်းလဲပြင်ဆင်နိုင်မှ ရမည်၊ သမိုင်း ပကတိအနေအထားတွေကို အရင်ဆုံး နားလည်ထားဖို့ လိုသည်။

သည့်အပြင်၊ အဲသည် ပြဿနာတွေနှင့် စပ်လျဉ်းသည့် အတိတ်ကာလများက အဲသည် ပြဿနာအမျိုးအစားတွေကို ယခင်က ဘယ်ပုဂ္ဂိုလ်တွေ ဘယ်လို ဖြေရှင်း အောင်မြင်ခဲ့ပြီး၊ တချို့လူတွေ ဘယ်ကဲ့သို့ လုပ်ကိုင်သဖြင့် ကျရှုံးခဲ့သည်။

သည့် နိုင်ငံရေး ရာဇဝင်တွေလည်း သိကျွမ်းဖို့လိုသည်။

သည့်အပြင် ပို၍ အဆင့်မြင့်သော နိုင်ငံရေးသမားများမှာ ပြဿနာတစ်ခုချင်းတို့ကို သော့ချက်ရှာ ဖြေရှင်းတတ်သည့် ဉာဏ်အပြင်၊ မိမိ ကိုယ်စားပြုသည့် လူထု အစိတ်အပိုင်း၊ မိမိကိုယ်စားပြုသည့် ရပ်ရွာဒေသတို့သာမက မိမိ တိုင်းပြည်တစ်ရပ်လုံး တိုးတက်ဖို့နှင့် သာယာဝပြောဖို့အတွက် မည်သို့မည်ပုံ ဆောင်ရွက်သင့်သည်ဟူသော နိုင်ငံရေး သဘောတရားအမြင်များလည်း ပြည့်စုံစွာ ရှိဖို့လိုပါသည်။

အများပြည်သူ့ အကျိုးစီးပွားကို အရင်းခံထားကာ ပညာ–သတိ–သတ္တိရှိစွာ လုပ်ရှားဆောင်ရွက်တတ်သည့် နိုင်ငံရေးသမားတွေ များပြားလာမှသာ ဒီမိုကရေစီနိုင်ငံတစ်ခု ဖြစ်ထွန်းလာနိုင်ပါသည်။

# ကုဋေရှစ်ဆယ် သူဋ္ဌေးသားလို မွဲသွားသည့် တိုင်းပြည်

ကုဋေရှစ်ဆယ် သူဋ္ဌေးသား ဘာကြောင့် မွဲသနည်း။

ဘိန်းဖြူစွဲသဖြင့် ရှိသည့်ပစ္စည်း ကုန်သွားတာ မဟုတ်။

လောင်းကစားကြောင့် ဆုံးရှုံးသည်ဟုလည်း စာမှာ မဆို။

ပညာမတတ်၊ ဗဟုသုတမရှိ၊ ကိုယ့်အမွေအနှစ်ပစ္စည်း ဘယ်လောက်ဘယ်ရွေ့ ရှိမှန်းမသိ၊ သိတာလည်း မထိန်းသိမ်းတတ်သဖြင့် လူတကာ လိမ်ညာလှည့်ဖြားတာ ခံရကာ တောင်းစားရသည့် အဆင့်ထိ ရောက်သွားတာဖြစ်သည်။ နောက်တော့ လမ်းဘေးမှာ...

သူနှင့် ဆင်တူယိုးမှား ဒုက္ခရောက်သွားသည့် သူဋ္ဌေးသားသမီးတွေ အနယ်နယ် အရပ်ရပ်မှာ ရှိသည်။

ချမ်းသာတုန်းက အလွန်အမင်း လူမြင်သူမြင် ချမ်းသာခဲ့တော့ ဆင်းရဲမွဲတေသွားသည့်အခါ ဒဏ္ဍာရီပမာ တအံ့တသြ ပြောစရာ ဖြစ်ကြရသူတွေ။

လူတစ်ဦးချင်းတွေသာ အလျှံပယ် ကြွယ်သည့်ဘဝက မွဲတတ်ကြသည် မဟုတ်၊ မထိန်းတတ် မသိမ်းတတ်သည့်အခါ တိုင်းပြည်လိုက် လူမျိုးလိုက်ပင် မွဲသွားနိုင်ပါသည်။

ထင်ရှားသော နမူနာတစ်ခု ပြပါမည်။

## ပစိဖိတ်သမုဒ္ဒရာ အလယ်က သာယာတဲ့ ကျွန်းကလေး

ပစိဖိတ်သမုဒ္ဒရာအလယ်ပိုင်း အီကွေတာမျဉ်းတန်း၏ အောက်ဘက်နားလေး ကပ်လျက်မှာ ကျွန်းကလေး သေးသေး တစ်ခုရှိသည်။ နာအူးရူး (နော်ရူး) (Nauru) လို့ ခေါ်သည်။

ကျွန်းက ခပ်မျောမျော ကျွန်းဝိုင်းကလေး။ ဧရိယာ ၈.၁ စတုရန်းမိုင်လောက်ဝဲ ရှိသည်။ ကန့်လန့်ဖြတ်တိုင်းလျှင် အကျယ်ဆုံး နေရာမှာ ၃ မိုင်လောက်သာ ရှိသည်။

ပစိဖိတ်ကျွန်းစုသားတွေ နှစ်ပေါင်း ထောင်ချီနေလာခဲ့သည့် သည် ကျွန်းကလေးကို တံငါတွေက စတင်ကာ အနောက်ကမ္ဘာက သိသွားကြသည်။ ၁၇၉၈ ခုနှစ်မှာ ရောက်သွားသည့် ဗြိတိသျှ ပေလေါ်ဖမ်းသင်္ဘောတစ်စင်းမှ ဗြိတိသျှ သင်္ဘောကပ္ပတိန်က သည်ကျွန်းကလေးကို ကျွန်းသာယာ (Pleasant Island)

ဟုအမည်ပေးသည်။ နောက်ပိုင်းမှာ သည်ကျွန်းကလေးသည် ပစိဖိတ်ကို ဖြတ်သန်းသည့် ကုန်သင်္ဘော၊ ငါးဖမ်းသင်္ဘောများ အခါအားလျော်စွာ အချိန်ခဝ်ရာ၊ စားနပ်ရိက္ခာ ဝယ်ယူရာ နေရာတစ်ခု ဖြစ်လာသည်။

အဲသည်နောက် ကိုလိုနီနယ်ချဲ့ခေတ်ကြီး ရောက်လာတော့ ကျွန်းသာယာနေအုရူးကို ဂျာမနီက သိမ်းပိုက်သည်။ ပထမကမ္ဘာစစ်ဖြစ်တော့ ဩစတြေးလျ တပ်တွေအောက် ရောက်ကာ နိုင်ငံပေါင်းချုပ် အသင်းကြီး၏ အပ်နှံချက်အရ ဩစတြေးလျ၊ ဗြိတိန်နှင့် နယူးဇီလန်တို့ စီမံထိန်းချုပ်ခွင့် ရသည်။ ဒုတိယ ကမ္ဘာစစ်မှာ ဂျပန်တွေ သိမ်းပိုက်ပြီး စစ်အပြီးမှာ ကုလသမဂ္ဂ အစီအစဉ်ဖြင့် အထက်က သုံးနိုင်ငံ၏ အုပ်ချုပ်မှုအောက် ပြန်ရောက်သည်။

၁၉၆၈ ခုနှစ်တွင် လွတ်လပ်သော နိုင်ငံတစ်ခု ဖြစ်လာသည်။

ကမ္ဘာ့အသေးဆုံး နိုင်ငံတစ်ခုဖြစ်သည့် နာအူးရူးမှာ ၂၀၁၀ ခုနှစ် စာရင်းအရ လူဦးရေ ၁၀,၀၀၀ နီးပါး ရှိသည်။

အဲဒါ သည်ကျွန်းနိုင်ငံလေးအကြောင်း အကြမ်းဖျင်း မိတ်ဆက် ဆိုပါရို့။

အဲ၊ သူချမ်းသာခဲ့ပုံက ...၊

## ပစိဖိတ်ငှက်တွေ တည်ဆောက်ခဲ့သည့် ရတနာမြေ

မူလကတော့ သူတို့မှာလည်း ဘာမှရှိသည် မဟုတ်ပေ။

သူတို့ကျွန်းက ပတ်ပတ်လည်မှာ သန္တာကျောက်တန်း၊ အဲသည်နောက် ကမ်းခြေ သဲသောင်ပြင်၊ ပြီးလျှင် အမိကအားဖြင့် အုန်းပင်များနှင့် အခြား အပင်အချို့ ပေါက်ရောက်ပြီး လူနေထိုင်၍ ကောင်းသည့် ကမ်းမြောင်ဒေသက အချို့နေရာတွင် ပေ ၅၀၀ လောက် ကျယ်ပြီး အကျယ်ဆုံးနေရာတွင် ပေ ၁၀၀၀ လောက် ရှိသည်။ ထို့နောက် ကျွန်းအတွင်းပိုင်းတွင် ရေချိုအိုင် တစ်ခုနှင့် ၎င်းပတ်လည်တွင် သစ်သီးဝလံ စိုက်ပျိုးနိုင်သော နေရာနည်းနည်း ရှိသည်။

ဒါကလွဲလျှင် ကျွန်းအလယ်ပိုင်းတစ်ခုလုံးသည် မာကျောသော မြေစိုင်မြေခဲ ကျောက်သားကျောက်ခဲတွေ ဖုံးလွှမ်းနေသည့် သုံးစွဲမရသော နေရာဖြစ်သည်။

အဲသည်တော့ သည်ကျွန်းကလေးမှာ ငါးဖမ်းစား၊ ငှက်ပစ်စား၊ အုန်းသီးခူး စားပြီး နေခဲ့ကြရသော သဘော ရှိသည်။

သည်နေရာမှာ ရတနာကို စတွေ့သူက ကျွန်းသားများ မဟုတ်။ ပစိဖိတ် ကျွန်းစုများ ကုမ္ပဏီ ဟုခေါ်သည့် တိုင်းတစ်ပါး လုပ်ငန်းတစ်ခုမှ သင်္ဘော

အရာရှိတစ်ယောက် ဖြစ်သည်။ သူက ကျွန်းလယ်ရှိ ကျောက်ကုန်း ခေါင်ခေါင်မှာ ဆွေ့ရသည့် ထူးဆန်းသော ကျောက်ခဲတစ်ခုကို ယူလာခဲ့သည်။ သူက ဒါသည် သစ်ပင်ကျောက်ဖြစ်ရုပ်ကြွင်းတစ်ခု၏ အဖွဲ့အစတစ်ခုဖြစ်လိမ့်မည်ဟု ယူဆပြီး သည်ဟာကို ဖွဲ့ရွဲ့အချောကိုင်ကာ ကလေးတွေအတွက် အမှတ်တရ ဂေါ်လီလုံး လုပ်ပေးဖို့ ရည်ရွယ်ခဲ့သည်။

သို့သော်၊ ဒါကို သူတို့ ကုမ္ပဏီမှ သိပ္ပံသမား အရာရှိတစ်ယောက်က တွေ့သွားပြီး သူ့ထံမှ တောင်းယူကာ ခွာတ်ခွဲကြည့်သည်။ သည်တွင် အရည်အသွေး အမြင့်မားဆုံး ဖော့စဖိတ် အရိုင်းတုံးတစ်ခုဖြစ်ကြောင်း တွေ့ရှိကာ သည်တွေ့ရှိချက်နှင့်အတူ နာအူးရူး၏ ကံကြမ္မာလည်း ပြောင်းလဲသွားခဲ့သည်။

ပညာရှင်တွေ ကုမ္ပဏီသူဌေးတွေ ကျွန်းဆီသို့ လေ့လာစုံစမ်းရေး ခရီး ထွက်ကြပြီးနောက်တွင် ကျွန်းမျက်နှာပြင် ဧရိယာ၏ ၈၀ ရာခိုင်နှုန်းမျှရှိသော အလယ်ပိုင်းတစ်ခွင်လုံးသည် နှစ်ပဋ္ဌိဿ ရှည်ကြာသော ကာလအတွင်း ငှက်များလှစွာသော ပင်လယ်ငှက်တို့ စွန့်ပစ်သည့် ချေးများ စုပုံ၍ ဖြစ်ပေါ်လာသည့် ဖော့စဖိတ် အစိုင်အခဲများ ထူထပ်စွာ ဖုံးလွှမ်းနေတာ ဖြစ်သည်ဟု တွေ့ရှိသွားခဲ့သည်။

သည်ဖော့စဖိတ်များသည် မြေဩဇာအဖြစ် အလွန် တန်ဖိုးရှိသလို၊ ယမ်းမှုန့်လုပ်ရာ၌လည်း အသုံးဝင်သည်။ ထို့ကြောင့် ဈေးအလွန်ကောင်းသည်။

တိုတိုပြောရသော် စစ်ကာလများအတွင်း အခိုက်အတန့် ရပ်နားသည်က လွှဲ၍ ၁၉၀၆ ခုနှစ်မှ စတင်ကာ နိုင်ငံခြားသား ကုမ္ပဏီ လုပ်ငန်းရှင်များက နာအူးရူး ကျွန်းလယ်ရှိ ဖော့စဖိတ် ရတနာမြေကို နှစ်ပေါင်း ၆၀ ကျော်မျှ တူးဖော်ယူငင်ကာ အကျိုးစီးပွား ကြီးမားစွာ ခံစားခဲ့ကြသည်။

သို့သော် သူတို့ စားရုံမျှနှင့် ဖော့စဖိတ်တွေ ကုန်မသွားခဲ့။

## နာအူးရူးကျွန်းသားတွေ အလျှံပယ် ကြွယ်ဝခဲ့သည့် ကာလ

၁၉၆၈ ခုနှစ်တွင် လွတ်လပ်ရေးရသည့်အခါ ဖော့စဖိတ်ကုမ္ပဏီသည် နာအူးရူးသားတွေ လက်ထဲရောက်လာကာ သည်လုပ်ငန်းက အကျိုးအမြတ် တွေသည်လည်း ကျွန်းသားတွေ ခံစားဖို့ ဖြစ်လာသည်။

စောစောက ကုမ္ပဏီလုပ်သားများ ဘဝဖြင့် ဆင်းဆင်းရဲရဲ နေခဲ့သော နာအူးရူးသားတွေသည် နေ့ချင်းညချင်း ပိုင်ရှင်သူဌေးတွေ ဖြစ်လာကာ အလျှံပယ် ကြွယ်ဝသော ဘဝကို ပြည့်ပြည့်ဝဝ ခံစားကြသည်။

လူတိုင်း အိမ်သစ်ရာသစ်နှင့်၊ ရေ မီး အပြည့်အစုံနှင့်၊ တယ်လီဖုန်းနှင့် ခေတ်မီ အိမ်သုံးပစ္စည်းမျိုးစုံနှင့်၊ အခမဲ့ ပညာသင်ကြားခွင့်၊ အခမဲ့ ဆေးဝါး ကုသခွင့်နှင့်။ ...

စီမံခန့်ခွဲခွင့် ရသူတွေက သူတို့ကိုယ်တိုင် ခံစားသလို တစ်ကျွန်းလုံးလည်း ခံစားခွင့်ရအောင် အခွင့်အရေးမျိုးစုံတွေ စီမံဖန်တီး ပေးခဲ့ကြသည်။

ဒါကြောင့် ကျွန်းသားတွေ ကားစီးချင်သည် ဆိုတော့လည်း အိမ်တိုင်းမှာ ကိုယ်ပိုင်ကား တစ်စီး နှစ်စီး စီနှင့်။

ခပ်ဝေးဝေး မောင်းစရာ ကားလမ်းကလည်း ကျွန်းပတ်လမ်းတစ်ခုလောက်သာ ရှိတော့ သည်လမ်းမှာပဲ မောင်းချင်သလောက် မောင်း၊ ရပ်ချင်သည့် နေရာ ရပ်ထားခဲ့။

ပညာရေးကိစ္စ အားပေးလိုက်ပုံက ကျွန်းသားကလေးတွေ ပညာသင်ချင်လျှင် ကျွန်းက စာသင်ကျောင်းများနှင့် တစ်ခုတည်းသော တက္ကသိုလ်မှာသာ အခမဲ့ မဟုတ်၊ သြစတြေးလျနှင့် နယူးဇီလန်မှာ ကျောင်းသွားတက်ချင်သည် ဆိုလျှင်လည်း တစ်ယောက်စီအတွက် နှစ်စဉ် ဒေါ်လာ သောင်းချီ အကုန်ခံကာ ပို့ပေးသေးသည်။ ကျွန်းအစိုးရက အားပေးသော်လည်း နာအူးရူးသား ပညာတော်သင် ကလေးတွေ ထူးချွန်မလာ။

ကျန်းမာရေးမှာ အထောက်အကူ ပေးပုံကလည်း အစွမ်းကုန်ပင်။

ကျွန်းပေါ်မှာ ဆေးရုံနှစ်ရုံ ရှိသည်။ သို့သော် ကျွန်းဆေးရုံမှာ ပြရုံနှင့်မပြီး နိုင်ငံခြား အထူးကုနှင့်မှ ရမည်ဆိုလျှင် သြစတြေးလျသို့ ပို့ပြီး ကုပေးသည်။

စင်စစ် သြစတြေးလျ ဆိုတာကလည်း နီးသည် မဟုတ်၊ မိုင်ပေါင်းထောင်ချီ ခရီး ဖြစ်သည်။

အဲသည်ခရီးကို နာအူးရူးသားတွေ လမ်းထိပ်က ကုန်စုံဆိုင်ကို သွားသလို ဥဒဟို သွားနိုင်ရန်အတွက် နာအူးရူး လေကြောင်းဆိုတာ အစိုးရက ဖွင့်လှစ် ပေးသည်။ ဘိုးအင်း ဂျက်လေယာဉ်ကြီး ငါးစီးနှင့် သွားကြ ပြန်ကြ၊ ဈေးဝယ်ကြ။

တတ်နိုင်သည်ဆိုတော့လည်း အစားအသောက် အနေအထိုင်တွေပါ အားလုံး ပြောင်းသွားသည်။ နာအူးရူးသားတွေ ကျွန်းနားက ငါးကို အကောင်လိုက် ဖမ်းမစား၊ သြစတြေးလျက ငါးအသားလွှာတွေ ဝယ်စားကြသည်။ ဒါကလည်း သူတို့နားက ငါးတွေပါပဲ။

အဲသည်နောက်တော့ ကမ္ဘာအရပ်ရပ်က ထောပတ်ဒိန်ခဲ၊ ချောကလက် အရက် ဘီယာတွေ စားသုံးကြ။ ပြီးတော့ ကျွန်းမှာ မမြင်နိုင် မတွေ့နိုင် မရှိနိုင်

မသိနိုင်တာတွေ တွေ့ထိခံစားဖို့ အတွက် ကမ္ဘာအရပ်ရပ်ကို သွားကြ လာကြသည်ပတ်ကြ။

နုိကိုက လူနည်းရသည့်အထဲ အဲသည်လောက် သွားလာ လည်ပတ်နေကြတော့ ဘယ်သူတွေ အလုပ် လုပ်ကြမည်လဲ။

အဲဒါ ပူစရာမလို။ နာအူးရူးသားတွေ အဲသည်လို ခေတ်ကောင်းစဉ်အခါက သူတို့ကျွန်းမှာ ဖော့စဖိတ် စက်ရုံအလုပ်နှင့် အခြားအထွေထွေ အရပ်ရပ် အလုပ်များ လုပ်ကိုင်ရန်အတွက် တိုင်းတစ်ပါးသား အဆင့်မြင့် အဆင့်နိမ့် လုပ်သား ၃၀၀၀ မျှ ခေါ်ယူခိုင်းစေထားခဲ့သည်။

သို့သော် သူတို့ ကိုယ်တိုင်လည်း ရာထူးကိုယ်စီတော့ ယူထားကြသည်။ ဒါမှလည်း လခနှင့် အခြားခံစားခွင့်တွေ စနစ်တကျ ဝေငှလို့ရမည် မဟုတ်လား။ အလုပ်ကတော့ ဘယ်မှာ လုပ်စရာ လိုမည်လဲ။

## အိပ်မက်က လန့်နိုးကြသည့်အချိန်

လွတ်လပ်ရေးရပြီး နှစ် ၂၀ လောက်ကာလ ဖြစ်သည့် ၁၉၇၀ စုနှစ်နှင့် ၁၉၈၀ စုနှစ်များ အတွင်း နာအူးရူးသည် နိုင်ငံအလိုက် တစ်ဦးချင်း ပျမ်းမျှ ပြည်တွင်းထုတ်ကုန် ပမာဏ (ဂျီဒီပီ)တွင် ကမ္ဘာ့အဆင့် ၂ ရှိသည်အထိ အထွတ်အထိပ်သို့ ရောက်ခဲ့သည်။

သည်ကာလမှာ အလျှံပယ် သုံးစွဲနေခဲ့ကြတာ မှန်သော်လည်း တစ်နေ့သော အခါ ကျွန်းပေါ်က ဖော့စဖိတ်တွေ ကုန်သွားလိမ့်မည်၊ အဲသည်ခါ ဆက်ပြီး ချမ်းချမ်းသာသာ နေနိုင်ဖို့အတွက် အရင်းအနှီး စုဆောင်းကာ၊ အဲသည်အရင်းအနှီး များမှ အကျိုးအမြတ် တွေရနေအောင် လုပ်ထားဖို့ လိုသည်ဆိုတာလောက်တော့ သူတို့လည်း သိခဲ့ကြသည်။

သို့သော် သိသည်ဆိုတာ အတိုင်းအတာ အမျိုးမျိုး ရှိသည်။

သူတို့နှင့် ကုဋေရှစ်ဆယ်သူဌေးသား တူသွားတာ အဲသည်နေရာမှာ ဖြစ်သည်။

ကြုံဖူး ကြားဖူး ကြပါလိမ့်မည်။ တချို့လူက ကိုယ်တိုင် တစ်ပြားတစ်ချပ် မရှိ၊ သို့သော် သူ့ထက် အများကြီး ရှိသူကို အကြံပေး ဉာဏ်ပေး လုပ်တတ်သည်။ ဘယ်ဟာကို ဘယ်လို လုပ်လိုက်လျှင် ဘယ်လောက် အကျိုးအမြတ် ရရှိသွားမည်။ ငါက လက်ထဲမရှိလို့ ကြည့်နေရတာ၊ မင်း လုပ်လိုက်ပါလား၊ မင်း ငါ့ဆီက တွေ့ သည်အတိုင်း သိမ်းထားရင် မှိုတက်သွားမယ်၊ ပရုတ်လုံးလို လုံးပါး ပါးသွားမည်။

ကြာလေ တန်ဖိုးလျော့လေ။ အဲဒီတော့ ထုတ်သုံး၊ ထုတ်ပြီး ရင်းနှီး၊ အဲဒီက အကျိုးအမြတ်ကို စား၊ အဲသလို စည်းရုံးတတ်သည်။

တုရှေ့ရှစ်ဆယ် သူဌေးသား မွဲသွားတာ အဲဒါကြောင့် ဖြစ်သည်။ ဘာမှ မလုပ်ဘဲ ထိုင်စားလျှင် ကုန်မှာ မဟုတ်။ နားမလည်ဘဲ ရင်းနှီးမြှုပ်နှံတာတွေ လုပ်တော့ လူလိမ် ခံရသည်။ အနည်းဆုံးတော့ သူများ ဖြတ်စား လျှပ်စား လုပ်ရင်း ကုန်ရသည်။

နာအူးရူးသားတွေ ထိုနည်းငင်း ခံရသည်။

အစိုးရက နှစ်စဉ် ဖော့စဖိတ် ရောင်းရ ငွေထဲမှ သတ်မှတ် ရာခိုင်နှုန်းတစ်ခု ဖဲ့ယူကာ အနာဂတ်အတွက် ရန်ပုံတွေတစ်ခု ထူထောင်ခဲ့သည်။ အဲသည် ရန်ပုံငွေဖြင့် ကုမ္ပဏီကြီးတစ်ခု ဖွဲ့ကာ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းများ လုပ်ကိုင်စေခဲ့သည်။ ကုမ္ပဏီ အရာရှိတွေက သြစတြေးလျသာမက အမေရိကအထိ ဖြန့်ကြက်ကာ မြေယာတွေ အဆောက်အအုံကြီးတွေ ဝယ်ကြသည်။ လုပ်ငန်းကြီးတွေထဲမှာလည်း ရင်းနှီးမြှုပ်နှံသည်။ သို့သော် တာဝန်ယူ လုပ်ကိုင်သူတွေက ကျွန်းသား မလည်မဝယ်တွေနှင့် နိုင်ငံတကာ လူလည်တွေ။

စာရင်းချုပ်သည့်အခါ ၁၉၉၀ လောက်က အမေရိကန် ဒေါ်လာ သန်း ၁၂၀၀ လောက် ရှိသော ရန်ပုံငွေသည် နောက် ၁၀ နှစ်ခန့်ကြာသည့်အခါ ရင်း၏ ၁၀ ပုံ ၁ ပုံမျှ လောက်သာ ကျန်တော့သည်။ မူလက စုဆောင်းထားငွေသည် မိသားစုတစ်စုလျှင် ဒေါ်လာ ၂ သန်းဖိုး မျှလောက်ရှိရာ တစ်တိုင်းပြည်လုံး သန်းကြွယ်သူဌေးချည်း ဟုဆိုရမည့် အနေအထား ဖြစ်သည်။ အတိုးကလေးနှင့် ထိုင်စားလျှင် အခြေအနေ ပျက်လိမ့်မည် မဟုတ်။

## နာအူးရူး၏ နေဝင်ချိန်

ယခုတော့၊

နာအူးရူးမှာ ကျွန်းလယ်ရှိ ရတနာမြေတစ်ခုလုံးသည် ဖော့စဖိတ်တွေ တူးယူပြီး၍ ကျင်းတွေ ချိုင့်တွေ ကျောက်စိုင် ကျောက်ငုတ်ကြီးတွေနှင့် ရပ်ပျက်ဆင်းပျက် ဖြစ်ကျန်ရစ်သည်။ ကမ်းခြေများမှ သယ်ယူပို့ဆောင်ရင်း ဖော့စဖိတ်မြေတွေ ရေထဲ ကျသဖြင့် ကမ်းခြေ ရေတိမ်ပိုင်းမှာ ငါးနှင့် အခြား ရေသတ္တဝါတွေ အမြောက်အမြား သေကျေ ပျက်စီးခဲ့ရသည်။

အစိုးရမှာ ဝင်ငွေမရှိသဖြင့် လခတွေ အလကား ပေးမထားနိုင်ရာ အလုပ်လက်မဲ့ ဦးရေ ၉၀ ရာခိုင်နှုန်းလောက်အထိ ရှိလာသည် ဟုဆိုသည်။

နာအူးရူး လေကြောင်းလိုင်းသည်လည်း အရှုံးပေါ်သဖြင့် ရပ်ထားလိုက်ရရာ ဆယ်နှစ်နီးပါး ပုံမှန်လေယာဉ်ခရီးစဉ် မရှိ ဖြစ်သွားရသည်။ နောက်တော့ တရုတ် (တိုင်ပေ) အကူအညီဖြင့် လေယာဉ်ပြန်ဆွဲနိုင်ခဲ့သည်။ ယခင်က ဖောဖောသီသီ ဝယ်ခြမ်းစားသောက်ခဲ့သော နာအူးရူးသားတွေမှာ ယခုအခါ၌ စားနပ်ရိက္ခာသာမက သောက်သုံးရေပါ အခက်အခဲ ရှိလာနေသည်။ သည့်ထက်ပို၍ ခက်သည်က လျှပ်စစ်မာတ်နှင့် ယင်းအတွက် လိုအပ်သည့် လောင်စာဆီ ဖြစ်သည်။

ယခုတော့ ပြဿနာပေါင်းစုံကို ဖြေရှင်းဖို့အတွက် နိုင်ငံတကာက အကူအညီကို လက်ဖြန့်ခံနေရသည်။ ကျွန်းပတ်လည်ရှိ မိမိတို့ပိုင် စီးပွားရေးဇုံထဲမှာ တခြားတိုင်းပြည်တွေ ငါးဖမ်းခွင့်ပေးပြီး အဲသည်က အခွန်အခနှင့် အစိုးရ အသုံးစရိတ်တွေ ပေးနေရသည်။ ဩစတြေးလျသို့ တရားမဝင် ဝင်ရောက်လာသူများအား ယာယီ ထိန်းသိမ်းထားမည့် စခန်းနေရာကို အခကြေးငွေယူပြီး ဖွင့်လှစ်ခွင့်ပေးထားရသည်။ နိုင်ငံတကာရေးရာတွင် ရုရှားက ထောက်ပံ့ကြေးပေးလျှင် ရုရှားကို ထောက်ခံလိုက်တာ၊ တရုတ်က အကူအညီပေးသဖြင့် တရုတ်ဘက်က ရပ်လိုက်တာ၊ ငွေကြေး ခဝါချမည့် နိုင်ငံခြားသားတွေကို အခကြေး ငွေယူပြီး တိုင်းပြည်ထဲ ဝင်ခွင့်ပေးတာ စသဖြင့် ငွေအတွက် ကိုယ့်ကိုယ်ကိုယ် ရောင်းစားသည့် အလုပ်မျိုးတွေလည်း လုပ်ခဲ့ရသည်။

သည်ကြားထဲ ကျွန်းသားတွေ ခံစားနေရသည့် ဒုက္ခတစ်ခု ရှိသေးသည်။ အဲဒါက ကျွန်းသား ၁၀၀ မှာ ၉၀ လောက် အဝလွန်နေခြင်း ဖြစ်သည်။ လုပ်ရှားမှု နည်းပြီး အစားများ အသောက်များသောကြောင့် ဖြစ်သည်ဟု ဆိုသည်။ အဝလွန်ခြင်းနှင့် ဆက်စပ်ကာ ဆီးချို၊ ကျောက်ကပ်၊ သွေးတိုးနှင့် နှလုံးရောဂါ ဖြစ်ပွားသူတွေလည်း အလွန်များသည်။ လူဦးရေ၏ ၄၀ ရာခိုင်နှုန်းခန့် ဆီးချိုရောဂါ စွဲကပ်နေ၍ ကမ္ဘာပေါ်တွင် ဆီးချိုရောဂါ ဖြစ်ပွားနှုန်း အမြင့်မားဆုံး တိုင်းပြည်အဖြစ် စာရင်း ပေါက်နေသည်။ သည်ရောဂါတွေနှင့် အတူ သက်တမ်းတွေလည်း တိုလာနေသည်။

အဲသည်တော့ နာအူးရူးသားတွေမှာ တိုင်းပြည်ရော လူမျိုးပါ အရွှန်းရှင် တည်တံ့ဖို့ဆိုလျှင် ကောင်းစားစဉ်ကာလက ပျက်ခဲ့သည့် အလေ့အထ အနေအထိုင်တွေ အားလုံး ပြန်ပြင်ဖို့ လိုနေသည်။ သို့မဟုတ်လျှင်တော့ ကုဋေရှစ်ဆယ် သူဌေးသားလို ဇာတ်သိမ်းမလှ ဖြစ်ရဖို့ များနေသည်။

# ကိုယ့်ကိုယ်ကိုယ်သာ သနားပါ မျှားသတ္တဝါ

ဘူမှာတစ်လွှားမှာ ဖြစ်ပျက်နေတာတွေကလည်း ကသောင်းကနင်း ပရမ်းပတာ ရှင်အောစရာတွေချည်း ဖြစ်သည်။

အရှေ့ဖျားမှာ တိုက်တော့မလို။ အရှေ့အလယ်ပိုင်းကလည်း ဘယ်နေ့မှန်းသာ မသိ စစ်က မဖြစ်မနေ ထတိုက်ကြမည့် ပုံမျိုး။ စစ်ကြီးမတိုက်နိုင်သေးသူကလည်း ဟိုနားမှာ ဗုံးခွဲ၊ သည်နားမှာ အသေခံ။ ဟိုတစ်ယောက်နှင့် ရန်စောင်နေသူကို သည်လူက တုတ်တွေ ဓားတွေ သွားရောင်းနေပြန်ပြီ။ နောက်တစ်ယောက် ကလည်း ကျုပ်မှာ ဒါကြီးတွေရှိတယ် ဆိုပြီး လက်နက်ပုန်းတွေ ထုတ်ပြ၊...

'ကမ္ဘာကတော့ သွားမှာပါကွာ' လို့ ကမ္ဘာ့သတင်းတွေ ဖတ်ရင်းမှတ်ချက် ချတော့ မိန်းမထံကထောက်ခံသံ ထွက်မလာ။ 'ကမ္ဘာ့အရေး တွေးပူမနေနဲ့၊ ကိုယ့်ကိစ္စပဲ ကိုယ်စဉ်းစား' တဲ့။ ထုံးစံအတိုင်း ဆိုသည်။

ရုတ်တရက် ဘာပြန်ပြောရမှန်း မသိ။

တစ်ခုခုရမ်းပြောမိလျှင်လည်း တော်ကြာကျတော့၊ 'တစ်အလီ နှစ်အလီ တွေချည်း ကျက်နေတယ်၊ ခက်တဲ့ပုစ္ဆာကျ ဘေးဖယ်ထားတယ်' ဟု ဝေဖန်တာ ခံရနိုင်သည်။

ခဏနေတော့ မိန်းမစိတ်ဝင်စားနိုင်တာ တစ်ခု သွားတွေ့သည်။ 'ချီလီက သတ္တုတွင်းတူးသမားတွေ တွင်းထဲ ပေ ၂၀၀၀ ကျော် အနက်မှာ ပိတ်မိနေတာ ၁၇ ရက်ရှိပြီတဲ့၊ အခု အဆက်အသွယ်ရတော့ သူတို့အတွက် သွားပွတ်တံတွေ ချပေးပါလို့ မှာသတဲ့' ဆိုတော့ မိန်းမက၊

'သူတို့မှာ စားစရာတော့ အလုံအလောက် ရှိတယ်ပေါ့'

'ဘယ်ရှိမလဲ၊ နှစ်ရက်စာ အရေးပေါ် ရိက္ခာကို တစ်ရက် တစ်ဇွန်းစီ နှစ်ဇွန်းစီ ခွဲတာပြီး စားနေရတယ်လို့ ပြောတယ်'

'အဲဒီကြားထဲက သွားပွတ်တံ တောင်းတယ်ဆိုတော့ စိတ်တွေ ဘာတွေ တစ်မျိုးတစ်မည် ဖြစ်သွားကြလို့လား'

'ဟိုး မြေအောက်ထဲက နေရာကျဉ်းကျဉ်းလေးတစ်ခုထဲမှာ လူ ၃၀ ကျော် နှစ်ပတ်ကျော် ပိတ်မိနေတယ်ဆိုတော့ တစ်ယောက်တလေလည်း နည်းနည်းပါးပါး မူမမှန်တာမျိုး ဖြစ်ချင်ဖြစ်သွားနိုင်တယ်၊ ဒါပေမဲ့ လူတွေ တိုးဝှေ့နေရလို့ ခံတွင်း သန့်ရှင်းရေးလည်း အရေးကြီးလာသလား မသိဘူး'

'ခံတွင်းအပြင် တခြားသန့်ရှင်းရေးလည်း အရေးကြီးဦးမှာပေါ့၊ အဲဒီအထဲမှာ ကြာရင် အသက်တောင် ရှူလို့ရကြပါ့မလား မသိဘူး'

'အခုတော့ ခြောက်လက်မ ကျယ်တဲ့ တွင်းခေါင်းတစ်ခု သူတို့ဆီအထိ ဖောက်လို့ ရသွားပြီ၊ အဲဒီကတစ်ဆင့် စာနဲ့ ဆက်သွယ်လို့ ရနေတယ်၊ စကားပြောလို့ မရသေးဘူး၊ လောလောဆယ် အောက်ဆီဂျင်တို့ အရေးပေါ် အစားရေစာတို့ ချပေးဖို့ လုပ်နေတယ်၊ ဒီအပေါက်ကလေး ပိတ်မသွားဖို့ကလည်း အရေးကြီးတော့ အတင်အချတွေ အရမ်း လုပ်လို့ မရသေးဘူး'

'လူတွေကိုကော ဘယ်လိုကယ်မှာလဲ'

'အချင်း ၂ ပေလောက်ရှိတဲ့ အပေါက် ဖောက်ရမယ်လို့ ဆိုတယ်၊ အဲဒီအပေါက်ကနေ တစ်ယောက်ချင်း ဆွဲတင်ယူရမှာ'

'နှစ်ပေဆိုတော့ မကျဉ်းဘူးလား၊ တချို့ ဝတဲ့လူတွေဆို ဘယ်လိုလုပ်မလဲ၊ တော်ကြာ လမ်းခုလတ်မှာ တစ်နေရင် ဒုက္ခ'

'ဟုတ်တယ်၊ ဒီအပေါက်နဲ့ မဆံ့တဲ့ လူနှစ်ယောက် ရှိတယ်လို့ ပြောတယ်၊ သူတို့မှာရှိတဲ့ အပေါက်ဖောက်တဲ့ ကိရိယာက ဒီလောက်ပဲ ဖောက်နိုင်လို့လား မသိဘူး'

'အဲဒီလူနှစ်ယောက်ကို ဘယ်လို လုပ်မလဲ'

'အဲဒီလူတွေ ဒီကြားထဲ ပိန်သွားကြလိမ့်မယ်လို့ ဆိုတယ်၊ ရိက္ခာပစ္စည်း ရပြီ ဆိုရင်လည်း သူတို့က သူများထက် လျှော့စားကြပေါ့'

'ဒီရက်ပိုင်းအတွင်း အဲဒီလောက် ပိန်အောင်ဆိုရင်တော့ လုံးဝ အစာငတ် ခံနေကြမှရမယ်'

'ရက်ပိုင်းအတွင်းတော့ သူတို့ကို ကယ်နိုင်ဦးမှာ မဟုတ်ဘူး၊ အဲဒီ အပေါက်က သုံးလေးလလောက် ဖောက်ယူရမယ်လို့ ပြောတယ်'

'ဟယ်၊ သုံးလေးလတောင်မှဆိုတော့ ဒုက္ခပဲ၊ ဒီကြားထဲ ငလျင်တို့ ဘာတို့ကြောင့် ဒီအပေါက်တွေ ပြိုသွားပိတ်သွားရင် လမ်းစပျောက်ပြီပဲ၊ သုံးလေးလလုံး ဘုရားတနေရမှာ'

'ဟုတ်တယ်၊ တွေးရဲစရာတောင် မရှိဘူး၊ တွင်းထဲက လူတွေရော အပြင်က မိသားစုတွေပါ လန့်ချိပြီး ဘယ်လို ဖြတ်သန်းကြမလဲ၊ တချို့လူတွေ ဒါတွေ တွေးတွေးပြီး နှလုံးရောဂါနဲ့တောင် သေသွားနိုင်တယ်'

'အင်း တော်ပါပြီ၊ ကိုယ့်ကိစ္စနဲ့ကိုယ် မောရတဲ့အထဲ ကမ္ဘာ့ဒုက္ခတွေ ကြားရတာ စိတ်မသက်သာစရာ၊ တော်ပြီ၊ အဲဒါတွေ ပြောမနေနဲ့တော့'

သို့သော်၊ မပြောဘဲနေ၍မရ။ ကမ္ဘာမှာ ပြောစရာကိစ္စတွေ များလွန်းနေသည်။

'မိန်းမရေ လာပါဦးကွ၊ ဟောဒီမှာ၊ တရုတ်ပြည်မှာ လမ်းပိတ်နေလို့ သွားမရတဲ့ ကားတန်းကြီးဟာ မိုင် ၆၀ လောက် ရှည်သတဲ့၊ ပီကင်းကိုသွားတဲ့ ကားလမ်း၊ မြို့ထဲမှာ လမ်းပြင်တာ လမ်းဖောက်တာ မပြီးသေးလို့ မဝင်နိုင်ဖြစ်နေပြီး အတန်းလိုက်ကြီး တောင့်နေတာ၊ ရက်ပေါင်းကို အတော်ကြာပြီ၊ နှစ်ရက်မှာမှ ၁ မိုင်လောက်ပဲ ရွေ့သတဲ့'

'တရုတ်ပြည်မှာ လူတွေက အဆမတန်များ၊ ကားစီးနိုင်လာတော့ နင်းကန်ဝယ်စီး၊ အခုတော့ လမ်းဖောက်တဲ့ လူတွေ မနိုင်တော့ဘူးလား'

'အင်း၊ အဲဒီလို ပြောရတော့မှာပေါ့ကွာ'

'သူတို့ မနိုင်တာထက် အခု ပိတ်မိနေတဲ့ လူတွေ ဘယ်လို လုပ်ကြမလဲ'

'ဓာတ်ပုံတွေထဲမှာတော့ ကုန်ကားသမားတွေ ကားအောက်မှာခင်းပြီး အိပ်နေကြတာတွေ၊ စစ်တုရင်ထိုးနေတာ၊ ဖဲထိုင်ရိုက်နေတာ၊ စားသောက်နေကြတာတွေ တွေ့ရတာပဲ၊ လမ်းတစ်လျှောက် ရွာတွေက လူတွေလာပြီး ရေသန့်ဘူးတို့ ခေါက်ဆွဲခြောက်ထုပ်တို့ ရောင်းကြတယ်လို့ ပြောတာပဲ၊ အရက်တို့ ဘီယာတို့လည်း ပါမှာပေါ့'

'အားအားယားယား သမားတွေအဖို့တော့ အတွေ့အကြုံ အသစ်အဆန်း နေမှာပေါ့၊ တချို့က ပျော်ချင်တောင် ပျော်နေမှာ၊ ဒါပေမဲ့ ဗိုက်ကြီးသည်တွေ၊ နို့စို့ကလေးတွေနဲ့ မအေတွေ ဘယ်လောက် ဒုက္ခရောက်လိုက်မလဲ၊ အဲဒီထဲ မြို့မှာ ဆေးရုံတက်ဖို့၊ ဆရာဝန် ပြဖို့ လာတဲ့လူတွေ၊ လမ်းကျမှ နှလုံးရောဂါတို့ ဘာတို့ တစ်ခုခု ထဖောက်တဲ့ လူတွေကျ ဘယ်လိုလုပ်ကြမလဲ၊ ဟယ်လီကော်ပတာနဲ့ လာကယ်မှာလား'

'ဒါတွေတော့ သတင်းထဲမပါဘူး၊ အဲဒီလို ပြဿနာမျိုးတော့ ကြီးကြီးမားမား မရှိဘူးနဲ့ တူပါတယ်'

'အင်းလေ ဟုတ်ပါတယ်၊ ဒီကိစ္စက ကားလမ်းပေါ်မှာ ဒုက္ခရောက်တာ၊ အလွန်ဆုံး ဆယ့်လေးငါးရက် ငုတ်တုတ်ထိုင်နေရုံလောက်ပဲ၊ ဟိုတွင်းခေါင်းထဲ ရင်တမမ စောင့်ရမယ့် လူတွေနဲ့စာရင် ဘာမှပြောလောက်စရာ မရှိဘူး၊ ပြီးတော့ အဲဒီတရုတ်ပြည်မှာပဲ ကျောက်မီးသွေးတွင်း မီးလောင်လို့၊ ရေကြီးမြေပြိုလို့ ရွှံ့ထဲ အိမ်တွေ လူတွေ မြုပ်ကုန်လို့ ဒုက္ခရောက်ကြတာနဲ့စာရင် ဒါက အသေးအမွှား၊ သတင်းမရှိလို့ သတင်းလုပ်တဲ့ သဘောလောက်နေမှာ။ အဲဒါတွေ ဖတ်ပြီး အကျယ်ချဲ့ စဉ်းစားမနေနဲ့၊ ကိုယ့်ကိစ္စ ကိုယ်ပူဖို့လည်း ထားဦး'

အင်း၊ မိန်းမကတော့ ကိုယ့်ကိစ္စပဲ သတိပေး နှိုးဆော်နေသည်။

ကိုယ့်ကိစ္စ ဆိုသည်ကလည်း အင်း... သို့သော်၊ ပါကစ္စတန်မှာ ရေကြီးပြီး ဒုက္ခရောက်နေသည့် သတင်းလေးတော့ ပြောပြလိုက်ဦးမှ ထင်သည်။ ဒါက တော်ရုံ ရေကြီးတာမျိုး မဟုတ်။ အဲသည်တော့၊

'ကိုယ့်ကိစ္စလည်း ကိုယ့်ကိစ္စပေါ့ကွာ၊ ဒါပေမဲ့ သူများကိစ္စတွေမှာလည်း လူသားချင်း စာနာရတဲ့ အပိုင်းက ရှိသေးတယ် မဟုတ်လား၊ အခု ပါကစ္စတန်မှာ မိုးကြီးရေလျှံတဲ့ ကိစ္စဆိုရင် ဒုက္ခရောက်နေကြတာ ရက်ပေါင်း အတော်ကြာနေပြီ၊ သေတဲ့ ကြေတဲ့ လူက ထောင်ဂဏန်းလောက်ပဲ ရှိတယ် ဆိုပေမယ့် အရေးပေါ် ကယ်ဆယ်ရေး လိုအပ်နေတဲ့လူက သန်းပေါင်း ၂၀ လောက် ရှိတယ်၊ အိမ်တွေယာတွေလည်း သန်းချီပြီး ပျက်စီးတယ်၊ ကမ္ဘာမှာ ဘေးဒုက္ခပေါင်းစုံ လိုက်ကြည့်နေတဲ့ ကုလသမဂ္ဂအတွင်းရေးမှူးချုပ် ဘန်ကီမွန်းကတောင် ပါကစ္စတန် ရေဘေးဒုက္ခကြည့်ပြီး ရင်ကွဲပက်လက် ဖြစ်ရတယ်လို့ ဆိုတယ်၊ ဒါလောက် ကြီးကျယ်တဲ့ သဘာဝဘေးဒုက္ခ သူ တစ်ခါမှ မတွေ့ဖူးဘူးတဲ့'

'အရင်တုန်းက သိန်းချီသေတာတွေ သူ မေ့သွားပြီ ထင်တယ်'

'သူ ပြောတာ အဲဒီသဘောတော့ ဟုတ်ပုံမရဘူး၊ လူအသေအပျောက် မသေပေမယ့် ထိခိုက်ပျက်စီးတဲ့ ဧရိယာ ကြီးမားကျယ်ဝန်းတာကို ဆိုလိုပုံရတယ်၊ တိုင်းပြည်ရဲ့ ၅ ပုံ ၁ ပုံလောက်က ရေအောက် ရောက်သွားတာကိုး၊ တစ်နေရာတည်း ကွက်ပြီး မဟုတ်ဘူး၊ ပါကစ္စတန် တစ်နိုင်ငံလုံး ခြေဆုံးခေါင်းဆုံး ဖြစ်နေတာ၊ ကုန်းတွင်းမှာ ပင်လယ်တွေ ပင်လယ်တွေ ဖြစ်နေတာ၊ အရေးပေါ်အတွက် ဟယ်လီကော်ပတာနဲ့ သွားပြီး ကူရကယ်ရမယ့် လူဦးရေကိုက သိန်းချီနေတာ၊ ဟောဒီမှာ ဓာတ်ပုံတွေ အများကြီးပါတယ်၊ ကြည့်မလား'

'တော်ပါပြီ မကြည့်ချင်ပါဘူး၊ ဒုက္ခရောက်နေတဲ့ လူတွေ၊ ကိုယ်လည်း ဘာမှ ကူညီနိုင်တာ မဟုတ်ဘူး၊ မြင်ရရင် စိတ်မချမ်းသာတာပဲ ရှိမယ်'

'ကမ္ဘာကတော့ ကူညီနေကြတယ်ကွ၊ တိုင်းပြည်တွေရော နိုင်ငံတကာ အဖွဲ့အစည်း ပေါင်းစုံပါ ပါတယ်၊ မကူလို့လည်း မရဘူး၊ ပါကစ္စတန်မှာ နဂိုကတည်းက လူဦးရေရဲ့ ၃ ပုံ ၁ ပုံက ဆင်းရဲသား စာရင်းပေါက်နေတာ၊ အခု ရေဘေးကြီးသင့်လို့ သေသူသေ၊ မသေသူတွေလည်း အိုးပျက်အိမ်ပျက် လယ်ပျက်ယာပျက်ဆိုတော့ နူရာဝဲစွဲ လဲရာ သူခိုးထောင်း ဆိုတဲ့ အနေအထားမျိုး'

'အမယ်၊ သူများကို ပြောနေလိုက်တာ'

'မှန်တယ် ရေတွေ ကျသွားပြီးလို့၊ လတ်တလော အန္တရာယ်တွေ တင်းရှင်း

သွားပြီဆိုရင်တောင် ဒီလူသန်းပေါင်းများစွာရဲ့ ဘဝတွေ နာလံထူဖို့က မဖြစ်နိုင်အဆောတက် ခဲယဉ်းသေးတယ်၊ ဆင်းရဲတွင်း နက်သထက်နက်မယ့် အနေအထားပါ။ အခု အိုင်အမ်အက်ဖ်တို့ ဘာတို့က ရေရှည်အတွက် အလုံးအရင်းနဲ့ ကူညီမယ် ဆိုတော့ ပြောနေကြတယ်၊ ဘယ်လောက်အထိ ထိရောက်မလဲ ဆိုတာတော့ မပြောနိုင်သေးဘူး၊ ဒါပေမဲ့ ဘာပဲပြောပြော ကမ္ဘာမှာ လူသားချင်း စာနာတဲ့စိတ်နဲ့ ဒီကိစ္စမျိုးတွေမှာ ဝင်ရောက်ကူညီတဲ့ အလေ့အထ ထွန်းကားလာတာ ကောင်းတယ်ကွ၊ တို့လည်း တစ်ဦးချင်းတွေရော အဖွဲ့အစည်းတွေရော၊ တိုင်းပြည်လိုက်ပါ ဒီလိုကိစ္စမျိုးတွေမှာ အားတက်သရော ပါဝင်သင့်တယ်'

'ဟုတ်တယ်၊ ပါသင့်ပါတယ်၊ မပါနဲ့လို့ မဆိုဘူး၊ လူသားချင်းစာနာတဲ့ စိတ်လည်းထားပါ၊ မထားနဲ့လို့ မဆိုဘူး၊ ဒုက္ခရောက်နေတဲ့ လူတွေကို မသနားနဲ့လို့လည်း မတားဘူး၊ သနားပါ၊ ဒါပေမဲ့ စာနာသနားပြီး ဘာတွေ ဘယ်လောက်လုပ်ပေးနိုင်လို့လဲ၊ သူများအရပ်က လူသားကို စာနာဖို့အသာထား ကိုယ့်အရပ်က လူသားကို ဘယ်လောက်စာနာပြီး ဘာတွေ လုပ်ပေးနိုင်လို့လဲ၊ သူများ ပြဿနာတွေ လိုက်ဖြေရှင်းပေးဖို့ နေနေသာသာ ကိုယ့်ပြဿနာတောင် ကိုယ်ဘယ်က အစရှာပြီး ဘယ်လို ဖြေရှင်းရမှန်း မသိဘူး မဟုတ်လား၊ ကမ္ဘာတစ်လွှားမှာ ဒုက္ခရောက်သူတွေကို သနားစရာ သနားစရာနဲ့ ကိုယ့်ကိုယ်ကိုယ် သနားဖို့ကျ မေ့နေတာလား၊ မေ့ချင်ယောင် ဆောင်နေတာလား'

ဆက်ပြောနေလျှင် အကျယ်အကျယ် မငြိမ်းဖွယ်ဖြစ်တော့မည်။... အရေးထဲ ကိုယ်သေသေချာချာမရသည့် သီချင်း အပိုင်းအစတစ်ခုက ခေါင်းထဲဝင်လာသည်။ ... ကိုယ့်ကိုယ်ကိုယ်သာ သနားပါ များသတ္တဝါ ... တဲ့။

အင်း၊ ကိုယ့်ကိုယ်ကိုယ် သနားရမည်။

သို့သော်၊ ဘယ်ကစ၍ ဘယ်လို သနားကြမည်လဲ။

# အချိန်လွန်သွားသည့် ရွေးကောက်ပွဲကတိ

ရွေးကောက်ပွဲနီး၍ မဲဆွယ်ကြသည့်အခါ ပရိသတ် စွဲငြိသွားစေမည့် စကားလုံး အသုံးအနှုန်းများဖြင့် ရွေးကောက်ပွဲ ကတိတွေ ပေးတတ်ကြတာ တစ်ကမ္ဘာလုံး ထုံးစံ ဖြစ်သည်။

ပြီးခဲ့သည့် အမေရိကန် သမ္မတ ရွေးကောက်ပွဲတွင် အနိုင်ရခဲ့သူ ဘားရက် အိုဘားမား မဲဆွယ်ကာလတစ်လျှောက် သုံးစွဲသွားသည့် ပရိသတ်ကို ဖမ်းစား သွားသော စကားလုံးက 'Change'.

အပြောင်းအလဲ။

ပရိသတ်က သဘောကျသည်။

လူထုက လက်ရှိ သမ္မတကို မကြိုက်၊ လက်ရှိ အစိုးရကို မကြိုက်၊ လက်ရှိ အနေအထားတွေ မကြိုက်။

သည်အချိန်မှာ အိုဘားမားက အပြောင်းအလဲတွေ လုပ်မည်ဆိုတော့ သဘောကျသည်။

သူ့ဝါဒလမ်းစဉ်က လူအများ မကြိုက်သည့် လက်ရှိအနေအထား ပေါင်းစုံကို ပြောင်းလဲဖို့။ သူ့ကြွေးကြော်သံ သို့မဟုတ် သူ့ရွေးကောက်ပွဲကတိက change.

အဲဒါဖြင့် သူ အနိုင်ရခဲ့သည်။

သို့သော်၊ သူ့လက်ထက်မှာ ဘာတွေ ဘယ်လောက် ပြောင်းလဲသလဲ၊ ပြောင်းလဲသည် ဆိုတာ ပရိသတ်အဖို့မှာတော့ အကောင်းဘက် အပြောင်းအလဲ၊

ဘယ်လောက် အကောင်းဘက် ပြောင်းလဲလာသလဲ။

အဲဒါက အငြင်းပွားစရာ။

မပြောင်းလဲဘူး ထင်သူက အလကားပဲကွ၊ ဘာမှ မပြောင်းဘူးဆု ပြောနိုင်သည်။ ပြောင်းလဲသည် ထင်သူဘက်ကလည်း ဘာတွေ ဘာတွေတော့ ပြောင်းသွားပဲဟု ထောက်ပြနိုင်သည်။

ပြန်စဉ်းစားကြည့်တော့ change ဆိုသော စကားလုံးက တစ်ခုခု တိတိကျကျ ပြောသလိုလိုနှင့် တကယ်တမ်း မတိကျသော စကားလုံး ဖြစ်နေသည်။

ကြွေးကြော်၍ ကောင်းသည်။ သို့သော် ကတိအဖြစ် ချည်နှောင်၍ မရ

နိုင်ငံရေးသမား အများအပြားပင် အဲသည်လို ချည်နှောင်[illegible] ကြားကောင်း ပြောကောင်း အော်ကောင်းသော စကားလုံးများဖြင့် [illegible] စည်းရုံးသွားတတ်ကြသည်။

သို့သော်၊ အခါခပ်သိမ်း အဲသည်အတိုင်း ဖြစ်သည် မဟုတ်။ တစ်ခါတလေ ဒန့်သတ်ကို အပိုင်ချည်ဖို့ ကြိုးစားရင်း ကိုယ့်စကားနှင့်ကိုယ် အနှောင်အတည်း မိသွားတတ်တာမျိုးလည်း ရှိသည်။

အထင်ရှားဆုံး ဥပမာတစ်ခုက ပြီးခဲ့သည့် နှစ်နှစ်လောက်က သက်တမ်းကုန်ဆုံးသွားသည့် အမေရိကန် သမ္မတ ဘွတ်(ရှ)၏ ဖခင် ဂျော့ချ်အိပ်ချ်ဒဗလျူ ဘွတ်(ရှ) (George H.W. Bush)(၄၁ ဆက်မြောက် သမ္မတ) ဖြစ်သည်။

၁၉၈၈ ခုနှစ် သမ္မတ ရွေးကောက်ပွဲအတွက် မဲဆွယ်စည်းရုံးစဉ် သူ သုံးသွားသည့် ထင်ရှားသော စကားတစ်ခွန်းရှိသည်။ သူ့လက်ထက်မှာ အခွန်သစ် တိုးမကောက်ဘူး ဟူသောစကား။

အခွန်တွေတိုးကောက်မှာ သိပ်ကြောက်နေသည့် အမေရိကန်တွေ အဲသည် စကားနှင့်ပင် သူ့ဘက် အများကြီး ပါသွားခဲ့သည်။

သူကလည်း အဲသည်စကားကို မိန့်ခွန်းတွေထဲမှာ ခပ်လုံးလုံးလေးရော ထည့်ပြီး ပြောသွားခဲ့တာ မဟုတ်။ ကျုပ် တိတိကျကျ ကတိပေးတယ်၊ ခင်ဗျားတို့ သေသေချာချာ မှတ်ထားကြဟု ပြောသွားတာမျိုး ဖြစ်သည်။

သူ့စကား မူရင်းက၊

Read my lips : no new taxes တဲ့။

Lips က ဘာသာပြန်ရတာ ထောင့်ပါသည်။ ကျွန်တော့်နှုတ်ခမ်းတွေ ဖတ်ကြည့်ပါ... တဲ့။ ဒါကို မြန်မာလို ဆီလျော်အောင် ပြောကြည့်ရလျှင်၊

'ကျုပ်ပါးစပ်ကို သေသေချာချာ ကြည့်ထားကြ၊ အခွန်အသစ် လုံးဝ မကောက်ဘူး' ဟူ၍ ဖြစ်သည်။

ဘာကြောင့် သူ့ပါးစပ် (နှုတ်ခမ်းတွေ) ကြည့်ခိုင်း (ဖတ်ခိုင်း) သလဲ။

သူ လိမ်တာ ညာတာ မဟုတ်၊ ဖြီးဖြန်းတာ မဟုတ်၊ ခပ်ပေါ့ပေါ့ ပြောတာ မဟုတ်၊ တကယ် အလေးအနက် ပြောနေတာ ဖြစ်သည်။ အဲဒါကို နားထောင်သူကလည်း သာမန်ကာလျှံကာ နားမထောင်နှင့်။ သူ့နှုတ်ခမ်း၊ သူ့ပါးစပ်၊ သူ့မျက်နှာ အမူအရာတွေပါ မျက်စိနှင့် သေသေချာချာ ကြည့်ပြီး နားထောင်ကြပါဟု သူ ဆိုလိုက်ခြင်း ဖြစ်သည်။

သို့သော်၊ ပရိသတ် ယုံကြည်မှု တစိုးတစိမျှ မလွတ်ရအောင် အခိုင်အမာ ချည်သောကြိုးသည် သူကိုယ်တိုင်ကိုပါ ချည်တုပ်မိသွားသည်။

နောင်တစ်နေ့ ကတိမတည်ခဲ့သည်ရှိသော် အဲသည်တုန်းက အဲဒီစကား ပြောခဲ့တာ ဘယ်ပါးစပ်လဲကွဟု ဆဲရေး ဝေဖန်နိုင်အောင် ကိုယ့်ကိုယ်ကိုယ်

သိုးအပ်မိခဲ့သည့်သဘော။

မည်သို့ဖြစ်စေ၊ ထိုစဉ်ကတော့ ဘွတ်(ရှ)၏ စကားက ပရိသတ်အကြားမှာ အကြီးအကျယ် ရေပန်းစားသွားခဲ့သည်။ မဲဆွယ်ကာလတစ်လျှောက် အဲသည် အခွန်မကောက်ဘူး ဆိုသော ကတိကို သူ ထပ်တလဲလဲ ပေးခဲ့သည်။

၁၉၈၈ သမ္မတ ရွေးပွဲတွင် သူ အနိုင်ရရှိရန်အတွက် အဲသည် ရွေးကောက်ပွဲကတိက အများကြီး အထောက်အကူ ပေးခဲ့သည်ဟု ဆိုကြသည်။

သို့သော်၊ သူ့ကတိက ဟိုဘက် သည်ဘက် လိုရာဆွဲ ပြောနိုင်သည့် ကတိမျိုးမဟုတ်။ အခွန်ဆိုတာက ကောက်လျှင် ကောက်၊ မကောက်လျှင် နေ၊ ကောက်သလိုလို မကောက်သလိုလို လုပ်၍ မရ။

သည်ကတိမျိုးမှာ တည်တာနှင့် ပျက်တာ နှစ်ခုပဲ ရှိသည်။

ဘွတ်(ရှ) သမ္မတ ဖြစ်သည့်အခါ အဲသည် ကတိတည်သလား၊ မတည်ဘူးလား။

သူ့သက်တမ်း ပထမနှစ်မှာပင် သည်ကိစ္စကို အကြိတ်အနယ် စဉ်းစားစရာ အကြောင်း ပေါ်လာခဲ့သည်။

အကြောင်းက ယခင်နှစ်များက တောက်လျှောက်တက်ခဲ့သော စီးပွားရေးသည် အဲသည်နှစ်မှာ စ၍ကျခြင်း ဖြစ်သည်။ သည်အခါ အစိုးရ ဘတ်ဂျက်မှာ လိုငွေပြသည်။ သည်ဟာကို ထိန်းချုပ်ဖို့က နည်းလမ်းနှစ်ရပ် ရှိသည်။ အသုံးစရိတ် လျှော့မလား၊ အခွန်တိုး ကောက်မလား။ အခွန်တိုး မကောက်ဖို့က ကတိပေးထားသည်။ အသုံးစရိတ် လျှော့လျှင် ဘာဖြစ်မည်လဲ။ လျှော့ရမှာက ကာကွယ်ရေး အသုံးစရိတ်နှင့် လူမှုဖူလုံရေး ကျန်းမာရေး အသုံးစရိတ်တွေပဲ ရှိသည်။ ကာကွယ်ရေးမှာ လျှော့လျှင် ကမ္ဘာအနှံ့ ဖြန့်ကြက်နေသည့် အမေရိကန်၏ သြဇာကို ထိခိုက်မည်။ လူမှုဖူလုံရေး လျှော့လျှင် မကျေနပ်သည့် ပြည်သူတွေ အများကြီး ရှိသည်။ လွှတ်တော်မှာ အင်အားကောင်းနေသည့် အတိုက်အခံ ဒီမိုကရက်တစ် ပါတီကလည်း အခွန် နည်းနည်း[illegible] တိုးမကောက်ဘဲ စရိတ်တွေချည်း တစ်ဖက်သတ် လျှော့မှာကို လက်[illegible]

အဲသည် ဘေးကျပ်နံကျပ် အနေအထားမှာ ဘာမှ ပြတ်ပြတ်[illegible] မဆုံးဖြတ်ဘဲ ပထမတစ်နှစ် အချိန်ဆွဲ နေလိုက်သည်။

ဒုတိယနှစ်မှာ ဘဏ္ဍာရေး အကျပ်အတည်းက ပိုကြီးမားလာသည်[illegible] လွှတ်တော်ကို ဘတ်ဂျက်တင်သည့်အခါ အသုံးစရိတ်ပိုင်းတွင် သိ[illegible] လျှော့ချပြီး အခွန်သစ်ကောက်ဖို့ လုံးဝ မထည့်သွင်းသေး။

သည်ဘတ်ဂျက်ကို ဒီမိုကရက်တို့က ပယ်ချလိုက်သည်။ ၎င်းတို့နှင့် ညှိနှိုင်းရန် ကြိုးစားသော်လည်း အခွန်နည်းနည်း မတိုးမချင်း ကျန်တာတွေ သူတို့ လက်မခံ။

သို့နှင့် အဲသည်နှစ် အလယ်လောက်မှာ ဘွတ်(ရှ)က ကြေညာချက်တစ်ခု ထုတ်ရသည်။... လိုငွေပြဿနာ ကြီးမားနေသောကြောင့် ဘာတွေ လျှော့မည်၊ ဘာတွေ ဖြတ်မည်၊ ဘာတွေ မလေလွင့်အောင် စနစ်တကျ စီမံခန့်ခွဲမည်၊ ပြီး အခွန်လည်း နည်းနည်းတိုးဖို့ လုပ်ရမည်...။

အဲသည်မှာ ပြဿနာပေါ်သည်။

ပြောတုန်းက ဘယ်လို ပြောထားသလဲ။

သူ့မိန့်ခွန်းက လက်တန်း ပြောခဲ့သည်တော့ မဟုတ်။ နာမည်ရ မိန့်ခွန်းရေးသမားက ရေးပြီး အဖွဲ့က စိစစ်ပြီးမှ ဂျော့ချ် ဘွတ်(ရှ) ပါးစပ်က ပြောခဲ့တာ ဖြစ်သည်။ နည်းနည်း ပိုပြည့်စုံအောင် ဖော်ပြရသော် အပြိုင်မဲဆွယ်စဉ်က အခွန်ကိစ္စနှင့် ပတ်သက်၍ သူ ပြောခဲ့သည်က၊

'ကျွန်တော်က အခွန်တိုးမယ့်လူ မဟုတ်ဘူး၊ တစ်ဘက်က ပုဂ္ဂိုလ်က သူဟာ အခွန်တိုးကောက်ခြင်းကို တတိယနည်းလမ်း သို့မဟုတ် နောက်ဆုံး နည်းလမ်း အဖြစ်သာ အသုံးပြုပါမယ်တဲ့၊ အခု ပြောတယ်။ သို့သော် နိုင်ငံရေး သမားတစ်ယောက် အဲသလို စကားပလ္လင်ခံထားပြီဆိုရင် အဲဒီ နည်းလမ်းကို သူ ရွေးမှာပဲ။ တစ်ဖက်က ကျွန်တော်နဲ့ ဆန့်ကျင်ဘက်ပုဂ္ဂိုလ်က အခွန် တိုးကောက်တဲ့နည်းကို မငြင်းပယ်ဘူး။ ဒါပေမဲ့ ကျွန်တော် ငြင်းတယ်။ လွှတ်တော်က ကျွန်တော့်ကို အခွန်တိုးကောက်ပါ တိုးကောက်ပါ ပြောမယ်၊ ဒါပေမဲ့ ကျွန်တော် ငြင်းမယ်၊ သူတို့က တွန်းမယ်၊ ကျွန်တော်က ငြင်းမယ်၊ အဲဒါမှ မရဘူး ဆက်တွန်းနေမယ်ဆိုရင် ဒီလူတွေကို ကျွန်တော် ပြောမယ်၊ 'ကျုပ် ပါးစပ်ကို သေသေချာချာ ကြည့်ကြ၊ အခွန်အသစ် လုံးဝ မကောက်ဘူး...'။

အတိုက်အခံ အမတ်တွေကို အဲသလို ပြောမည်ဟု သူ ပြောခဲ့ခြင်း ဖြစ်သည်။ သို့သော် အဲသည် စကားသည်ပင် တိုင်းပြည် လူထုကို သူ ပေးသော ကတိ ဖြစ်ခဲ့သည်။

သည်မိန့်ခွန်း မပြောမီကတည်းက ဘွတ်(ရှ)၏ အကြံပေးပုဂ္ဂိုလ်တချို့က မိန့်ခွန်းမူကြမ်းကိုဖတ်ကာ စကားလုံး ပြင်းလွန်းသည်၊ နည်းနည်းလျှော့ပါဟု အကြံပေးကြသည်။ စီးပွားရေး အကြံပေးပုဂ္ဂိုလ်က ဆိုလျှင် ယခုပြဿနာ ဖြစ်မည့် စကားစုသည် အန္တရာယ်ကြီးသည်၊ မိုက်မဲရာကျမည်ဟု မှတ်ချက်

ပေးကာ သူဖတ်သည့် မှုကြမ်းမှ ခြစ်ပစ်ခဲ့သည်။ အဲသည်လို ခြွင်းချက် မရှိသည့် အာမခံစကားမျိုးသည် အစိုးရကို မလှုပ်သာ မလှည့်သာအောင် အချုပ်အနှောင် မိစေလိမ့်မည်ဟု သူဆိုခဲ့သည်။

သို့သော် သူ မအောင်မြင်ခဲ့။ ထို့ကြောင့် မိန့်ခွန်းထဲမှာ ပါသွားခဲ့သည်။

ရဲရဲတင်းတင်းကြီး ပေးခဲ့သည့် ကတိကို ပြောင်ပြောင်တင်းတင်း ချိုးဖောက်သည့်အခါ ပရိသတ်က အသာတကြည် ခွင့်မလွှတ်ပါ။

ဘွတ်(ရှ)၏ ကြေညာချက်ထဲမှာ အခြားအချက်များကြား ရောနှောပုန်းခို ထည့်ထားသည့် အခွန်တိုးကောက်မည်ဆိုသော စာသားလေးကို ဆွဲထုတ်ကာ နောက်တစ်နေ့ထုတ် နယူးယောက်ပို့စ် သတင်းစာက၊

'ကျုပ် ပါးစပ်ကို သေသေချာချာ ကြည့်ကြ၊ ညာနေတာဗျ' ဟု ခေါင်းစီး စာလုံးကြီးတပ်ကာ ဝေဖန်ရေးသားသည်။

ဘွတ်(ရှ)ဘက်က ပုဂ္ဂိုလ်များက အခွန်သစ် ကောက်ခြင်း မဟုတ်ပါ၊ ယခင်ရှိပြီး အခွန်နှုန်းထား အချို့ကို တိုးခြင်းသာ ဖြစ်ပါသည် စသဖြင့် ဖြေရှင်းကြသည်။ သို့သော် ရှင်းရှင်းကြီး ပြောခဲ့သည့် ကိစ္စကို ဝိုးတိုးဝါးတား ငြင်း၍ မရနိုင်။

ကတိပျက်ခြင်း ဒဏ်ကို နောက်တစ်ကြိမ် ရွေးကောက်ပွဲ ဝင်သည့်အခါ ဘွတ်(ရှ) သေသေချာချာ ခံရသည်။

၁၉၉၂ သမ္မတ ရွေးကောက်ပွဲတွင် သူ၏ ပြိုင်ဘက် ဘီလ်ကလင်တန်က သည်ကိစ္စကို ထိထိရောက်ရောက် အသုံးချသည်။ သူ့မဲဆွယ်ကြော်ငြာတစ်ခုမှာ ဘွတ်(ရှ)၏ ကတိပျက် စကားသံကို ထပ်တလဲလဲ ဖွင့်ပေးထားကာ ဘွတ်(ရှ) သည် မယုံကြည်ရသော သူ၊ လူလိမ် ဟူ၍ အပုပ်ချရာ ဘွတ်(ရှ)ကို အကြီးအကျယ် အထိနာစေသည်။

နောက်ဆုံးတော့ သူ့အား သမ္မတအဖြစ်သို့ ပို့ဆောင်မြှင့်တင်ပေးခဲ့သည့် အဲသည် စကားတစ်ခွန်းကပင် သူ့အား အောက်ခြေသို့ ပြန်ဆွဲချသွားခဲ့သည်။

ရော့ဂျ်၊ အိပ်ချ်၊ ဒဗလျူ၊ ဘွတ်(ရှ)သည် ပထမသက်တမ်း တစ်ကြိမ် (၁၉၈၉-၁၉၉၃) နှင့်ပင် သမ္မတဘဝ အဆုံးသတ်သွားခဲ့ရပါသည်။

# မပြိုမကွဲ ခိုင်မြဲသော အိမ်

A house divided against itself cannot stand.

တစ်ကိုယ်တည်း ကွဲနေသော အိမ်သည် ရပ်တည် မနေနိုင်တဲ့။

အရှေ့အလယ်ပိုင်းဒေသထွက် ဉာဏ်အမြော်အမြင် စကားတစ်ခု ဖြစ်သည်။ ခရစ်ယာန် သမ္မာကျမ်းစာမှာ ပါသည်။ အမေရိကန်ပြည်မှာ တောင်ပိုင်းနှင့် မြောက်ပိုင်း ပဋိပက္ခ ကြီးမားကာ တိုင်းပြည် ပြိုပျက်နိုင်သည့် အန္တရာယ် ရင်ဆိုင်နေရသည့်အချိန် သမ္မတလောင်း အေဗရာဟမ်လင်းကွန်း ကောက်နုတ် ကိုးကား ပြောကြားခဲ့သဖြင့် နိုင်ငံရေးနယ်ပယ်မှာ သည်စကားထင်ရှားခဲ့သည်။

မိမိဘာသာ ထက်ခြမ်းကွဲနေသော အိမ်သည် ကြာရှည် တည်မနေနိုင် သကဲ့သို့ အချင်းချင်း စိတ်ဝမ်းကွဲပြားနေသော မိသားစု၊ မြို့ရွာ၊ သို့မဟုတ် တိုင်းနိုင်ငံတစ်ခုသည်လည်း မကြာမြင့်မီ ပျက်စီးရမှာ ဓမ္မတာ ဖြစ်သည်။

ထို့ကြောင့်လည်း သတိဝိရိယရှိသူတို့က မိမိတို့လူတွေ ခိုင်မြဲစွာ ချည်နှောင် ထားသည့် ထင်းစည်းတစ်ခုလို ပေါင်းစည်းညီညာကြဖို့ အရေးကြုံတိုင်း တိုက်တွန်း နှိုးဆော်တတ်ကြခြင်း ဖြစ်သည်။

သို့သော် သည်လို နှိုးဆော်ကြသည့် ကြားကပင် ထက်ခြမ်းကွဲသော အိမ်လို အခြေမခိုင် ယိုင်လဲကြတာတွေ၊ အချင်းချင်း ပဋိပက္ခတွေကြောင့် သောကပင်လယ် ဝေကာ ငြိမ်းချမ်းသာယာမှု ကင်းမဲ့သော တိုင်းပြည်တွေ ကမ္ဘာမှာ အစဉ်အဆက် ရှိခဲ့ ရှိဆဲ ဖြစ်ပါသည်။

သို့သော် မသင့်တင့်မှုကြောင့် ဖြစ်သည့်ဒုက္ခတွေကို ဆက်လက် မခံစားနိုင် ကြတော့သည့် အချိန်ကာလမျိုးကား ရောက်လာစမြဲ ဖြစ်ပါသည်။ သည်အခါမျိုးမှာ ကွဲအက်တာတွေ ပြန်လည် ရင်ကြားစေ့ဖို့၊ အာဃာတတွေ လျှော့ပေါ့ကာ ပြန်လည် သင့်မြတ်ဖို့ ပြန်လည် စည်းလုံးညီညွတ်ဖို့ ကြိုးပမ်းလာတတ်ကြ ပါသည်။

ယိုင်လဲတော့မည့် အိမ်ကို ပြန်လည် တည့်မတ်ရန် ကြိုးပမ်းသည့် သာဓကတွေ ကမ္ဘာမှာ များစွာ ရှိပါသည်။

အာဖရိကတိုက် ရဝမ်ဒါနိုင်ငံတွင် ၁၉၉၄ ခုနှစ်က လူမျိုးတုံး သတ်ပွဲကြီးတစ်ခု ဖြစ်ပွားခဲ့ရာ ၃ လအတွင်း လူ ၈၀၀,၀၀၀ ခန့် သေဆုံးခဲ့သည်။ အသတ်ခံရသူ အများစုသည် တွတ်ဆီ မျိုးနွယ်ဝင်များ ဖြစ်ပြီး သတ်သူအများစုက ဟူတူများ ဖြစ်သည်။ သို့သော် တစ်တိုင်းပြည်တည်းနေသူ အချင်းချင်း မျိုးနွယ်မတူရုံဖြင့်

သတ်ဖြတ်သည့် ငရဲပြည် အနေအထားမှာ ကြာရှည် မနေနိုင်သဖြင့် ပြန်လည် သင့်မြတ်ဖို့ ကြိုးစားရသည်။ ယခုတော့ ရင်ကြားစေ့ ကျေးရွာ (Reconciliation village) ဟု အမည်ပေးထားသည့် စံပြကျေးရွာအချို့မှာ ဟူတူနှင့် တွတ်ဆီတွေ အိမ်နီးချင်းများအဖြစ် နေထိုင်ပြနေကြပြီ။ ရွာသူရွာသားများထဲမှာ ယခင်က တွတ်ဆီ သတ်ဖြတ်မှုဖြင့် ထောင်ကျခဲ့သည့် ဟူတူတွေပါသလို၊ မိသားစုတစ်စုလုံး အသတ်ခံရပြီး မိမိ တစ်ဦးတည်းသာ လွတ်မြောက်ကျန်ရစ်သည့် တွတ်ဆီများလည်း ပါဝင်သည်။ ရဝမ်ဒါ သမ္မတ ကာဂါမီကလည်း ရဝမ်ဒါမှာ ဟူတူနဲ့ တွတ်ဆီ ဆိုပြီး မရှိတော့ဘူး၊ အားလုံး ရဝမ်ဒါသားတွေချည်း ဖြစ်သွားပြီ ဟူ၍ မကြာမီက ပြောဆိုခဲ့သည်။

ရဝမ်ဒါတွင် အမျိုးသားညီညွတ်ရေးနှင့် ပြန်လည် သင့်မြတ်ရေးကော်မရှင် ဟူသည်ကို ဖွဲ့စည်းဆောင်ရွက်ခဲ့သကဲ့သို့ ယခင်က အပါးသိုက်(ထ) လူမျိုးရေး ခွဲခြားမှု စနစ်ဆိုးကြောင့် ပဋိပက္ခ ကြီးမားခဲ့သည့် တောင်အာဖရိက နိုင်ငံမှာလည်း ဖြစ်ရပ်မှန် ရှာဖွေဖော်ထုတ်ရေးနှင့် ပြန်လည် သင့်မြတ်ရေးကော်မရှင် ဟူသည်ကို သမ္မတ မင်ဒဲလား လက်ထက်တွင် စတင် ဖွဲ့စည်းကာ ဖိနှိပ်ခဲ့သူများနှင့် အဖိနှိပ်ခံခဲ့ရသူများအကြား အာဃာတ လျှော့ပါးရေး အစီအမံများ ချမှတ်ဆောင်ရွက်ခဲ့သည်။ သို့သော် ယနေ့အထိ ပြဿနာတွေ မပြီးပြေသေး။ လက်ရှိ သမ္မတ ဂျက်ကော့ဘ်ဇူးမား လက်ထက်မှာလည်း အမျိုးသားညီညွတ်ရေးနှင့် ပြန်လည်သင့်မြတ်ရေးကို ထိထိရောက်ရောက် ဆောင်ရွက်ကြဖို့ စည်းရုံးဆော်ဩနေကြရဆဲ ဖြစ်သည်။

အလားတူ ယူဂန်ဒါ၊ ဂါနာ၊ အယ်လဂျီးရီးယား စသည့် အခြားအာဖရိက နိုင်ငံများသည်လည်း အမျိုးသား ပြန်လည် သင့်မြတ်ရေးကို ဆောင်ရွက်ခဲ့ ဆောင်ရွက်ဆဲ ဖြစ်ပါသည်။

အာရှတိုက်မှာလည်း ထိုနည်းၾငင်းပင်။

ယနေ့အထိ ပြတ်ပြတ်သားသား ကွဲပြားနေသေးသည့် ကိုရီးယားနှစ်နိုင်ငံလုံးတွင် ပေါင်းစည်းရေး စကားကိုတော့ ပြောနေကြသည်။ ငြိမ်းချမ်းစွာ ပြန်လည် ပေါင်းစည်းနိုင်ရေးအတွက် ကြိုးပမ်းဆောင်ရွက်သွားကြရန် သဘောတူညီကြောင်း ပူးတွဲကြေညာချက်တစ်ရပ်လည်း ၂၀၀၀ ပြည့်နှစ်က ထုတ်ပြန်ခဲ့ကြသည်။ သို့သော် ရင်ကြားစေ့ရမည့် ကွဲလွဲချက်တွေ ကြီးမားများပြားလှသည်။ ပေါင်းစည်းရေးစကားလုံးနှင့် ပတ်သက်၍ပင် တောင်ပိုင်းက 'တောင်–မြောက် ပြန်လည် ပေါင်းစည်းရေး'၊ မြောက်ပိုင်းက 'မြောက်–တောင် ပြန်လည်

ပေါင်းစည်းရေး' ဟု သုံးနှုန်းနေကြသည်။ မည်သို့ဖြစ်စေ၊ တစ်နေ့မှာ ပြန်လည် ပေါင်းစည်းရမည် ဆိုတာတော့ နှစ်ဖက်လုံး ယုံကြည်ကြသော သဘော ရှိပါသည်။

မကြာမီက တမီလ်ကျားသူပုန်များကို နှိမ်နင်းနိုင်ခဲ့သော သီရိလင်္ကာ နိုင်ငံတွင် နှစ် ၃၀ ကျော် ကြာမြင့်ခဲ့သည့် ပြည်တွင်းစစ် ပြီးဆုံးသွားပြီ ဖြစ်သည်။ သို့သော် စစ်ဖြစ်စေသည့် အရင်းခံ ပြဿနာများနှင့် စစ်ကြောင့်ဖြစ်သည့် ရှုပ်ပိုင်းစိတ်ပိုင်း ဒဏ်ရာများကို ဖြေရှင်းကုစားပေးနိုင်မှသာ ရေရှည် ငြိမ်းချမ်းမှု ရမည်ဖြစ်ရာ ယင်းအတွက် အမျိုးသား ပြန်လည်သင့်မြတ်ရေး ဟူသည်ကို ပြောဆိုလာနေကြသည်။

ထိပ်သီး ခေါင်းဆောင်များ လုပ်ကြံခံရခြင်း၊ အကြမ်းဖက် တိုက်ခိုက်မှု ထူပြောခြင်း၊ စစ်ဘက် အာဏာသိမ်းခြင်း တို့ဖြင့် တည်ငြိမ်သောကာလ နည်းပါးခဲ့သည့် ပါကစ္စတန်နိုင်ငံတွင် ဝန်ကြီးချုပ်ဟောင်း တစ်ဦးဖြစ်သူ နဝပ်ရှရစ်(ဖ)က တိုင်းပြည်ကို ကယ်တင်ရန်အတွက် Pakistan Charter အမည်ဖြင့် အမျိုးသား ပြန်လည် သင့်မြတ်ရေး အစီအစဉ်တစ်ရပ် ချမှတ် ဆောင်ရွက်ကြရန် မကြာမီက တိုက်တွန်း နှိုးဆော်ခဲ့သည်။ နိုင်ငံရေးပါတီများ၊ စစ်ခေါင်းဆောင်များ၊ တရားရေး အကြီးအကဲများ၊ လူထုအဖွဲ့အစည်းများနှင့် မီဒီယာလောကမှ ပုဂ္ဂိုလ်များ ညှိနှိုင်းကာ ပဋိညာဉ်တစ်ရပ် ချမှတ်ပြီး နိုင်ငံ ညီညွတ်ရေးအတွက် ၂၅ နှစ်တာမျှ အကောင်အထည်ဖော် ဆောင်ရွက်ကြဖို့ သူက အကြံပြုထားသည်။

အိမ်နီးချင်း ထိုင်းနိုင်ငံတွင် မလေးရှားနယ်စပ် အနီးရှိ မွတ်စလင် အများစု နေထိုင်ရာ တောင်ပိုင်းနယ်မြေ သုံးခုတွင် နှစ်အတန်ကြာ ဖြစ်ပွားသည့် မငြိမ်သက်မှု၊ အကြမ်းဖက်မှု၊ အကြမ်းပတမ်း နှိပ်ကွပ်မှုများကြောင့် သေကျေ ပျက်စီးမှုနှင့် အခြားထိခိုက်ဆုံးရှုံးမှု အများအပြား ပေါ်ပေါက်ပြီးနောက် ၂၀၀၅ ခုနှစ်တွင် အစိုးရက အမျိုးသား ပြန်လည် သင့်မြတ်ရေးကော်မရှင်တစ်ရပ် ဖွဲ့စည်းကာ အကြောင်းရင်းခံများကို ဖော်ထုတ်ခြင်း၊ နည်းလမ်း ရှာဖွေ ဖြေရှင်းခြင်းများ ပြုလုပ်ခဲ့သည်။ တောင်ပိုင်းဒေသများ၌ ပြဿနာများ လျော့ပါးသွားသော်လည်း၊ လွန်ခဲ့သည့် နှစ်အနည်းငယ်က စတင်ကာ ဘန်ကောက်မြို့တော်တွင် အဝါရောင်ဝတ်များနှင့် အနီရောင်ဝတ်များ တစ်လှည့်စီ အပြင်းအထန် ဆန္ဒပြမှုများ ဖြစ်ပွားပြီး အစိုးရ အပြောင်းအလဲ အပါအဝင် နိုင်ငံရေး မတည်ငြိမ်မှုများ တောက်လျှောက် ပေါ်ပေါက်ခဲ့သည်။ ထို့ကြောင့်

နိုင်ငံသားတို့အကြား ဖြစ်ပေါ်လျက်ရှိသည့် နက်ရှိုင်းသော အကွဲအပြဲကို ဖာထေး ကုစားရန်အတွက် ဝန်ကြီးချုပ် အဘီဆစ်က အမျိုးသား ပြန်လည် ရင်ကြားစေ့ရေး အစီအစဉ်တစ်ရပ်ကို ထုတ်ပြန်ကြေညာကာ အားလုံး ပါဝင်ကြရန် တိုက်တွန်း နှိုးဆော်လျက်ရှိသည်။

ဤသည်က နိုင်ငံတကာမှ အချင်းချင်း မသင့်တင့်မှုများနှင့် ပြန်လည် သင့်မြတ်ရန် အားထုတ်မှုများအကြောင်း အကြမ်းဖျင်း တင်ပြခြင်း ဖြစ်ပါသည်။

၎င်းတိုင်းပြည်များမှ သင့်မြတ်ရေး ကြိုးပမ်းသူတို့၏ သုံးသပ်ချက်များအရ ထွက်ပေါ်လာသည့် သင်ခန်းစာ အနှစ်ချုပ်က၊

ပြန်လည် သင့်မြတ်ရေးတစ်ခု အောင်မြင်ရန်အတွက်၊ ပါဝင်သော အင်အားစုအားလုံး သင့်မြတ်လိုစိတ် တကယ် ရှိကြဖို့လိုသည်။ သင့်မြတ်လိုသော ဆန္ဒအရင်းခံဖြင့် ယခင်ဖြစ်ခဲ့သည့် ပြဿနာတို့ကို မှန်ကန်စွာ အဖြေရှာဖို့ လိုသည်။ အဖြေထွက်လာပြီး နောက်တွင် ၎င်းအဖြေအတိုင်း အပြန်အလှန် သဘောထားကြီးစွာ၊ ရဲဝံ့မှန်ကန်စွာ လိုက်နာ ဆောင်ရွက်ကြဖို့လိုသည်၊ ဟူ၍ ဖြစ်ပါသည်။

# ကြွက်ထောင်ချောက်

တစ်ခါတုန်းက

ကြွက်တစ်ကောင်က လယ်သမားအိမ်ထဲ အိမ်နံရံ ပျဉ်နှစ်ချပ် စပ်ကြားက ဟနေတဲ့ နေရာအကြားကနေ ချောင်းကြည့်တော့ လယ်သမားနဲ့ သူ့မယား အထုပ်တစ်ထုပ် ဖြေနေတာ တွေ့ရတယ်။

အထဲမှာ စားစရာများ ပါလေမလား၊ ပါရင် ငါများ တစ်နည်းနည်းနဲ့ စားရလေမလား၊ မျှော်လင့်တဲ့စိတ်နဲ့ စောင့်ကြည့်တော့၊ လားလား စားစရာ မှန့်မဟုတ်၊ နာစရာ တုတ် ဖြစ်နေတယ်။ အဲ၊ စကားအဖြစ် ပြောတာ၊ တကယ့် တုတ် မဟုတ်ဘူး။ ပြီးတော့ တုတ် ဆိုတာက သူသူငါငါ အရိုက်ခံရနိုင်တဲ့ ပစ္စည်း။ အခုဟာက သတ္တဝါအများနဲ့ မဆိုင်၊ သူတစ်ဦးတည်းကို ရည်ရွယ်တာ။ သူ့ကို အသေဆော်ဖို့ ရည်ရွယ်ချက်နှင့် မြို့က ဝယ်လာတဲ့ ကြွက်ထောင်ချောက်။

မြင်တာနဲ့တင် ကြွက်ထောင်ချောက် မောင်းပြုတ်ပြီး ဂျိုင်းကနဲ ရိုက်တဲ့အသံကို သူ့စိတ်က ကြားလိုက်မိတယ်။ သံကိုင်းတံနဲ့ ခွေးသွားစိပ်ကြားမှာ ညပ်ပြီး သေနေမယ့် သူ့ရုပ်ပုံကိုလည်း မြင်ယောင်ပြီး ကြက်သီးမွေးညင်း ထသွားတယ်။

ဒုက္ခပဲ၊ ဒီလူတွေ ရက်ရက်စက်စက် လုပ်တော့မယ်။ အားလုံးကို သတိပေးထားမှပဲဆိုပြီး ကြွက်က ခြံထဲ လျှောက်ပြေးပြီး အော်တယ်။ 'အိမ်ထဲမှာ ကြွက်ထောင်ချောက်တစ်ခု ရောက်နေပြီ၊ အားလုံး သတိထားကြ၊ အိမ်ထဲမှာ ကြွက်ထောင်ချောက်တစ်ခု ရောက်နေပြီ'

အဲဒီလို အော်ရင်း ကြက်မနား ရောက်တော့ ပါးစပ်က တကွပ်ကွပ် မြည်ရင်း ဖုန်ထဲ သဲထဲမှာ စားစရာ ယက်ပြီး ရှာနေတဲ့ ကြက်မက၊

'ဒီလောက်တောင် အော်မနေပါနဲ့ ကိုကြွက်ရယ်၊ ရှင့်အတွက်တော့ စိုးရိမ်စရာ ဖြစ်တာ မှန်ပါတယ်၊ ဒါပေမဲ့ ကျွန်မနဲ့က ဆိုင်မှမဆိုင်တာ၊ ဘာကို သတိထားနေရမှာလဲ' လို့ ဆိုတယ်။

ကြွက်က ဝက်ခြံနား သွားပြီး ဝက်ကို ပြောပြန်တော့ ဝက်က၊

'ငါ မင်းအတွက် စိတ်မကောင်းပါဘူး ဖိုးရွှေကြွက်ရာ၊ ဒါပေမဲ့ ဒီကိစ္စက ငါ တတ်နိုင်တဲ့ ကိစ္စ မဟုတ်ဘူး၊ အလွန်ဆုံး ဘုရားမှာ ဆုတောင်းရုံလောက်ပဲ တတ်နိုင်တယ်၊ ညဘက် ဘုရားရှိခိုးတဲ့အခါ မင်းအတွက် ထည့်ပြီး ဆုတောင်းပေးပါ့မယ်ကွာ' လို့ ချွေးသိပ်တယ်။

ခြံထဲမှာ နွားတစ်ကောင်လည်း ရှိသေးတော့ ကြွက်က သူ့အိမ်ရှေ့ကို ပြောပြန်တယ်။ နွားကျတော့ သူ့ကို ဟားတောင် ဟားလွှတ်သေးတယ်။

'ဟ၊ ကြွက်ရ အိမ်ထဲမှာ ကြွက်ထောင်ချောက် ဟုတ်လား၊ ဒါဆို ငါ့အတွက် အန္တရာယ်ပဲ၊ ခြေမ ညှပ်မိရင် ငါ သေပြီ၊ ဟား ဟား' တဲ့။

ကြွက် အတော်ခံရခက်ပြီး ပြန်လှည့်လာတယ်။ သူက အိမ်ထဲမှာ နေတဲ့သူ၊ အိမ်ဆီပဲ ပြန်ရမယ်။ ထောင်ချောက်ကိစ္စ ဘယ်သူကမှ တွေးမပူ၊ သူတို့အရေးလို့ မယူဆ၊ ကိုယ်တစ်ယောက်တည်း ပူနေတာဆိုတော့ ကိုယ်ပဲ သတိထားရမယ်။ တကယ်တော့ နာမည်ကိုယ်နှိုက်ကလည်း ကြွက်ထောင်ချောက် မဟုတ်လား။ အဲဒီထောင်ချောက်မှာ တပ်ထားမယ့် အနံ့လည်း မွှေး၊ အရသာလည်း ရှိပြီး ကြွက် မှန်သမျှ သွားရည်တမျှားမျှား ကျစေမယ့် အစာကို အနားသားလေးတောင် ဖဲ့မစားမိအောင် ဝေးဝေးက ရှောင်ရမယ်။ ပြေးရင်းလွှားရင်း မတော်တဆ တိုက်မိတယ် ဆိုတာမျိုး မဖြစ်အောင်လည်း အထူးသတိပြုရမယ်။ အဲသလိုတွေ ကိုယ့်ကိုယ်ကိုယ် သတိပေးပြီး အိမ်ထဲကို သတိဝီရိယကြီးစွာနဲ့ ပြန်ဝင်လာခဲ့တယ်။

အဲဒီည သန်းကောင်ယံမှာပဲ ကြွက်ထောင်ချောက် မောင်းပြုတ်တဲ့အသံ ကျယ်လောင်စွာ ပေါ်ထွက်လာပြီးကတည်းက သတ္တဝါတွေ အားလုံး လန့်နိုး ကြတယ်။

'ဖိုးရွှေကြွက် တစ်ကောင်တော့ သွားရှာပေါ့' လို့ ဝက်က ဆိုတော့ ကြက်မက 'စိတ်မကောင်းဘူး၊ ဒီလောက် မြန်မြန်ကြီး ဖြစ်လိမ့်မယ် မထင်လို့' တဲ့။ မနက်က သူ မစာမနာ ပြောလိုက်မိတာ ပြန်တွေးပြီး အားနာနေတယ်၊

နွားကြီးကတော့ 'စောစော သေတော့လည်း ကြောက်ရတဲ့ ဒုက္ခ စောစော ငြိမ်းတာပေါ့ကွာ' တဲ့။ ကိုယ်သေတာ မဟုတ်တော့ သူက ပေါ့ပေါ့ဆဆ ပြောတယ်။

အမှန်တော့ ကြွက်လည်း သေသွားတာတော့ မဟုတ်ဘူး။ ထောင်ချောက် မိတာ သူမှ မဟုတ်တာ။ ဂျိုင်းကနဲ မြည်သံကြားတော့ သူလည်း သူတို့ထဲကနိုင် မိသလောက် လန့်သွားတာ။ နောက်တော့မှ ငါ မဟုတ်ဘူး။ ဘယ်သူ့ရှေ့ခေါင်ပိုင် ဆိုပြီး အသာ ထချောင်းကြည့်တော့ မြွေတစ်ကောင်။

မြွေက ကြွက်ထောင်ချောက်ဆိုတာ ဘာလုပ်တတ်မှန်းမသိတော့ ကြွက် အနံ့မွှေးမွှေးကို သူ့အစာ အောက်မေ့ပြီး သွားခဲတာ။ မောင်းတံရိုက်ထဲမှာ ဘယ်လို ဘယ်လို လုပ်လိုက်မှန်းမသိ၊ ခေါင်းပိုင်းကို မထိဘဲ ခြေချောင်းသာ ညှပ်နေတယ်။

ကြွက်က တုန်တုန်ယင်ယင်နဲ့ ကြည့်နေတုန်း မီးအိမ်လေး မှိန်မှိန်နဲ့ အိမ်ရှင်မ ထွက်လာတာ မြင်ရတယ်။ မိန်းမက အိပ်ချင်မူးတူးနဲ့ ကြွက်ထောင်ချောက်ကို သွားဆွဲတဲ့အခါ မြွေက လှမ်းပေါက်လိုက်တယ်။

အဲဒီအခါ အလန့်တကြား ထအော်တော့ လယ်သမား ပြေးလိုက်လာတယ်။ မီးအိမ်ပိုလင်းအောင် မီးစာမြှင့် ကြည့်လိုက်တော့ သူ့မိန်းမကို ကိုက်ပြီးတဲ့နောက် ဝါးပွန်းထောင်နေသေးတဲ့ မြွေကို မြင်ပြီး နီးရာတုတ်တစ်ချောင်းနဲ့ လက်မြန်ခြေမြန် ကောက်ရိုက်လိုက်တာ ပွဲချင်းပြီး သေသွားတယ်။

အဲဒီမြွေက အတော် အဆိပ်ပြင်းတဲ့ မြွေမျိုးဖြစ်နေတယ်။ လယ်သမား အတော် ခေါင်းနားပန်းကြီးသွားတယ်။ အဲဒါနဲ့ အိမ်နီးနားချင်းတွေ လှမ်းခေါ်ပြီး ညကြီးမင်းကြီးပဲ ဆရာဝန် သွားပင့်ပေးဖို့ အကူအညီတောင်းတယ်။

မနက်မလင်းခင် ဆရာဝန် ရောက်လာပြီး သူ့ရှိသမျှ ဆေးဝါးနဲ့ ကုသပြီး ပြန်သွားတယ်။ နောက်နေ့မှာ အိမ်ရှင်မက မြွေဆိပ်အရှိန်နဲ့ ဖျားပြီး ညည်းနေတယ်။ တစ်နေ့လုံး ကိုယ်လက်တွေ ကိုက်ခဲပြီး ပါးစပ်ကလည်း ဘာမှ မစားချင်ဖြစ်နေတယ်။ အဲဒါနဲ့ အစာမဝင်ရင် ကိုယ်ခံအားနည်းမယ်၊ အဲဒါဆိုရင် မြွေဆိပ်ဒဏ် ပိုမခံနိုင်ဖြစ်မယ် ဆိုပြီး အားရှိသွားအောင် ကြက်စွတ်ပြုတ်ကျွေးပါလို့ ဝိုင်းဝန်း အကြံပေးကြတော့ လယ်သမားက သူ မွေးထားတဲ့ တစ်ကောင်တည်းသော ကြက်မကို သတ်ပြီး မိန်းမအတွက် ကြက်သားစွတ်ပြုတ်လုပ်တယ်။

ဆရာဝန်က နောက်နေ့တွေလည်း ဆက်ပြီး လာကြည့်ပါတယ်။ ဒါပေမဲ့ လူနာက မသက်သာဘူး။ အဆိပ်က အတော် ပြင်းတာကိုး။

လယ်သမား မယား မြွေကိုက်ခံရတဲ့အကြောင်း ကြားရတော့ ဆွေမျိုးမိတ်သင်္ဂဟတွေ လူမမာ သတင်းမေးလာကြတယ်။ တချို့က ခပ်ဝေးဝေး ရွာတွေက လာရတော့ ချက်ချင်း မပြန်နိုင်ကြဘူး။ တစ်ညလောက် အိပ်ပြီး စောင့်ကြည့်ကြတယ်။ လူမမာ အခြေအနေမကောင်းတော့ သားချင်းတချို့လည်း အနီးကပ် ပြုစုလို့ရအောင် ဆိုပြီး အိမ်မပြန်ကြတော့ဘူး။

အဲဒီတော့ အိမ်ရှင် လယ်သမားမှာ ဧည့်ခံဖို့၊ ကျွေးမွေးဖို့ လိုပြန်တာပေါ့။ ဒီအတွက် ဝယ်ဖို့ ခြမ်းဖို့ရော၊ ဆရာဝန် ပေးဖို့ပါ ငွေကြေးက လိုနေတာဆိုတော့ အိမ်မှာ ရှိတဲ့ ဝက်ကို သတ်ပြီး အိမ်မှာ စားဖို့ အသားတချို့ယူ၊ ကျန်တာကို ရွာထဲ လျှောက်ရောင်းခိုင်းလိုက်ရတယ်။

ဆရာဝန်ရော အရပ်ကပါ ဝိုင်းပြီး ပြုစုစောင့်ရှောက်ကြပေမယ့် လယ်သမားမယားဟာ ပြန်နာလန် ထူမလာဘူး။ မြွေကိုက်တဲ့ ဒဏ်နဲ့ပဲ အသက်ဆုံးသွားခဲ့တယ်။

အသုဘချ၊ ရက်လည်ဆွမ်းကျွေးတဲ့အခါ လယ်သမားမှာ နွားတစ်ကောင်တည်း ရှိတာဆိုတော့ အဲဒီနွားကြီးပဲ သတ်ပြီး မိန်းမအတွက် အလှူလုပ်လိုက်ရတယ်။

ရက်ပိုင်းအတွင်း ဆက်တိုက်ဖြစ်သွားခဲ့တဲ့ အဲဒီအခြင်းအရာတွေကို မျက်ဝါးထင်ထင် မြင်လိုက်ရတဲ့ ကြွက်ဟာ အကြီးအကျယ် ထိတ်လန့်အံ့ဩသလို၊ ကြွက်ထောင်ချောက်ဟာ ဘယ်သူ့အတွက်လည်း ဆိုတာကိုလည်း စဉ်းစားမရနိုင်အောင် ဖြစ်နေတယ်။

ဘာပဲဖြစ်ဖြစ် သူတစ်ယောက်တည်း ကြောက်နေတုန်းက ကိုယ်နှင့်မဆိုင်သလို နေခဲ့ကြတဲ့ ကြက်၊ ဝက်၊ နွား အပါအဝင် သတ္တဝါငါးဦး အသက်ဆုံးရှုံးသွားပြီးတဲ့နောက်မှာ သူကတော့ ကြွက်ထောင်ချောက်ကို အရင်ကထက် ပိုပြီး အကြောက်ကြီး ကြောက်သွားခဲ့တယ်။

[ ရည်ညွှန်း။ ။ A Mouse, A Chicken, A Pig, A Cow ပုံပြင် ]

# ကတိတည်ကြဖို့ လိုပါသည်

လူမှုဆက်ဆံရေး လောကမှာ မသိမသာ ကတိပျက်တာ၊ မသိမသာ လိမ်တာ၊ ညာတာတွေ လူတိုင်း တွေ့ဖူးကြုံဖူးကြသည်။

ကြီးကြီးမားမား ထင်ထင်ရှားရှား မဟုတ်သည့်အခါ ယဉ်ကျေးမှု သဘောအရ ပြောမကောင်း၍ မပြောကြသော်လည်း တိတ်တိတ်ကျိတ်ပြီး အောင့်သက်သက်နှင့် ခံရတတ်ကြသည်။ သို့သော် နောက်တစ်ကြိမ်ဆိုလျှင်တော့ သတိထားတော့မည်။

ဥပမာ ဈေးသည်ထံမှ အသား တစ်ပိဿာ ဝယ်သည်။ အဲသည် အသားသည် တစ်ပိဿာ ပြည့်ဖို့လိုသည်။ ၈၀ သား၊ ၉၀ သား ဖြစ်နေမည်ဆိုလျှင် နောက်တစ်ကြိမ် သည်ဈေးသည်ဆီမှာ ဝယ်ဖို့ ခက်သည်။

သည်လိုပဲ အဲသည် အသားတစ်ပိဿာကို ငွေတစ်သောင်း ပေးရသည် ဆိုပါစို့။ ရောင်းသူ အလုပ်ရှုပ်နေတုန်း ဝယ်သူက ရော့ ငွေတစ်သောင်းဟု ပေးထားခဲ့၍၊ ဈေးသည် လက်အားတော့မှ ရေကြည့်သည့်အခါ ၉၀၀၀ ဖြစ်နေလျှင် နောက်တစ်ကြိမ် သည်ဝယ်သူကို သူ သတိထားရတော့မည်။

အရောင်းအဝယ်မှာသာ မဟုတ်၊ အခြား လူမှုဆက်ဆံရေး ကိစ္စရပ်များ၌ပါ ယုံကြည်မှု ပျက်စရာ အကြောင်းတွေ ကြုံရတတ်ပါသည်။

ဥပမာ လူတစ်ယောက်က ချိန်းသည်။ မည်သည့် ကိစ္စများ ပြောဆိုစရာရှိ သဖြင့် မနက် ၁၀ နာရီ ဘယ်ကိုလာပါဟူ၍။ သို့သော် တကယ်တမ်း သွားသည့်အခါ သူချိန်းထားသည့် တခြားလူတွေသာ ရောက်လာသည်။ ချိန်းသူက ပေါ်မလာ။ ၁၁ နာရီလည်း မရောက်၊ ၁၂ နာရီလည်း မရောက်။ နောက်တစ်ကြိမ် တစ်နေရာမှာ တွေ့တော့မှ အဲဒီနေ့က ဘာဖြစ်လို့ဗျာ စသဖြင့် မရေမရာ အကြောင်းပြသည်။ သူက ပေါ့ပေါ့တန်တန် သဘောထားသော် လည်း ချိန်းချက်မှုတစ်ခုကို ကတိတစ်ရပ်အဖြစ် လေးစား လိုက်နာတတ်သူများ အဖို့တော့ သူနှင့်ဆက်ဆံရတာ စိတ်ပျက်စရာ ဖြစ်သွားသည်။ တစ်ကြိမ်က နှစ်ကြိမ်ဆိုလျှင် သူပြောသော စကားကို အတည်ယူမည် မဟုတ်တော့။

ယုံကြည်မှုကို အလွဲသုံးစားလုပ်သည့် အဲသည် ကိစ္စမျိုးတွေသည် နည်းနည်းပါးပါး တစ်ခါတစ်ရံဆိုလျှင် အကြောင်းမဟုတ်။ ကြီးကြီးမားမား များများစားစား ဖြစ်လာမည်၊ နေရာတကာ လိမ်တာ၊ ညာတာ၊ ကတိ မတည်တာ၊ မယုံကြည်ရ၊ စိတ်မချ ရတာတွေ ရှိလာမည်ဆိုလျှင်၊ မမှန်မကန်

လုပ်တာတွေသည်ပင် စံတစ်ခုလိုဖြစ်ကာ ဘယ်သူ့ ဘယ်သူမှ မယုံကြည်ရသော အနေအထားမျိုး ရောက်သွားနိုင်သည်။



လူ့အဖွဲ့အစည်း ဆိုသည်က အများသူငါ ကြားမှာ အပြန်အလှန် ယုံကြည်မှုတွေဖြင့် ဖွဲ့စည်းတည်ဆောက်ရသော အရာမျိုး ဖြစ်သည်။

သို့သော် အချို့လူတွေက ယုံကြည်မှုကို တန်ဖိုးမထား၊ ကတိ လွယ်လွယ်ပေးပြီး၊ အလွယ်တကူပင် ကတိဖျက်ချင်ကြသည်။ တစ်ခါတလေကျတော့လည်း ကတိအတိုင်း ဆောင်ရွက်သလိုလိုနှင့် မလိမ့်တပတ်လုပ်တာမျိုးလည်း ရှိတတ်သည်။

အီစွပ်ပုံပြင်များထဲမှာ လူတစ်ယောက်က ခရီးဝေးသွားမည် ဆိုတော့ မိမိအား စောင့်ရှောက်ကူညီရန် ဟားမီးစ်နတ်ကို ပန်ကြားပြီး၊ လမ်းခရီးမှာ မိမိရရှိသမျှ ပစ္စည်းဥစ္စာ၏ တစ်ဝက်ကို နတ်အားပသပါမည်ဟု ကတိပေးသည်။ တစ်နေ့ လမ်းမှာ အထုပ်တစ်ထုပ် ကောက်ရတော့ ငွေထုပ်ပဲဟု ဝမ်းသာအားရဖွင့်ကြည့်သည်။ သို့သော် ငွေမဟုတ်၊ စွန်ပလွံသီးနှင့် အယ်လမွန်သီးတွေဖြစ်နေသည်။ စွန်ပလွံက အကာသားကို စားပြီး အစေ့ကို ပစ်ရသည်။ အယ်လမွန်က ပုံသဏ္ဍာန်အားဖြင့် ဗာဒံသီးနှင့်တူသည်။ သို့သော် မြေပဲတောင့်လို အခွံမာကို ခွာပြီး အထဲက အစေ့ကို စားရသည်။ ခရီးသည်က အရိပ်ကောင်းကောင်းမှာ ထိုင်ကာ စွန်ပလွံသီးတွေ စား၊ အယ်လမွန်စေ့တွေဝါးပြီးသည့်အခါ ဟားမီးစ်နတ်ကို သတိရသည်။ သို့နှင့် သူစားပြီး ကျန်သည့် စွန်ပလွံစေ့နှင့် အယ်လမွန်သီး အခွံများကို စုပုံကာ 'ကျွန်တော်မျိုး စားသလို အစေ့နဲ့အကာတွေပါပဲ၊ အခုဟာက ကျွန်တော်မျိုး ရသမျှထဲက နတ်မင်းအတွက် တစ်ဝက်ပါ' ဟုဆိုပြီး နတ်ကို ပသသည် ဟုဆိုပါသည်။

ရုတ်တရက် အဖို့တော့ ကြံကြံဖန်ဖန် ရယ်စရာရေးသည်ဟု ထင်စရာရှိသည်။ တန်ခိုးရှိသဖြင့် မိမိကိုပင် စောင့်ရှောက်နိုင်၊ မစနိုင်သည်ဟု အရိုအသေပြထားသော နတ်သည် သည်လောက် ကလေးကလား လိမ်တာညာတာတို့ မသိဘဲနေမည်လား၊ စဉ်းစားမိဖို့ ကောင်းသည်။

သို့သော် ပုံပြင်ဟူ၍ မယုံမရှိနှင့်။ သည်နေ့ခေတ်မှာလည်း တန်ခိုးကျော်ကြားသည်ဟု ရှိသည့် ပုဂ္ဂိုလ်တွေဟု ကိုးကွယ်ကာ၊ မိမိကို မစလျှင် ဘယ်ရွေ့ဘယ်မျှ ပူဇော်ပါမည်ဟု ကတိတွေ ပေးထားပြီး၊ တကယ် ပေးရမည့်အခါကျတော့ ဘယ်နေ့ ဘယ်ရက် ကျမှ၊ သို့မဟုတ် နောက်တစ်ကြိမ်ကျတော့မှဟု တောင်းဆန်

ရွှေဆိုင်းသူ၊ ကြီးကြီးကျယ်ကျယ်ကို မဖြစ်ညစ်ကျယ်နှင့် အစားထိုးကာ စတိုပုဇော်သူတွေ အများကြီး ရှိပါသည်။ စွန်ပလွံစေ့နှင့် အယ်လ်မွန်သီးအခွံတွေ ပသတာနှင့် သဘောချင်း ဆင်တူပင်။



နတ်ကို အဲသလို သွားလိမ်သည့်အခါ နတ်ကတော့ သဘောကောင်းစွာဖြင့် ကျိတ်၍ ပြုံးကောင်း ပြုံးမည်။ လူတွေကတော့ ပြုံးနိုင်လိမ့်မည် မထင်။ သည်လို ဗြောင်လိမ်ခံရလျှင် ဒေါသထွက်ကြဖို့ များသည်။

သို့သော် တချို့ကတော့ ယုံလောက်တာ၊ မယုံလောက်တာ မစဉ်းစား၊ ရရာ ဆင်ခြေနှင့် ကောက်လိမ်တတ်သည်။ အထူးသဖြင့် လောဘဇောတိုက်လာသည့်အခါမျိုးတွင် ပိုဆိုးသည်။

ဥပမာ ဆိုပါတော့။

အများဖတ်ဖူးကြသည့် ပုံပြင်တစ်ပုဒ်ထဲကပဲ ဖြစ်သည်။

တစ်ရံရောအခါ ကုန်သည်တစ်ယောက်က အဲသည်တုန်းက တန်ဖိုးကြီးပစ္စည်းဖြစ်သည့် သံချောင်းတွေ ဝယ်ယူသိုလှောင်သည်။ သည်နောက် သူ ခရီးဝေးသွားစရာ ကိစ္စတစ်ခု ပေါ်သည့်အခါ၊ သည်သံချောင်းတွေ သူ့အိမ်မှာ ထားလျှင် လုံခြုံမှု ရှိမည် မထင်သဖြင့် မိတ်ဆွေတစ်ယောက်ထံ သွား၍ အပ်နှံသည်။ မိတ်ဆွေကလည်း စိတ်ချပါဆိုပြီး လက်ခံထားလိုက်သည်။

သို့သော် သည်ပုဂ္ဂိုလ်က အကြွေး အတော်များများ တင်နေသူဖြစ်သည်။ ကုန်သည် သွားပြီး များမကြာမီပင် သူက သံချောင်းတွေ ထုတ်ရောင်းကာ ဆပ်စရာရှိသည့် အကြွေးတွေ ဆပ်ပစ်လိုက်သည်။

ကုန်သည်ကလည်း သူခရီးသွားသည့်ကိစ္စ မဆင်မပြေသဖြင့် ပြန်ရောက်လာသည့်အခါ သည်သံချောင်းတွေပဲ ရောင်းပစ်ရမှာပဲ ဟူသောစိတ်ကူးဖြင့် မိတ်ဆွေအိမ်သို့ သံချောင်းတွေ ပြန်သယ်ရန် သွားသည်။ သူ ရောက်သွားသောအခါ မိတ်ဆွေက 'ဟာ သူငယ်ချင်းရာ အဖြစ်ကတော့ ယုံနိုင်စရာတောင် မရှိပါဘူးကွာ၊ ငါလည်း မင်း သံချောင်းတွေကို ကိုယ့်ရွှေငွေပစ္စည်းလိုပဲ ဂရုစိုက်ပြီး အခန်းတစ်ခန်းထဲမှာ သေသေချာချာ သော့ခတ်ပြီး သိမ်းထားတာ၊ ကြွက်တစ်ကောင် အခန်းထဲ ဘယ်လို ရောက်သွားမှန်းမသိဘူး၊ တကယ် အံ့ဩစရာ ဒီသံတွေ ကုန်အောင် စားပစ်တယ်' ဟုဆိုသည်။

ကုန်သည်က သူပြောတာ နားထောင်ပြီး ဒါ အတည်ပေါက်နဲ့ နောက်နေတာ မဟုတ်ဘူး၊ တကယ်ပြောနေတာ ဟူ၍ သိသောအခါ ဒေါသထွက်သည်။

သို့သော် ကုန်သည်က အလွန် ဟန်ဆောင်ကောင်းသော ပုဂ္ဂိုလ် ဖြစ်သည်။ သူက အမှုအရာမပျက် ပြန်ပြောသည်။

'ငါ့သံတွေတော့ ဆုံးပြီပေါ့ သူငယ်ချင်းရာ။ ဒါပေမဲ့ ဒီလို သံကို အင်မတန် ကြိုက်တဲ့ ကြွက်တွေရှိတာ ငါသိတယ်ကွ၊ အရင်လည်း ငါဒီအတိုင်း အကြိမ်ကြိမ် ကြုံဖူးပြီ၊ အဲဒီတော့ အခုကိစ္စက ငါ့အတွက် သိပ်မဆန်းတော့ပါဘူးကွာ'

သည်စကား ကြားတော့ ဟိုပုဂ္ဂိုလ်က ဒီကောင် ငါလိမ်တာ ယုံတယ်ဟာဟု သဘောကျပြီး သူ့စိတ်ထဲ ပိုရှင်းသွားအောင်၊ 'နက်ဖြန်ကျတော့ **အိမ်လာ** ထမင်းစားကွာ' ဟုဖိတ်သည်။

ကုန်သည်လည်း လာခဲ့မယ်ဟု ပြောပြီး ပြန်ခဲ့သည်။ လမ်းမှာ လူလိမ် မိတ်ဆွေ၏ ကလေးတစ်ယောက် ဆော့ကစားနေတာတွေ့တော့ သူ့အိမ်သို့ ချော့ခေါ်သွားပြီး အခန်းတစ်ခန်းထဲ ထည့်၍ သော့ခတ်ထားလိုက်သည်။ နောက်နေ့ မိတ်ဆွေအိမ်သွားတော့ ဟိုပုဂ္ဂိုလ် ကလေးပျောက်သဖြင့် ယောက်ယက် ခတ်နေတာ တွေ့ရသည်။ သူ့သားလေး ပျောက်၍ ဒေါင်းတောက်အောင် ရှာသော်လည်း ဘယ်မှာမှ မတွေ့ရကြောင်း၊ ဘယ်လို ကြမ္မာဆိုး ကြုံလေသည် မသိကြောင်း ပြောပြသည့်အခါ ကုန်သည်က၊

'ဟာ၊ စိတ်မကောင်းစရာပဲဗျာ၊ ဒါဆိုရင် သူပဲ ဖြစ်မယ်ထင်တယ်၊ ကျွန်တော် မနေ့က ခင်ဗျားဆီက ပြန်တော့ ကောင်းကင်မှာ စွန်တစ်ကောင် ကလေးတစ်ယောက်ကို လက်သည်းနဲ့ ကုတ်ချီပြီး ပျံသွားတာ မြင်လိုက်ရတယ်။ နည်းနည်းလေးလှမ်းနေတော့ ခင်ဗျားသား ဟုတ်မဟုတ် သေချာပေါက် မပြောနိုင်ဘူးပေါ့' ဟုဆိုသည်။

သည်အခါ သံတွေ ကြွက်စားသည်ဟု လိမ်ထားသူက ရုတ်တရက် ဒေါသနှင့်ပြောသည်။ 'ခင်ဗျား အရူးစကားတွေ လာမပြောနဲ့၊ စွန်က ရှိလှ တစ်ပိဿာ၊ နှစ်ပိဿာပေါ့။ ကျုပ်သားက လျှောက်ဆော့တဲ့အရွယ် ရောက်နေပြီ ဆိုတော့ ချိန်ကြည့်ရင် ဆယ်ပိဿာ၊ ဆယ့်ငါးပိဿာလောက် ရှိမှာ။ ကျုပ်တောင် မနိုင်ဘူး၊ စွန်ချီလို့ ရမလား'

'ဘာလို့ မချီနိုင်ရမှာလဲဗျ၊ ကြွက်တစ်ကောင်တည်းကတောင် သံဈေး တန်ချိန်နဲ့ချီပြီး ကုန်အောင်စားတဲ့ တိုင်းပြည်မှာ ကလေးတစ်ယောက် စွန်ချီတာ ဆန်းသလား၊ နောက်ဆိုရင် ဆင်တောင် ချီလိမ့်ဦးမယ်'

သည်လို ပြန်ပြောတော့မှ ကုန်သည်ကို လူအလို့ ထင်ထားသည့် သ[illegible] အခြေအနေကို ရိပ်မိကာ၊ မိမိအား ခွင့်လွှတ်ရန် ဒူးထောက် တောင်း[illegible]သည်။

ကြွက်စားသွားသည်ဆိုသော သံဖိုးငွေတွေလည်း အပြည့်အဝ ပြန်ရှာပေးတော့ ဘုန်းသည်က ကလေးကို ပြန်ပေးသည်။

လိမ်လည်မှုကို ပြန်ပေးမှုနှင့် လက်တုံ့ပြန်ခဲ့ခြင်းပေတည်း။



တစ်ယောက်ချင်း ကြောင်လိမ်သည့် ကိစ္စကို ခံရသူက အဲသည်လို တုံ့ပြန်ဖြေရှင်းသလို တစ်မြို့နှင့်တစ်ယောက် ကတိထားကြသည့် ကိစ္စတွင် မြို့က လိမ်လည်ခဲ့ခြင်းအတွက် တစ်မြို့လုံးကို ရက်ရက်စက်စက် လက်စားချေသွားတာမျိုးလည်း ရှိခဲ့သည်။

ဒါလည်းပဲ ကြားဖူးကြပါလိမ့်မည်။

ဟင်းမလင်းမြို့က ပလွေဆရာ (The Pied Piper of Hamelin) ပုံပြင်။

သည်ပုံပြင်ကို အကျဉ်းချုပ်၍ ပြောရသော်

တစ်ခါတုန်းက ဟင်းမလင်းဆိုသော မြို့ကလေးမှာ ကြွက်တွေ သောင်းကျန်းသည်။ နည်းနည်းပါးပါး မဟုတ်။ အကြီးအကျယ် သောင်းကျန်းသည်။ အိမ်တွေမှာ ရော၊ လမ်းတွေမှာပါ ကြွက်တွေ ပြေးလွှားနေကြသည်။ လူမကြောက်၊ ခွေးမကြောက်၊ ကြောင်လည်း မကြောက်၊ သူတို့ကပင် ပြန်ကိုက်ဖို့ လိုက်နေကြသည်။ ကုလားထိုင်မှာ ခြေတွဲလဲချထိုင်လျှင် ခြေထောက်လာ ကိုက်သည်။ ပုခက်ထဲက ကလေးတွေ ကြွက်ကိုက်ခံရသည်။

သည်အကောင်တွေ ဘယ်လိုမှ နှိမ်နင်း မရသဖြင့် မြို့ပါပြောင်းပြေးရမလို ဖြစ်နေသည့် အချိန်၊ ဟင်းမလင်းသို့ လူစိမ်းတစ်ယောက် ရောက်လာသည်။

သည်ပုဂ္ဂိုလ်က သူ့အားထိုက်သင့်သော တန်ဖိုးပေးလျှင် သည်မြို့ထဲက ကြွက်တွေအားလုံး ရှင်းပေးမည် ဟုဆိုသည်။

သို့နှင့် မြို့လူကြီးများနှင့် ဈေးညှိကြသည်။

သူတောင်းသည့် ဈေးကများသည်။ မြို့လူကြီးတွေကလည်း ပိုက်ဆံပေးရမည့် အလုပ်ကို ကြွက်ထက်ပင် ကြောက်သေးသည်။ သို့နှင့် အကြိတ်အနယ် ဈေးဆစ်ကြတော့ နောက်ဆုံး အသပြာ ၅၀ နှင့် ဈေးတည့်သွားသည်။

မြို့ထဲမှာ ကြွက်တစ်ကောင် တစ်မြီးမှ မမြင်ရတော့ဘူးဆိုတာ သေချာသည်နှင့် တစ်ပြိုင်နက် ငွေ ၅၀ ပေးမည်ဟု နှစ်ဦးနှစ်ဖက် သဘောတူကြပြီးနောက်တွင် ပုဂ္ဂိုလ်က လမ်းထဲထွက်သည်။ ထို့နောက် အိတ်ထဲက ပလွေကို ထုတ်ပြီး နှုတ်ခမ်းမှာ တေ့၍မှုတ်သည်။

ရှုးရှူးဝါးဝါး နိုင်လှသည့် သူ့ပလွေသံ တစ်မြို့လုံးက အိမ်တွေထဲ၊ လမ်းတွေထဲ ပျံ့နှံ့သွားသည်နှင့်တစ်ပြိုင်နက် နေရာ အနှံ့အပြားက ကြွက်ကြီး၊ ကြွက်လတ်၊ ကြွက်သေး၊ ကြွက်ဝတုတ်၊ ကြွက်နံပိန်တွေ အားလုံး တစ်ကောင်မကျန် လမ်းပေါ်တက်လာကာ ပလွေဆရာ လျှောက်သွားသည့်နောက်က အလုအယက် လိုက်ပါကြသည်။

ပလွေဆရာက အတော် ခပ်လှမ်းလှမ်း ရောက်လျှင် တစ်ကြိမ်စီ ရပ်တာ ပလွေကို ပို၍ ရှုးရှူးရှရှ အသံသေး အသံကြောင်တွေ မှုတ်ရင်း နောက်ဘက် ခမ်းလှမ်းလှမ်းမှာ ပြတ်ကျန်ခဲ့သည့် နေးကွေးသော အချို့ကြွက်တွေ လိုက်မီအောင် စောင့်ခေါ်သည်။

မြို့ပြင်ဘက် မြစ်ကမ်းနားရောက်၍ သူက လှေတစ်စင်းပေါ် တက်လှော်ပြီး၊ ပလွေကို အသံကျယ်သထက်ကျယ်အောင် မှုတ်၍ ခေါ်သည့်အခါ ကြွက်တွေ တစ်ကောင် ပြီးတစ်ကောင် ရေထဲခုန်ချကာ လှေနောက်က ရေကူးပြီး လိုက်ပါလာကြသည်။ နောက်ဆုံး ကြွက်တွေ အားလုံး ခြေကုန်လက်ပန်းကျကာ ရေထဲ မျောပါ နစ်မြုပ်ပျောက်ကွယ်သွားပြီ ဆိုတော့မှ ပလွေမှုတ်တာ ရပ်သည်။

ဟင်းမလင်း တစ်မြို့လုံး သည့်မြင်ကွင်းကို ရင်သပ်ရှုမောအံ့ဩစွာ ကြည့်ရှုပြီးနောက်တွင် အကြီးအကျယ် ဝမ်းမြောက်ဝမ်းသာ ရယ်ကြ မောကြ၊ အော်ဟစ်ကြ၊ ခုန်ပေါက်ကြ၊ ကျွမ်းထိုးကြ၊ ကခုန်ကြနှင့် အုတ်အော်သောင်းတင်း ဖြစ်နေကြသည်။

ပလွေဆရာ မြစ်ထဲက ပြန်တက်ကာ မြို့လယ်ခန်းမသို့ ရောက်လာသည်။ မြို့က ဘဏ္ဍာငွေ သေတ္တာကြီးကို မြို့ဝန်နှင့် မြို့လူကြီးတွေ ဖွင့်ကြတော့ အထဲမှာ အသပြာငွေ တစ်ပြားတစ်ချပ်မှ မတွေ့ရ။

သည်တော့ မျက်စိ မျက်နှာ ပျက်ပျက် နှင့် ပလွေဆရာအား တောင်းပန်သည်။ 'ကျွန်တော်တို့မြို့က ဆင်းရဲတယ်ဗျာ၊ အခု ခင်ဗျား မြင်တဲ့အတိုင်း ရန်ပုံငွေထဲ တစ်ပြား မှမရှိဘူး၊ အရပ်ထဲ လိုက်ကောက်ပြီး ပေးရမှာ၊ အဲသည်တော့ ငါးဆယ် မလုပ်ပါနဲ့၊ နှစ်ဆယ် ယူပါဗျာ။ ဒါတောင် ကျွန်တော်တို့ မနည်းစုရမှာ ပြီးတော့ ခင်ဗျားလုပ်ရတဲ့ အလုပ်ကလည်း သိပ်ပင်ပန်းတာမှ မဟုတ်ဘဲဗျာ' ဆိုတော့ ပလွေဆရာက လက်မခံ။

'ခင်ဗျားတို့ စိတ်တိုင်းကျ ဈေးဆစ်ပြီးမှ ငါးဆယ်နဲ့ သဘောတူထားတာဗျ ကတိစွပြီးကာမှ တစ်မျိုးတစ်ဖုံ မပြောပါနဲ့'

အပြန်အလှန် ပြောဆိုကြရင် စကား အဆင်မပြေ ဖြစ်လာသည်။

မြို့ကလူတွေက 'မကျေနပ်ရင် ခင်ဗျား ကြွက်တွေ ပြန်ခေါ်ချင်ခေါ်ပေါ့ဗျ'

ဆိုတာမျိုး ပြောလာသည်။ ကြွက်တွေ ရေနစ်သေကုန်တာ သူတို့မျက်မြင်ဆိုတော့ ပြန်မလာနိုင်တော့ဘူးဟု သေချာနေသည်။

'ခင်ဗျားတို့ ဒီအတိုင်းလုပ်ရင် ကတိဖျက်တဲ့ဒဏ် ခံရလိမ့်မယ်' ပလွေဆရာက ဆိုတော့၊

'မင်းလို အခြေအနေမဲ့ အကောင်က တို့ကို ခြိမ်းခြောက်သလား၊ ကြိုက်တာလုပ်၊ တို့ အရေးမစိုက်ဘူး' ဟုဆိုကြသည်။

ပလွေဆရာ ဆက်ပြီး အငြင်းအခုံ လုပ်မနေတော့ဘဲ လှည့်ထွက်လာခဲ့သည်။ သူ့ပလွေကို ထုတ်ပြီး မှုတ်သည့်အခါ၊ သည်တစ်ကြိမ် ထွက်လာတာက စူးစူးရှရှ သံသေးသံကြောင် မဟုတ်၊ ငြိမ့်ငြိမ့်ညောင်းညောင်း သာသာယာယာလေး ဖြစ်သည်။ ကတိ မတည်သော လူကြီးတွေ ကြိတ်ပြုံးကာ အိမ်ထဲ ဝင်သွားကြသည်။ ကြွက်ရန် ရှင်းသွားသဖြင့် သူတို့ပျော်နေသည်။ မာနကြီးသည့် ပလွေဆရာက ပေးသလောက်ကို မယူဘဲ သူ့သဘောနဲ့သူ ထွက်သွားတာဆိုတော့ ကိုယ့်တာဝန် မရှိ၊ တို့အချောင်ပွတာပဲပေါ့ ဟု ကိုယ့်ဘာသာကိုယ် ဆင်ခြေကန်ကြသည်။ သို့သော် စိတ်ထဲ သိပ်မလုံကြတာဆိုတော့ ပလွေဆရာ၏ တေးသံသာကို လိုက်နားစွင့်မနေကြ။

သို့သော်

ကလေးများကတော့ အိမ်ထဲမှာမနေ၊ ပလွေသံကို နှစ်သက်ကာ အိမ်ပြင်ဘက် ထွက်နားထောင်နေကြသည်။ စင်စစ်၊ ပထမ ပလွေသံတုန်းက ကြွက်တွေ အားလုံးကို ညို့ခေါ်သလို ဒုတိယပလွေသံက ကလေးများ အားလုံးကို ဆွဲဆောင် ခေါ်ငင်နေခြင်း ဖြစ်သည်။

ပလွေဆရာ ပလွေမှုတ်ရင်း လျှောက်သွားတော့ ကလေးတွေ သူ့နောက်က လိုက်ကြသည်။ တဖြည်းဖြည်းနှင့် အိမ်တကာ့အိမ်မှ ကလေးကြီး၊ ကလေးငယ်၊ လမ်းလျှောက်တတ်သည့် အရွယ်မှန်သမျှ ပလွေဆရာ ညို့ခေါ်ရာနောက် လိုက်ပါသွားကြသည်။

လူကြီးတွေ သတိရ၍ 'ဟဲ့ ကလေးတွေ ပလွေဆရာနောက် ပါသွားဦးမယ်၊ လိုက်ကြည့်ပါဦး' ဟု အော်ကြဟစ်ကြ ထွက်လိုက်ကြသည့်အခါ ကလေးတွေ မြို့ပြင် တောစပ်နား ရောက်သွားကြပြီ။

တောထဲမှာ တောင်ကုန်းတွေ ရှိသည်။ တောင်ကုန်းတစ်ခုနား သူတို့ ရောက်တော့ တောင်နံရံမှာ တံခါးတစ်ချပ် ဖွင့်လိုက်သလို ဝင်ပေါက်တစ်ခု ပေါ်လာသည်။ ပလွေဆရာက ပလွေမှုတ်ရင်း ဝင်သွားသည့်အခါ ကလေးများ အားလုံး တန်းစီပြီး လိုက်ပါသွားကြသည်။ သူတို့အားလုံး တောင်ထဲ

ရောက်သွားသည့်အခါ တောင်နံရံတံခါး ပိတ်သွားသည်။ ခပ်လှမ်းလှမ်းမှာ ပြတ်ကျန်ခဲ့သည့် ခြေမသန်သော ကလေးတစ်ယောက်သာ တောင်တံခါးပေါက် ဘယ်ပျောက်သွားမှန်းမသိသဖြင့် ငိုပြီး ကျန်ရစ်သည်။

မြို့လူကြီးတွေ ရောက်လာသည့်အခါ ငိုနေသော ကလေးကို မေးမြန်းကာ နောက်ဆုံး ဘယ်လို ဖြစ်သွားသည်ဆိုတာ သိကြရသည်။

သည်တော့မှ မိဘတွေ အုယားဖားရား အသည်းအသန် ဖြစ်ကာ ငိုကြ ယိုကြ၊ တက်ချက် မေ့မျောကြ၊ တောထဲ တောင်ထဲ လိုက်ရှာကြ၊ ကလေးတွေ ဝင်သွားသည် ဆိုသော တောင်စောင်းကို တူးကြ ဆွကြ၊ ပလွေဆရာကို အော်ဟစ် တောင်းပန်ကြသည်။

သို့သော် ပလွေဆရာ ပေါ်မလာ၊ ကလေးများလည်း ပြန်ရောက်မလာကြ၊ ရက်လများစွာ မျှော်ကြသည်။ သို့သော် ဘယ်သောအခါမျှ ပြန်ရောက်မလာကြတော့။

အဲသည်ကစပြီး ဟင်းမလင်းမြို့က လူတွေ ကတိတစ်လုံး ပေးမိလျှင် အဲသည် အတိုင်းတည်အောင် ကြိုးစားကြသည်။ အထူးသဖြင့် တစ်ရပ်တစ်ရွာက လာသည့် ပလွေဆရာများဆိုလျှင် ပို၍ သတိထား စကားဆိုကြသည်ဟု ပုံပြင်က ဆိုပေသည်။

'ဟင်းမလင်းက ပလွေဆရာ' သည် ထင်ရှားသော ဂျာမန်ရိုးရာ ပုံပြင်တစ်ပုဒ် ဖြစ်ပါသည်။ ၎င်းပုံပြင်ကို အင်္ဂလိပ်ကဗျာ ဆရာ ရောဘတ်ဘရောင်းနင်း (Robert Browning)က ပုံပြင် လင်္ကာရှည်တစ်ခုအဖြစ် ရေးဖွဲ့လိုက်သည့်အခါ ကမ္ဘာ၌ ပို၍ လူသိများသွားသည်။

သို့သော် သည်မြို့နှင့် သည်ပလွေဆရာအကြောင်းသည် ပုံပြင်သက်သက် မဟုတ်၊ သည်ပုံပြင်ဖြစ်ပေါ်စေခဲ့သည့် နောက်ခံဖြစ်ရပ်မှန် တကယ်ရှိခဲ့သည် ဟုဆိုသည်။ ဟင်းမလင်းမြို့က ရှေးအိမ်အချို့၏ အိမ်တံခါး နံရံများတွင် ၁၂၈၄ ခုနှစ်၊ ဇူလိုင်လ တစ်ခုသောနေ့က မြို့မှ ကလေး ၁၃၀ ခန့် ကြွက်နှိမ်နင်းသော ပလွေဆရာနောက် လိုက်ပါပျောက်ဆုံးခဲ့ကြောင်း ရေးမှတ်ထားသော စာများ တွေ့ရှိရသည်ဟု သုတေသီ တို့က ဆိုကြသည်။

ဟင်းမလင်း တစ်မြို့လုံး တစ်ခါက ကတိပျက်ခဲ့ဖူးကြောင်း သက်သေ အထောက်အထားပေတည်း။

# ရွေးချယ်ခွင့် ပြဿနာ

ရွေးချယ်ခြင်းဟူသည်က လွယ်မယောင်နှင့် အတော်ခက်သော ကိစ္စဖြစ်သည်။ သည်ဟာလည်း လိုချင်၊ ဟိုဟာလည်း လက်မလွှတ်နိုင်တာမျိုး ရှိတတ်သည်။ တစ်ခါတစ်ရံ ကိုယ် ဘယ်ဟာကြိုက်မှန်း ကိုယ့်ဘာသာ မသိတာမျိုးလည်း ရှိသည်၊ တစ်ခါတလေကျတော့လည်း ကြိုက်ရာရွေးပါ ဆိုပြီး မကြိုက်တာတွေချည်း ထိုးပေးတာမျိုး ဖြစ်ချင်ဖြစ်နေတတ်သည်။ ကိုယ်ပဲ ရသလိုလိုနှင့် ကိုယ်က ပေးလိုက်ရသည့် အနေအထားမျိုး။

မည်သို့ပင်ဖြစ်စေ၊ အသက်ရှင်နေသရွေ့တော့ ရွေးချယ်ရခြင်းနှင့် မကင်း။

အချို့ပုဂ္ဂိုလ်များက ဆိုလျှင် ရွေးချယ်ရခြင်း ဟူသည် လူ့ဘဝ၌ မလွှဲမသွေ ကြုံတွေ့ရမည့် အခက်အခဲတစ်ခု ဖြစ်သည်ဟုပင် ဆိုလေ့ရှိကြသည်။

ခါးသီးသော ရွေးချယ်ခွင့်များနှင့် ကြုံခဲ့ရခြင်းကြောင့် ဖြစ်ပေမည်။

## မုန့်လိုချင်သလား၊ တုတ်လိုချင်သလား

ကလေးဘဝတုန်းက လူတိုင်းလိုလို ရွေးခဲ့ကြရဖူးသည်။

စာ ရအောင် ကျက်၊ ရရင် မုန့်ကျွေးမယ်။ မရရင် အရိုက်ခံရမယ်။ ဟောဒီမှာ တုတ်ကြည့်ထား။

မုန့်ရသည့်အခါ ရသလို၊ တုတ်ရသည့်အခါလည်း ရကြသည်။

မုန့်နှင့်တုတ် စနစ်ကို ကလေးဘဝမှာသာ မဟုတ် လူကြီးဘဝမှာလည်း ကျင့်သုံးကြသည်။ ကိုယ် သုံးတာလည်း ရှိမည်။ သူများက ကိုယ့်အပေါ် လာကျင့်သုံးတာလည်း ရှိမည်။

လူလူချင်းသာမက အဖွဲ့အစည်းများ တိုင်းပြည်များ အကြားမှာပါ ကျင့်သုံးကြသည်။

သည်ဟာနှင့် စပ်လျဉ်းပြီး ကမ္ဘာမှာ လူသိများသည့် အသုံးအနှုန်းက carrot and stick policy သို့မဟုတ် carrot and stick approach။ တချို့က carrot or stick ဟုလည်း သုံးသည်။ carrot on a stick ဟု သုံးတာမျိုးလည်း ရှိသည်။

သည်စကား မူရင်းက 'မြည်း' ဆီက လာသည်။

မြည်း (donkey) ဆိုသော သတ္တဝါက မြင်းနှင့် အမျိုးချင်း နီးစပ်သည်။ မြင်းလောက် အကောင် မထွား။ သို့သော် အားကောင်း သန်မာသည်။ မြန်လည်း မြန်သည်။ သူ့ကို မြင်းစီးသလို စီး၍လည်း ရသည်။ ကျောပေါ်မှာ ဝန်တင်၍လည်း ရ၊ လှည်းဆွဲခိုင်း၍လည်း ရသည်။ အစာကျတော့ မြင်းလောက် အမျိုးအစား ကောင်းကောင်း ကျွေးစရာ မလို။

တစ်ခုပဲ ရှိသည်။ သူ မကြိုက်ဘူး ဆိုလျှင် ခိုင်း၍ မရ။ အတင်း ပေကတ် နေတတ်သည်။

မြည်းကို အလုပ်လုပ်အောင် ခိုင်းစေသည့် နည်းများထဲတွင် မုန်လာဥနှင့် တုတ်ကို တစ်လှည့်စီ သုံးသော စနစ်က လူသိများသော အစဉ်အလာ နည်းလမ်း တစ်ခု ဖြစ်သည်။

မြည်းတစ်ကောင် စီးလာရင်း သို့မဟုတ် လှည်းဆွဲခိုင်းလာရင်း လမ်းခု လတ်မှာ ပေပြီး ရပ်နေပြီဆိုလျှင် မုန်လာဥ (carrot)(ကျွန်တော်တို့ဆီမှာ ဥနီ ဟုလည်းခေါ်ကြသည့် နီဝါရောင် မုန်လာဥ) တစ်လုံးကို တုတ်ချောင်းထိပ်မှာ ကြိုးနှင့် တွဲလွဲချည်ပြီး မြည်းဦးခေါင်းရှေ့နား အလှမ်း မမီတမီ လောက်မှာ ချပေးသည်။ မြည်းက မုန်လာဥကို လှမ်းမီအောင် ရှေ့သို့တိုးလျှင် အဲသည်အတိုင်း သူ့ကို ရသလောက် ခရီးဝေးဝေးထိ မျှားခေါ်သွားမည်။ သို့မဟုတ် မြည်းက ငါ အလုပ်လုပ်ရင် မုန်လာဥ စားရမှာပဲဟု သဘောပေါက်ပြီး ရှောရှောရှူရှူ သွားလျှင်လည်း အဆင်ပြေသွားမည်။

အဲသလိုမှ မဟုတ်ဘူးဆိုလျှင်တော့ မုန်လာဥကို ပြန်သိမ်းပြီး တုတ်နှင့် နာနာ ဆော်တော့မည်။

အဲဒါ မုန်လာဥနှင့်တုတ် တွဲသုံးသော နည်း။

မုန်လာဥစားပြီး အလုပ်လုပ်မည်လား၊ အရိုက်ခံပြီး အလုပ်လုပ်မည်လား၊ အဲသည် နှစ်ခုမှာ ကြိုက်ရာကို ရွေး။



သို့သော်၊

တုတ်နှင့်မုန့် သို့မဟုတ် တုတ်နှင့်မုန်လာဥ ကိစ္စကို ရွေးချယ်မှု ရှုထောင့်က သေသေချာချာ ကြည့်လျှင် နှစ်ခုထဲက တစ်ခု ရွေးဆိုသည့် ရိုးရိုးရှင်းရှင်းလေး မဟုတ်ကြောင်း တွေ့ရလိမ့်မည်။

ဥပမာ – တုတ်နှင့်မုန့် ကိစ္စမှာ အရိုက်ခံပြီး စာကျက်မည်လား၊ မုန့်စားပြီး စာကျက်မည်လားဟု လူကြီးဘက်က ရွေးချယ်ခွင့် ပေးထားသော သဘော ဖြစ်သည်။ အကယ်၍ ရွေးချယ်စရာကို ကလေးဘက်က စ၍ တင်ပြရမည်ဆိုလျှင် တုတ် ပါစရာ အကြောင်း မရှိသလို၊ မုန့်သည်လည်း ဦးစားပေး ဖြစ်လိမ့်မည် မဟုတ်။ သူ ရွေးချယ်ချင်သည်က စာကျက်မလား၊ စာမကျက်ဘဲ နေမည်လား ဆိုသည့် အရာနှစ်ခုထဲက စာမကျက်ဘဲနေမည် ဆိုတာသာ ဖြစ်လိမ့်မည်။

သည်လိုပဲ မြည်း အဖို့မှာလည်း တုတ်နှင့်မုန်လာဥသည် သူ့ကို အလုပ် အတင်းခိုင်းနေသော လူဆီက ကျလာသည့် အမျိုးအမည်စာရင်း ဖြစ်သည်။ ရွေးချယ်စရာကို သူ့သဘောနှင့်သာ သတ်မှတ်ရမည်ဆိုက ပေးသမျှသော

ဝန်ကို ဆွဲမည်လား၊ မဆွဲဘဲ နေမည်လားဟူသော အရာနှစ်ခုထဲက မဆွဲဘဲနေမည် ဆိုတာကို သူ ရွေးချယ်မည် ဖြစ်သည်။ တုတ်နှင့်မုန်လာဥက သည်ကိစ္စမှာ ဘာဆိုင်တာ မှတ်လို့။

ပြီး၊ တစ်ခါတလေ မုန်လာဥကို ပြရုံသာ ပြပြီး ခရီးအဆုံးကျတော့ သူ့ဘာသာ ပြန်သိမ်းသွားတာမျိုးလည်း ရှိတတ်သည်။ မြည်းတွေက စကား မတတ်သဖြင့် သည်ကိစ္စ ထုတ်ဖော်မပြကြသော်လည်း လူကျတော့ သည်လို ခံရလျှင် ပြဿနာတက်ကြသည်။

၁၉၇၀ ကျော် နှစ်များအတွင်းက ကနေဒါပြည်တွင် အစိုးရက ဗန်ကူဗာကျွန်း မြောက်ပိုင်းမှာ နေကြသူများအား သူတို့ နေရာအထိ လမ်းအချောဖောက်ပေးမည်ဟု ကတိကဝတ်ပေးပြီး ထောက်ခံမှုရအောင် စည်းရုံးခဲ့ကြသည်။ နှစ်ကာလတွေ ကြာသော်လည်း လမ်းမကြီး ပေါ်မလာသည့်အခါ ဗန်ကူဗာမြောက်ပိုင်းသားတွေက သူတို့လည်း မြည်းတွေလို အလိမ်အညာ ခံရသည်။ ကတိပေးထားပြီး တကယ်တမ်း မကျွေးသဖြင့် သူတို့အပေါ် မုန်လာဥ အကြွေးတင်နေသည်ဟု အစိုးရကို ဝေဖန်ဆန္ဒပြသည့် အနေဖြင့် လမ်းပေါ်တွင် မုန်လာဥရုပ်တုကြီး တစ်ခု စိုက်ထူကာ၊ ဖြစ်ကြောင်းကုန်စင်ကို ကမ္ပည်းတင်သည့် ဆိုင်းဘုတ် တစ်ခုလည်း အနီးတွင် ထောင်ထားခဲ့ကြသည်။

အဲဒါက ရွေးတုန်းက ရွေးခိုင်းပြီး ပေးရမည့်အချိန်မှာ မပေးတာ ဖြစ်သည်။



တစ်ခါတလေကျတော့လည်း၊

ခင်ဗျား သဘောပါလို့တော့ ဆိုသည်၊ သို့သော် ရွေးစရာက တစ်ခုတည်း ဥပမာ၊

## ယူချင်ယူ မယူချင်နေ သို့မဟုတ် ဟော့ဘ်ဆင် ရွေးချယ်ခွင့်

တစ်ခါတုန်းက အင်္ဂလန်ပြည်၊ ကိန်းဗရစ်(ချ်)မြို့မှာ ဟော့ဘ်ဆင် (Thomas Hobson 1544-1631)ဟု ခေါ်သည့် မြင်းဇောင်းပိုင်ရှင်တစ်ဦး ရှိသည်။ သူ့မှာ အငှားလိုက်သည့် မြင်းတွေ ရှိသည်။ တစ်စုံတစ်ယောက်က မြင်းစီး ခရီးသွားရန် အတွက် သူ့ဆီ မြင်းငှားလာလျှင် တံခါးပေါက်နှင့် အနီးဆုံး ဇောင်းထဲက မြင်းကို သူ ထုတ်ပေးသည်။

သူ့မှာ တခြား မြင်းတွေ ရှိသေးသော်လည်း အဲဒါတွေထဲက ရွေးချယ်ခွင့် မရ။ တံခါးပေါက်နားက မြင်းကိုပဲ ယူချင်ယူ မယူချင်နေ၊ ဒါပဲ။

သည်မြင်းကို တစ်ယောက် ငှားသွားပြီးလျှင် အဲသည်နေရာမှာ နောက်ငှားမည့် မြင်းကို သူ ထည့်ထားမည်။ နောက်တစ်ယောက်လာလျှင် အဲသည်မြင်း ယူသွား၊ မကြိုက်လျှင်လည်း နေ၊ take it or leave it။

နောက်တော့ ဒါကို မြင်းငှားသူတွေက Hobsons's choice ဟု ခေါ်ဝေါ် လာခဲ့ကြသည်။ ဟော့ဘ်ဆင်ပေးသော ရွေးချယ်ခွင့် သို့မဟုတ် ဟော့ဘ်ဆင် ကိုင်ထားသော ရွေးချယ်ခွင့်။

သူနှင့်အပြိုင် အငှားလိုက် မြင်းဇောင်း ထောင်ထားသူလည်း မရှိတော့ ဟော့ဘ်ဆင်က သူ ကြိုက်သလို စီမံခွင့် ရှိနေသည်။ ဘယ်သူကြိုက်ကြိုက် မကြိုက်ကြိုက် သူ ဂရုမစိုက်။

၁၇ ရာစုနှောင်းပိုင်း အင်္ဂလန်မှာ ရွေးကောက်ပွဲတွေ လုပ်တော့ အရွေးခံ မည့်သူ တစ်ယောက်တည်းကို မဲပေးရတာမျိုးလည်း ကြုံရသည်။ သည်အခါ လူတွေက ဟော့ဘ်ဆင်ကို သတိရသည်။ ဟော့ဘ်ဆင်ဆီမှာ မြင်းငှားရသလိုပဲ၊ ဟူ၍။



ဟော့ဘ်ဆင်ပေးသော ရွေးချယ်ခွင့်ကို မကြိုက်ဘူးလား။ တစ်ဖက်စောင်းနင်း ဟုမြင်ပါသလား။

မြင်းတွေ အများကြီး ရှိပါလျက် ရွေးချယ်ခွင့်မရခြင်းကတော့ အခံရခက်စရာ ဖြစ်ပါသည်။ သို့သော် ရွေးချယ်ခွင့်ပေးသလိုနှင့် ဟော့ဘ်ဆင်ထက် ဆိုးတာ တွေလည်း ရှိသည်။

ဟိုတုန်းက ခရီးဝေးလမ်းများမှာ တောပုန်း ဓားပြတွေ သောင်းကျန်းစဉ်က သုံးစွဲလေ့ရှိသည့် စကားတစ်ခွန်းရှိသည်။ တိုတိုရှင်းရှင်း လိုရင်းကိုပဲ ပြောသည်။

Your money or your life!

အနောက်ပိုင်း ရုပ်ရှင်ကားများကြောင့် လူသိများသည့် စကား။ ပိုက်ဆံ ဆံမလား၊ အသက်ပေးမလားတဲ့။

ရွေးချယ်ခွင့်ပေးထားသည်။ သို့သော် နှစ်ခုလုံး ကိုယ်က ပေးရမှာချည်း ဖြစ်သည်။

သို့သော် ဓားပြကတော့ ဓားအားကိုးနှင့် နိုင်ထက်စီးနင်း ထုပ်ရမှာ မဟုတ်သလိုလို။

ပါတာ အကုန်ထုတ်ပေးလျှင် အသက် ချမ်းသာပေးမည်။ [illegible] ထုတ်မပေးလျှင်တော့ မလွှဲမရှောင်သာ အဆုံး စီရင်ရလိမ့်မည်။ သူ့ဘာသာ [illegible] အဲသည်လို မျှမျှတတ စဉ်းစားပေးထားသည်။

သည်လိုပဲ၊

ကလေးအသက် မသေစေလိုလျှင် ငွေတစ်သိန်းနှင့် လာရွေးတဲ့။ ပြန်ပေးသမား၏ စကား။

ကလေးအသက်နှင့် ငွေတစ်သိန်း၊ ဘယ်ဟာ ရွေးမည်လဲ။

ဒါသည်လည်း Your money or your life! နှင့် သဘောချင်း အတူတူပဲ ဖြစ်ပါသည်။

သို့သော် တစ်ခါတစ်ရံ ပြန်ပေး ဓားပြများထံမှာထက် ပို၍ ဆိုးရွားသော ရွေးချယ်ရမှုမျိုးလည်း ရှိတတ်ပါသေးသည်။ အဲဒါက၊...

## ဆိုဖီ၏ ရွေးချယ်ခွင့် သို့မဟုတ် သူ ရွေးချယ်ခဲ့သည့် အရာ

ဆိုဖီက အမေရိကန် ဝတ္ထုရေးဆရာ ဝီလျံ စတိုင်ရွန် (William Styron) ၏ Sophie's Choice ဝတ္ထုထဲက အဓိက ဇာတ်ဆောင် ဖြစ်သည်။

ဒုတိယကမ္ဘာစစ်ကြီးအတွင်း ပိုလန်သူ ဆိုဖီသည် နာဇီတို့၏ ဖမ်းဆီးခြင်း ခံရပြီး နာမည်ဆိုးလှသည့် အောက်(ရှ)ဗစ် အကျဉ်းစခန်းမှာ ဒုက္ခကြီးစွာ ခံစားခဲ့ရသည်။ အဖမ်းခံရသည့်အထဲမှာ သူမ၏ သားကြီး ဂျန် ၁၀ နှစ်နှင့် သမီးငယ် အီ(ဗ်) ၆ နှစ်တို့လည်း ပါသည်။

တစ်နေ့မှာ နာဇီတို့က သူ့ကို တစ်ခု ရွေးချယ်ခိုင်းသည်။

ကလေးတွေကို အဆိပ်ဓာတ်ငွေ့ခန်းတွင် အဆုံးစီရင်ဖို့ ခေါ်တော့မည်။ သူ့ကလေးနှစ်ယောက်ထဲက တစ်ယောက်ကို ရွေးပါတဲ့။

သားနဲ့သမီး၊ ဂျန်နဲ့အီ(ဗ်)၊ ဘယ်သူ့ကို ရွေးမလဲ။

ဘယ်သူ့ကို သေဖို့ ပေးမလဲ၊ ဘယ်သူ့ကို နေဖို့ ရွေးမလဲ။

အချိန်မရှိဘူး။ မြန်မြန် ရွေးပါဆိုသည့် အခါ လက်တလော အတွေးတစ်ခုဖြင့် ဂျန်ကို ရွေးကာ အီ(ဗ်)အား ဓာတ်ငွေ့ခန်းဆီ ပေးလိုက်ရသည်။

နောက်တော့ အီ(ဗ်) သေဆုံးသလို၊ ဂျန်လည်း အသက်မရှင်ခဲ့။

သူသာ စစ်အပြီးမှာ တစ်ယောက်တည်း လွတ်မြောက်ခဲ့သည်။

သို့သော် လူသာ လွတ်သည်၊ စိတ်က မလွတ်မြောက်။ ကြောက်မက်ဖွယ် ရွေးချယ်ခဲ့ရမှုကြီး၏ ဖိစီးနှိပ်စက်မှုဒဏ်ကို သူ မပြတ်ခံရသည်။

သည်ဒဏ်မှ လွတ်မြောက်ရာလမ်း မမြင်သည့် တစ်နေ့တွင် သူ့ကိုယ်သူ အဆုံးစီရင်သွားခဲ့သည်။

သေခြင်းနှင့် နေခြင်း နှစ်ခုအနက် သေတာက သက်သာပေသေးသည်ဟု ရွေးချယ်ရလောက်အောင် သူ့ဘဝဆိုးဝါးခဲ့သည် ဟုဆိုရပါမည်။

# ခွဲဝေမှု ပြဿနာ

ကျွန်တော်တို့ ငယ်ငယ်တုန်းက အဝေမတတ် ဆရာဝတ်ဟု မကြာခဏ ပြောဖူးကြ၏။

သူများကို ပြောသလို၊ ကိုယ်တိုင်လည်း အပြောခံရ၏။

သမားရိုးကျ စကားပြောရသော်၊ ကလေးတုန်းက ရိုးသားကြ၏။ သမားရိုးကျ မဟုတ်သော စကားကို ဆိုရသော် ကလေးတုန်းကတော့ နည်းနည်းပဲ သိ၏။ 'ဝေ'သည် ဆိုတာ အားလုံး အညီအမျှ ရအောင် ဖြန့်ခွဲပေးခြင်း ဖြစ်သည်ဟု သူ့မူရင်း အဓိပ္ပာယ်အတိုင်း နားလည်၏။

ထို့ကြောင့်၊ အညီအမျှ ဖြစ်အောင် ကြိုးစား ခွဲဝေကြ၏။ ပြီးလျှင် ဘယ်သူ့ ဘယ်သူမှ ကြေညာ ပြောဆိုစရာ မလိုသည့် တရားမျှတမှု သဘောအရ ဝေပုံချသူက နောက်ဆုံးမှ ရွေးရ၏။ ထို့ကြောင့်လည်း ကလေးတုန်းကမှ ခွဲဝေသူသည် အနည်းဆုံး အပုံကို ရမြဲဖြစ်၏။ အဲဒါမှာမှ ဥပမာ မုန့်ဆိုလျှင် လှီးတာ ချွတ်တာ နေရာမကျလျှင် နည်းနည်းပါးပါး မဟုတ်၊ များများ ကြီးသေးသည့် အပုံကိုမှ ဝေသူရ၏။

ထို့ကြောင့် အဝေမတတ် ဆရာဝတ်ဟု ဆိုလေ့ရှိကြခြင်း ဖြစ်ပါသည်၊



နည်းနည်းလေး ကြီးလာသောအခါ ဆရာတို့ အငတ်မခံကြတော့ပေ၊

တစ်ခါတုန်းက ကျေးလက် ပုံပြင်တစ်ခု ရှိ၏။

ညီအစ်ကို နှစ်ယောက် တခြား ရွာက မိတ်ဆွေများနှင့် အတူ အမဲလိုက်၍ အသားဝေစုရလာကြ၏။ သူတို့ ရွာနား ပြန်ရောက်သည့်အခါ ကိုယ့်အိမ်ကိုယ် မပြန်မီ လယ်ကွင်းထဲ ထိုင်ပြီး ညီအစ်ကို နှစ်ယောက် ဝေစုခွဲကြ၏၊

လယ်ကွက်ထဲ ဖက်ကလေးခင်းကာ အစ်ကိုကြီးက အသားကို နှစ်ပုံ ပုံသည်။ သူက အဝေမတတ် ဆရာဝတ် ဖြစ်မှာ ကြောက်သူဆိုသော ဖက်ခင်းကတည်းက တစ်ခုကို ချိုင့်ခွက်နေရာမှာ ခင်းပြီး တစ်ခုကို ငြင်ညီမှာ ခင်းသည်။ ဒါကို ညီဖြစ်သူကလည်း မြင်သည်။

အသားနှစ်ပုံ ပုံပြီးပြီဆိုတော့ အစ်ကိုကြီးက 'ကဲ... မင်း ကြိုက်တာရွေး' ဟုဆိုသည်။

ညီဖြစ်သူက လက်မြန်ခြေမြန်ပင် ချိုင့်ခွက်ထဲက အပုံကို လှမ်းယူတော့ အစ်ကိုကြီး ရုတ်တရက် ဘာလုပ်ရမှန်းမသိ ဖြစ်သွားသည်၊ သို့သော် အစ်ကိုနှင့် အသက်... အဲ၊ မျက်နှာပူတာနှင့် ထိခိုက်နစ်နာတာ မလဲနိုင်တော့ ကာနံ့သာတင်း

လှမ်း၍ တားသည်။

'နေဦးကွ၊ နေဦး၊ ငါ ပြန်ပုံမယ်'

ပုံပြင်က အဲသည်လောက်အထိပဲ ကျွန်တော် ကြားဖူးပါသည်။ သည်လောက်နှင့်ပင် လုံလောက်သောကြောင့်လည်း ဖြစ်ပါလိမ့်မည်။

သို့သော်၊ ဇာတ်လမ်း ဘယ်လို ဆုံးသလဲ သိချင်မည့် ပရိသတ်အတွက် စဉ်းစားပြီး ပြောရမည်ဆိုလျှင်၊

အစ်ကိုကြီးက ပြန်ပုံပါသည်။ သည်အခါမှာလည်း ဘယ်အပုံ များသည်ကို *ညီဖြစ်သူ မြင်ပါသည်။ သို့သော် အဲဒါကို ယူလိုက်လျှင် အစ်ကိုကြီး* မျက်နှာပျက်မည်၊ သို့သော် ပျက်သည့်ကြားကပဲ ငါ ပြန်ပုံမယ်ဟု ဆိုဦးမည်။ အဲဒီတော့ မြန်မြန် ကိစ္စပြီးအောင် နည်းတဲ့အပုံပဲ ငါယူလိုက်တော့မည် ... စသဖြင့် စဉ်းစားရာက တစ်ခု သတိရသည်။ ... မဖြစ်သေးဘူး။ အဲဒါဆိုရင် အစ်ကိုကြီးက 'အေး၊ ဟုတ်ပြီ၊ မင်း ကြိုက်တာရပြီ မဟုတ်လား၊ မင်း ကျေနပ်ရင် ပြီးရော၊ ကျန်တာ ငါယူမယ်' ဆိုပြီးမှ များသည့် အပုံကို သူ ယူလိမ့်မည်။ အဲဒီတော့ မထူးပါဘူး။ 'အစ်ကိုကြီးက အစ်ကိုပဲ၊ အစ်ကိုကြီး မျှမျှတတ ပုံထားပြီးသားဥစ္စာ အစ်ကိုကြီးပဲ အရင်ယူလိုက်ပါ' လို့ ပြောမည်။... အဲသလိုဖြင့် ဝေပုံချသည့် ကိစ္စပြီးစီးသွားမည် ထင်ပါသည်။



အဲဒါက အဝေမတတ် ဆရာဝတ် အဆင့်ကို လွန်လာသည်၊ သို့သော် သိပ်လည်း သပ်သပ်ရပ်ရပ် မဝေတတ်သေးသည့် အစ်ကိုကြီး၏ ဝေနည်း ဖြစ်သည်။

သိပ်ဝေတတ်သဖြင့် ကိုယ်နှင့် ဘာမှမဆိုင်ဘဲ ဝေစုကောင်းရသွားသူတစ်ဦး အကြောင်းကို အများသိကြပါသည်။

ဇာတ်လမ်းစတာက ဖျံနှစ်ကောင်။

ဖျံနှစ်ကောင် ပူးပေါင်းကာ ငါးကြင်းတစ်ကောင် ဖမ်း၍ ရလာသည်။ ဖမ်းတုန်းက ညီညီညာညာ၊ သူက ဟိုဘက်ကလိုက်၊ ကိုယ်က သည်ဘက်ကခြောက်။

ငါးရပြီ ဆိုကာမှ ပြဿနာ တက်သည်။

နှစ်ကောင်လုံးက ဝမ်းပျဉ်းသားလို့ခေါ်သည့် ဗိုက်သား အိအိကလေးကို ကြိုက်သည်။ အဆီများများ အသား နည်းနည်း၊ သို့သော် အားလုံး သိကြသည့်အတိုင်း စားလို့ အင်မတန် အရသာရှိသည့် အပိုင်း။ ခေတ်ကာလ အယူအဆအရ ပြောလျှင်လည်း omega-3 fatty acid လို့ခေါ်သည့် ဆေးဖက်ဝင် ငါးအဆီတွေ များများ ပါနေသည်ဖြစ်ရာ ဖျံနှစ်ကောင်လုံး လက်မလွှတ်ချင်ကြ။

ခက်သည်က ဝမ်းပျဉ်းသား၏ တည်နေရာ ဖြစ်သည်။ ငါးကို အလယ်က ဒိုင်းကနဲ ပိုင်းလိုက်လျှင်၊...

အဲ၊ အလယ်ဆိုတာ ဘယ်နားကလဲ။

နှုတ်သီးဖျားက အမြီးဖျားအထိ တိုင်း၊ အလယ်တည့်တည့်က ပိုင်းလျှင်၊... အမြီးပိုင်း ယူချင်သူက ဘယ်ကြိုက်မည်လဲ။ ဟိုး အဖျားမှာ ဘာပါတာ မှတ်လို့၊ အမြီးရင်း အထိပဲတိုင်းမှ သဘာဝကျမည်။ အဲသလို ဖြစ်စေချင်သည်။ သို့သော် သည်လို ဆိုပြန်တော့လည်း ခေါင်းပိုင်း စိတ်ဝင်စားသူက ဟာ ခေါင်းပိုင်းမှာ အရိုးတွေချည်းပဲဗျာ၊ (အမှန်တော့ သူက အရိုးကိုက်ရတာ ကြိုက်လို့ ခေါင်းပိုင်းကို လိုချင်တာ ဖြစ်သည်၊) အောက်ဘက် နည်းနည်းတိုးပေးမှ ကျုပ်က အသားစားရမှာပေါ့။ အဲသလို ဆိုမည်။

အဲသည်တော့ တကယ် မျှတအောင်ဆိုလျှင် ငါးကို ခြေဆုံး ခေါင်းဆုံး ထက်ခြမ်းခွဲမှ ဖြစ်တော့မည်။ သို့သော် အဲသည်တုန်းက နည်းပညာဖြင့် (အခု နည်းပညာကော ဘာမို့လို့လဲ၊) ငါးကို ခြေဆုံး ခေါင်းဆုံး အမြီးယပ်ပါ ထက်ခြမ်းခွဲဖို့ဆိုတာ လွယ်သည် မဟုတ်။

ထားပါတော့။ ကျွန်တော်ဘာသာ လျှောက်တွေးနေတာ ဖြစ်သည်။ ဖျံနှစ်ကောင်ကတော့ ငါးလည်း ရရော၊ ဝမ်းပျဉ်းသားကို လုဖို့ ကြိုးစားရင်း တစ်ကောင် တစ်ကောင် ကိုက်ကြ ခဲကြဖို့ပဲ များပါသည်။

အဲသည်အချိန်၊ ဒါမျိုး ချောင်းနေသည့် မြေခွေးက ရောက်လာ...။

'ဟ၊ ဘယ်လိုလဲဟ၊ ကိုယ့်အမျိုးသား အချင်းချင်း ဘယ်လို ဖြစ်ကြတာတုန်း၊ ကြည့်မကောင်းပါဘူးကွာ၊...'

အဲသည်အခါ ဖျံနှစ်ကောင်က၊

'.....................'

'.....................'

'ဟာကွာ၊ ငါးတစ်ကောင်အတွက်နဲ့တော့ ဒီလောက် မဖြစ်ကြပါနဲ့၊ အေးအေးဆေးဆေး လုပ်ပါ၊ ငါစီစဉ်ပေးပါ့မယ်'

'.....................'

'.....................'

'မျှမျှတတ ဖြစ်စေရမှာပေါ့ကွာ၊ ခေါင်းသမားလည်း အရိုးမများစေရဘူး၊ အမြီးသမားအတွက်လည်း အသားပါရစေမယ်၊ သဘောတူသလား'

'တူတယ်ဗျာ၊ ကျုပ်တို့ချည်းဆို ဒီကိစ္စ ပြတ်မှာ မဟုတ်ဘူး ခင်ဗျား ကူရှင်းမှပဲ၊...' နှစ်ကောင် သံပြိုင်ဆိုတော့၊

မြေခွေးက အနားက ဖြတ်သွားသည့် လူတစ်ယောက်ဆီက ဓားတစ်ချောင်း လှမ်းတောင်း၊ ငါးကြင်းကို ဒိုင်းကနဲ ဒိုင်းကနဲ ပိုင်း၊

'ဈေး၊ ခင်ဗျားက အမြီးပိုင်း ရှည်ရှည် ဗျ၊ ခင်ဗျားက ခေါင်းပိုင်းကြိုက်တဲ့သူ ခေါင်းပိုင်း ကြီးကြီးဗျ၊ ကျုပ်က ခွဲဝေပေးရတဲ့သူ၊ အလယ်ပိုင်း သေးသေးယူမယ်ဗျ၊ အားလုံး အဆင်ပြေပြေဟန်ကျတဲ့ win-win-win situation ပေါ့ဗျာ' ဆိုပြီး ဝမ်းပျဉ်းသားလေးကို ဖျတ်ခနဲ ထိုးဟပ်စားသွားသည့်အခါ ဖျံနှစ်ကောင် ငေါင်၍ ကျစ်ရစ်သည်။

အဲဒါက ဝေတတ်သဖြင့် ဆရာစား ချန်ပြီး၊ အဲ ... ဆရာ့အတွက် ကောင်းသည့်အပိုင်း သတ်သတ်ထားပြီး ဝေသွားခြင်း ဖြစ်သည်။ ဖျံတွေ လည်သည်ဆိုတာလောက်တော့ မြေခွေးက ရယ်သည်ပေါ့။



သို့သော်၊ မြေခွေးလို ဉာဏ်နီဉာဏ်နက် သုံးစရာမလိုဘဲ ကိုယ်ကြိုက်တာ ကြိုက်သမျှရအောင် ဝေပုံချသော နည်းလည်း ရှိပါသည်။

ဂရိပုံပြင်ဆရာကြီး အီစွပ်၏ ပုံပြင်တစ်ပုဒ်ထဲမှာ ဖြစ်သည်။

တစ်ခါ၌၊ မြေခွေး၊ ခွေးအနှင့် ဝံပုလွေတို့ ခြင်္သေ့နှင့်အတူ အမဲလိုက်ကြသည်။ ဆတ်ကြီးတစ်ကောင်ကို ဝိုင်းဝန်းပိတ်ဆို့၍ ဖမ်းကြရာ အသေရမိလေသည်။ ရပြီးသည့်အခါ ဘယ်လို ခွဲဝေယူမလဲ စဉ်းစားကြသည်။ ကြံရာမရ ယောင်ဝါးဝါး ဖြစ်နေသည့်အခါ ခြင်္သေ့က ဝေါင်းကနဲ တစ်ချက် ဟိန်းလိုက်ပြီး 'ဆတ်ကို လေးပုံ ပုံကြဟေ့' ဟုဆိုသည်။

မြေခွေး၊ ခွေးအနှင့် ဝံပုလွေတို့ ဆတ်ကို အလျင်အမြန် အရေဆုတ်ကာ အသားကို လေးပုံ ပုံသည်။ ထို့နောက်တွင် ခြင်္သေ့က အသားပုံများ ရှေ့တွင် ရပ်ကာ 'ပထမတစ်ပုံကို တိရစ္ဆာန်တို့ရဲ့အရှင် တောဘုရင် အဖြစ် ငါယူမယ်၊ ဒုတိယတစ်ပုံကို ခွဲဝေရေးမှာ တာဝန်ယူ ဆောင်ရွက်ပေးရသူအဖြစ် ငါ ရသင့်တယ်၊ တတိယတစ်ပုံကတော့ အမဲလိုက်ရာမှာ ကိုယ်တိုင်ပါဝင်ခဲ့သူ ဖြစ်တဲ့အတွက် ငါနဲ့ ဆိုင်တယ်၊ အဲ၊ ကျန်တဲ့ စတုတ္ထအပုံကိုတော့ မင်းတို့ သုံးယောက် ဝေယူကြပေါ့ကွာ' ဆိုပြီး ပေးထားခဲ့သည့်အခါ မြေခွေး၊ ခွေးအနှင့် ဝံပုလွေတို့ အချင်းချင်း လှယက်ရင်း ကျန်ခဲ့ကြလေသည် ဟူ၏။

[ မှတ်ချက် ။ ။ သည်ပုံပြင်ကို အကြောင်းပြု၍ lion's share ဟူသော စကားတစ်ခု ဝေစုခွဲသူများ လောကတွင် တွင်ကျန်ရစ်ခဲ့ပါသည်။ ]

## ပြည်သူ့ပညာတတ် သို့မဟုတ် လူမှုအသိရှိသော ပညာတတ်

ပညာတတ်ဟု ဆိုလိုက်လျှင် စာအုပ်စာတမ်းကျမ်းတွေ ပြေးမြင်တက်ကြသည်။ တက္ကသိုလ်ကောလိပ် စသည့် အဆင့်မြင့် ပညာသင်ကြားရာ နေရာများကိုလည်း အမှတ်ရကြသည်။

ပညာတတ် ဟူသည်ကို စာအုပ်စာတမ်း စာသင်ခန်းတို့နှင့် တွဲဖက်မှတ်သားတတ်ကြသော သဘော ဖြစ်သည်။

သည့်အပြင်၊

ပညာတတ် ဟူသည် တိုင်းပြည်အတွက် တန်ဖိုးရှိသော လူ့စွမ်းအားအရင်းအမြစ်တွေ ဖြစ်သည်။ သည်စွမ်းအားတွေ များများရှိမှ တိုင်းပြည်ဖွံ့ဖြိုးတိုးတက်မည်။ သည်ပုဂ္ဂိုလ်တွေသည် တိုင်းပြည်၏ ဦးနှောက်တွေ၊ နိုင်ငံတကာနှင့် ရင်ဆိုင်ယှဉ်ပြိုင်ရာ၌ ရှေ့ဆုံးတန်းက ရပ်ကြရမည့် သူတွေ၊ တစ်နည်းပြောရသော် တိုင်းပြည်အတွက် မရှိမဖြစ် ပုဂ္ဂိုလ်တွေ။

အဲသည်လိုလည်း တစ်ခါတစ်ရံ အမွှမ်းတင်ပြီး ရှုမြင်တတ်ကြသည်။

သို့သော် တစ်ဖက်မှာလည်း ပညာတတ်ဟူသည် လက်တွေ့ပတ်ဝန်းကျင်ထက် စိတ်ကူးကမ္ဘာမှာ ပို၍ မွေ့ပျော်သူ၊ အများပြည်သူနှင့် ကင်းကွာ၍ မိမိဘာသာ သို့မဟုတ် မိမိတို့ ပညာတတ်အဝန်းအဝိုင်းတွင်းမှာသာ တသီးတခြားနေတတ်သူ၊

ယင်းထက်ပို၍၊

လူ့အသိုင်းအဝိုင်းအတွင်း လူအများစုတို့ထက် မြင့်မားသော နေရာကို ရရှိကာ ယင်းနေရာအဆင့်၏ အထူးအခွင့်အရေးများကို ရယူ ခံစားလေ့ရှိကြသော်လည်း အများပြည်သူ၏ အရေးကိစ္စ၊ မိမိနေထိုင်ရာ ရပ်ရွာ၏ ကောင်းကျိုးဆိုးကျိုး ကိစ္စများတွင် ပါဝင်ခြင်း မရှိ၊ မသိကျိုးကျွံပြုကာ လွတ်ရာ ကျွတ်ရာရှောင်တိမ်းဘေးဖယ်နေတတ်သူ

စသဖြင့်လည်း ပြစ်တင် ဝေဖန်စိတ်ဖြင့် ရှုမြင်တတ်ကြပါသည်။

ပညာရပ် နယ်ပယ်တစ်ခုခု၌ အသိအမှတ်ပြုခံရသော အဆင့်ထိ ရောက်ရှိလာသူတစ်ဦးသည် မိမိပညာရပ်ဝန်းကျင်တွင် အဓိက ကျင်လည်ကာ ဦးနှောက်စိုက်ထုတ်သော အလုပ်၌ ကာလ ရှည်ကြာ ရင်နှီးမြုပ်နှံခဲ့ရမည်သာ ဖြစ်သည်။

ထို့ကြောင့် ယေဘုယျအားဖြင့် အများသူငါနှင့် နီးစပ်ကျွမ်းဝင်မှု နည်းပါးနိုင်ပါသည်။

သို့သော် ဘယ်လောက် သီးခြားနေမည်လဲ။ ဘယ်အတိုင်းအတာထိ ရောနှောပါဝင်မည်လဲ။

ကိုယ်တိုင် ပညာတတ်တစ်ဦးဖြစ်သူ အီမာဆင် (Ralph Waldo Emerson ၁၈၀၃ – ၈၂) ကတော့ သူ ဖြစ်စေချင်သည့် ပညာတတ်နှင့် စပ်လျဉ်း၍၊

ပညာတတ်သည် အတိတ်က အသိပညာတွေဖြင့် ပြည့်ဝလာသူ ဖြစ်သော်လည်း စာအုပ်ပုံကြားမှာချည်း နေသူမဟုတ်၊ သူသည် သူ့ရှေ့က လူတို့၏ ကြီးကျယ်သော အတွေးအမြင် အယူအဆများ စိတ်ကူးစိတ်သန်းများကို သိမ်းဆည်း သိုမှီးသည်။ အစွန့်ရှည် တည်တံ့အောင် ထိန်းသိမ်းစောင့်ရှောက်သည်။ ဆက်လက် ပြန့်ပွားအောင် ဝေငှဖြန့်ချီသည်။ တစ်ချိန်တည်းတွင် အတွေးအမြင်သစ် စိတ်ကူးစိတ်သန်းသစ်များကိုလည်း သူကိုယ်တိုင် တီထွင်ဖန်တီးသည်။ ဤသို့အားဖြင့် သူသည် ကမ္ဘာလောက၏ မျက်စိ ဖြစ်လာသည်။ ကမ္ဘာ့မျက်စိ ဆိုသည့်အတိုင်း သူတွေ့ရှိသိမြင်သည်များ သူ့စိတ်ကူး စိတ်သန်းများကို ပညာတတ် အသိုင်းအဝိုင်းတွင်းသာမက လူ့အသိုင်းအဝိုင်းတစ်ခုလုံးသို့ပါ ဖြန့်ချီသည် ဟူ၍ ဆိုခဲ့သည်။

သည့်အအပြင် အီမာဆင်က၊ ပညာတတ်၏ အရေးပါဆုံး အလုပ်သည် လက်တွေ့လုပ်ဆောင်မှု (action) ဖြစ်၍ လက်တွေ့ မလုပ်ဆောင်ခြင်း (inaction) ကား သူရဲဘောကြောင်ခြင်း ဖြစ်သည် ဟူ၍လည်း ဆိုပါသည်။

အီမာဆင် နောက် နှစ်ပေါင်း ၁၅၀ ခန့်အကြာ သည်ဘက်ခေတ်၌ ပါလက်စတိုင်း အမေရိကန် စာပေပညာရှင် အက်ဒဝပ် ဆာယီ(ဒ) (Edward Said ၁၉၃၅ – ၂၀၀၅) ကလည်း သည်သဘောကိုပင် ပို၍ နိုင်ငံရေးဆန်သော လေသံဖြင့် ပြောပါသည်။ ဆာယီ(ဒ)၏ စာတမ်းတွင် လူ့အဖွဲ့အစည်းအတွင်း ပညာတတ်၏ အခန်းကဏ္ဍသည် အလွန် အရေးပါကြောင်း၊ သူသည် အတွေးအမြင် အယူအဆတစ်ရပ်၊ ကိစ္စတစ်စုံတစ်ရာနှင့် ပတ်သက်သော သဘောထား၊ သို့မဟုတ် အကြောင်းအရာ အချက်အလက်တစ်ခုကို အများပြည်သူသို့ ဖြစ်စေ၊ အများပြည်သူအတွက် ဖြစ်စေ ကိုယ်စားပြု တင်ပြပြောဆိုနိုင်သော စွမ်းအားရှိသူဖြစ်ကြောင်း၊ သူသည် သမားရိုးကျ အယူအစွဲများနှင့် တရားသေဝါဒများကို ရင်ဆိုင်ကာ၊ မေ့လျော့ပစ်ပယ်ခံ လူပုဂ္ဂိုလ်များနှင့် ပြဿနာရပ်များ အရေးအတွက် ဆောင်ရွက်တတ်ပြီး ယင်းသို့ ဆောင်ရွက်ရာ၌လည်း လွတ်လပ်မှု၊ တရားမျှတမှု စသည့် လူသားအားလုံးနှင့်ဆိုင်သော အခြေခံမှုများ အပေါ်တွင် ခိုင်မာစွာ ရပ်တည်တတ်သူဖြစ်ကြောင်း ဖော်ပြထားသည်။

အီမာဆင်နှင့် ဆာယီ(ဒ)တို့ ဘာကို တိုက်တွန်းနေကြပါသနည်း။

ဆင်စွယ်မျှော်စင် (ivory tower) ဟုခေါ်ဝေါ်ကြသည့် စိတ်ကူးကမ္ဘာမှာချည်း မနေဘဲ လက်တွေ့လောကထဲ ထွက်လာဖို့၊ အစဉ်အလာ အယူအစွဲများ၊ အများကြိုက် အမြင်များကို ရောယောင် ခေါင်းညိတ်မနေဘဲ အရှိပကတိ အနေအထားကို လူအများ သိမြင်လာအောင် ရှင်းလင်း တင်ပြဖို့၊ တစ်နည်းပြောရသော်

မိမိ၏ စူးရှသော ဉာဏ်အမြင်ဖြင့် အများကို ဦးဆောင်ဦးရွက်ပြုဖို့ ပညာတတ်များအား တိုက်တွန်းနေခြင်း ဖြစ်သည်။

သို့သော် အစဦးအလာ၊ အယူအစွဲများကြားမှာ အယူအဆအသစ်တစ်ခု ထုတ်ဖော်တင်ပြရသော အလုပ်သည် လွယ်ကူသည် မဟုတ်ပါ။ အီမာဆင်ကတော့ သည်အလုပ်မျိုး လုပ်ရမှာ တွန့်ဆုတ်သော ပညာတတ်အား သူရဲဘောကြောင်သူ ဟုဆိုလိုက်ပါသည်။ သူပြောသည့်အတိုင်း တကယ်လည်း တွန့်ဆုတ်ခဲ့သူတွေ အမြောက်အမြား ရှိခဲ့ပါလိမ့်မည်။ သို့သော် သူရဲဘော မကြောင်ခဲ့သူတွေလည်း အသိပညာ သမိုင်းတစ်လျှောက် မြောက်မြားစွာပင် ရှိခဲ့ပါသည်။

ဥပမာ သိပ္ပံပညာ ခေတ်ဦးက နေဗဟိုပြု သီအိုရီ (Heliocentric Theroy) ကို တင်ပြခဲ့သည့် ပုဂ္ဂိုလ်များ။

နေ့စဉ်နေ့တိုင်း အရှေ့က နေထွက်ပြီး အနောက်ဘက် နေဝင်တာ မြင်နေရသည့် ကမ္ဘာသားတို့အား နေကြီးက ကမ္ဘာကို ပတ်နေတာ ဟုပြောသည့်အခါ၊ အော် ဟုတ်ပေးသားပဲဟု သဘောကျစွာ ခေါင်းညိတ်ခဲ့ကြပါလိမ့်မည်။ သို့သော် မိမိရှေ့က ပုဂ္ဂိုလ်တွေ၏ စာအုပ်စာတမ်းတွေ ဖတ်၊ ကိုယ်တိုင် စူးစမ်းရှာဖွေ တွေ့ရှိချက်တွေနှင့် ပေါင်းစပ်ကာ နေက ကမ္ဘာကို ပတ်နေခြင်း မဟုတ်၊ ကမ္ဘာကသာ နေကို လှည့်ပတ်နေခြင်း ဖြစ်သည်ဟု စတင်သိမြင်ပြီး အဲသည် အချက်ကို အများသိအောင် ထုတ်ဖော်ပြောဆိုရသော ပညာတတ်၏ အလုပ်သည် မည်မျှခက်ခဲပါလေမည်နည်း။

သူသည် အနိမ့်ဆုံးအားဖြင့် ဘာမှ မသိ နားမလည်သူတွေက အရူးဟု ပြောတာခံရနိုင်သည်။ သို့သော် ပို၍ အန္တရာယ် ကြီးမားသည်က နေကသာ ကမ္ဘာကိုပတ်သည် ဟူသော ကမ္ဘာဗဟိုပြု (Geocentric) အယူအဆတို့ ဘာသာရေးနှင့် ချိတ်ဆက်ထားသည့် သာသနာပိုင်အာဏာပိုင်များနှင့် ထိပ်တိုက် ရင်ဆိုင်တွေ့ရနိုင်သည့် ကိစ္စ ဖြစ်သည်။

သည်ကြားထဲကပင် ကော့ပါးနီကပ်(စ) (Nicolaus Copernicus ၁၄၇၃ – ၁၅၄၃) သည် နေဗဟိုပြု အယူအဆကို ထုတ်ဖော်ခဲ့သည်။ သို့သော် ယင်းနှင့်စပ်လျဉ်းသည့် စာတမ်းအကျဉ်းကို ၁၅၁၄ လောက်က စတင်၍ ပညာသမား အဝန်းအဝိုင်းအတွင်း လက်ရေးမူဖြင့် ဖြန့်ချိခဲ့သော်လည်း စာတမ်း အပြည့်အစုံကိုမူ ၁၅၃၀ ခုနှစ်တွင် ရေးသားပြီးစီးပြီး၊ သူကွယ်လွန်မည့် ရက်ပိုင်းလောက်ကျမှသာ ပုံနှိပ် ထုတ်ဝေဖြစ်ခဲ့ရာ၊ ပြင်းထန်သော တုံ့ပြန်မှု များကို သူ ရှောင်လွှဲနိုင်ခဲ့သည်။

သို့သော် ကော့ပါးနီကပ်(စ) စာတမ်းကို ဖတ်ရှုပြီး ကိုယ်တိုင်တီထွင်သော တယ်လီစကုပ်တစ်ခုဖြင့်လည်း အာကာသကို စူးစမ်းလေ့လာခဲ့သည့် သိပ္ပံ ပညာရှင်ကြီး ဂယ်လီလီယို (Galileo Galilei ၁၅၆၄ – ၁၆၄၂) ကလည်း ထိုအယူအဆကို

ဆောက်ခံသော စာတမ်းများ ရေးသည့်အခါ ကတ်သလစ် ခရစ်ယာန်အသင်းတော်နှင့် ပြဿနာ တက်သည်။ သူ့အား မိစ္ဆာဝါဒများ စစ်ဆေးသည့် ဆိုသောဘာသာရေး တရားရုံးက အကြိမ်ကြိမ်ခေါ်၍ စစ်ဆေးမေးမြန်းခြင်း၊ ခြိမ်းခြောက်ခြင်း၊ ဖမ်းဆီ ချုပ်နှောင်ခြင်း၊ နှိပ်စက်ညှဉ်းဆဲခြင်းများ ပြုလုပ်ပြီး သူ့အယူအဆကို စာဖြင့်ဖြစ်စေ နှုတ်ဖြင့်ဖြစ်စေ ဖြန့်ချိမှု မပြုရန် ပိတ်ပင်တားမြစ်သည်။ နောက်တွင် သူ့အား မိစ္ဆာအယူများ စွန့်လွှတ်ကြောင်း အတင်းအကျပ် ဝန်ခံကတိပြုစေပြီး နေအိမ်၌ပင် ကွယ်လွန်သည်အထိ အကျယ်ချုပ်နှင့် နေထိုင်စေခဲ့သည်။

ဂယ်လီလီယိုက စွန့်လွှတ်ကြောင်း ကတိပြုခဲ့သဖြင့် လတ်တလော အသက်ဘေးမှ လွတ်မြောက်ခဲ့သော်လည်း မိမိအယူအဆကို စွန့်လွှတ်စရာ အကြောင်းမရှိ၊ ဘယ်သောအခါမှလည်း၊ စွန့်လွှတ်လိမ့်မည့် မဟုတ်ဟု မိစ္ဆာဝါဒ တရားရုံးမှ တရားသူကြီးများအား ထိပ်တိုက်ဆန့်ကျင်ပြောဆိုခဲ့သူ ဂျော်ဒါနို ဘရူးနိုး (Giordano Bruno ၁၅၄၈ – ၁၆၀၀) မှာမူ ကက်သလစ် အသင်းတော်က လက်မခံသည့် ထိုအယူအဆကို ကိုင်စွဲ ဖြန့်ချိခဲ့ခြင်းအတွက် ကားစင်တင်၍ မီးရှို့စီရင်ခြင်း ခံခဲ့ရပေသည်။

ဤသည်က နမူနာသဘော ပြောခြင်း ဖြစ်ပါသည်။

စင်စစ် ကျောက်ခေတ်နှင့် ယင်းမတိုင်မီမှသည် ယနေ့အထိ ဖွံ့ဖြိုးတိုးတက်လာခဲ့သည့် လူ့သမိုင်းကြောင်းကို ကြည့်လျှင် ရုပ်ဝတ္ထု ယဉ်ကျေးမှု အဆောက်အအုံကြီး၏ ဖြစ်ပေါ်မှု အဆင့်ကြီးငယ်တိုင်းတွင် ရှေ့ပြေးအဖြစ် စိတ်ကူးဉာဏ်သစ် အယူအဆသစ်တို့ ဦးစွာ ပေါ်ပေါက်ခဲ့ရသည် ဖြစ်ရာ၊ အယူအဆဟောင်း ပညာဟောင်းများကြားမှာ အသစ်အသစ်တွေ စွန့်စားဖော်ထုတ်ခဲ့ရသည့် ပညာသမား မြောက်မြားစွာ ရှိခဲ့မည် ဖြစ်ကြောင်း ခန့်မှန်းမိနိုင်သည်။



ပညာတတ်နှင့် လူ့အဖွဲ့အစည်း ကိစ္စ သို့မဟုတ် လူ့အဖွဲ့အစည်းအတွင်း ပညာတတ်၏ အခန်းကဏ္ဍနှင့် စပ်လျဉ်း၍ အစဉ်အဆက် စဉ်းစား သုံးသပ်မှုများ ရှိခဲ့သည်။ ပညာတတ်တွေကိုယ်တိုင် စဉ်းစားသည်၊ အခြားသူများကလည်း စဉ်းစားကြသည်။

အသိပညာရှင် အတတ်ပညာရှင်တွေသည် တိုင်းပြည်အတွက် တန်ဖိုးရှိသည်။ ၎င်းတို့ကို ထိရောက်စွာအသုံးချရမည်။ နိုင်ငံဖွံ့ဖြိုးရေး ယန္တရားများ ပင်နယန်ကောင်း ချွေးသားစိပ်ကောင်းများအဖြစ် သင့်တော်ရာ နေရာဌာန အသီးသီးမှာ အံဝင်ခွင်ကျ ပါဝင် လည်ပတ်ကြအောင် ထိန်းကျောင်း လေ့ကျင့်

ပေးရမည်ဟု စဉ်စား စီမံကြသူတွေ ရှိသလို၊ တိုင်းပြည်ကို ပညာရှင်တွေ ဦးဆောင်မှ ဖြစ်မည်၊ အတွေးအမြင် ကြွယ်ဝသော ရှင်ဘုရင် (philosopher king) သို့မဟုတ် ပညာတတ် ခေါင်းဆောင်သာလျှင် တိုင်းပြည်သာယာ ဝပြောအောင် ဆောင်ကြဉ်းပေးနိုင်မည့် အသင့်တော်ဆုံး ပုဂ္ဂိုလ်ဖြစ်သည်ဟု ရှုမြင်ကြသူများလည်းရှိသည်။

ဤသည်က ပညာတတ်ကို လက်အောက်ခံအဖြစ် ထားရှိလိုသူနှင့် ပညာတတ်ကို ခေါင်းဆောင် တင်လိုသူတို့၏ အစွန်းနှစ်ဖက်က အမြင်များ ဖြစ်သည်။

နေရာအဆင့် သတ်မှတ်ရာမှာ ကွဲလွဲကြသော်လည်း ပညာတတ်၏ အရေးပါမှုကို အသိအမှတ်ပြုရာ၌ကား တူညီကြသည် ဟုဆိုရလိမ့်မည်။

သည်ဘက်ခေတ်တွင် လူ့အဖွဲ့အစည်း၏ အရေးအရာများ၌ ပညာတတ်တို့ ပါဝင် ပတ်သက်ပုံ အကြောင်းကို သုံးသပ် လေ့လာ ရေးသားမှုများ ပိုမို တိုးပွားလာပြီး တစ်ချိန်တည်းတွင် ပြည်သူ့ပညာတတ် (public intellectual) ဟူသောစကားရပ်များကိုလည်း တွင်တွင်ကျယ်ကျယ် သုံးစွဲလာခဲ့ကြပါသည်။

ဗြိတိန်ပြည်မှ ထုတ်ဝေသည့် Prospect မဂ္ဂဇင်းသည် အမေရိကန်ပြည်ထုတ် Foreign Policy မဂ္ဂဇင်းနှင့် ပူးတွဲ၍ ၂၀၀၅ ခုနှစ်တွင် တစ်ကြိမ်၊ ၂၀၀၈ ခုနှစ်တွင် တစ်ကြိမ်၊ ကမ္ဘာ့ထိပ်သီး၊ ပြည်သူ့ပညာတတ် ၁၀၀ (Top 100 Public Intellectuals) တို့၏ အမည်များကို နေရာ အဆင့်အလိုက် တန်းစီ၍ ၎င်းတို့၏ ဆောင်ရွက်ချက်များနှင့်တကွ စာရင်းပြုစု ဖော်ပြပေးခဲ့သည်။

Prospect မဂ္ဂဇင်းက public intellectual ကို အဓိပ္ပာယ်ဖွင့်သည့်အခါ၊ public intellectual ဟူသည် မိမိ ပညာရပ်နယ်ပယ်၌ ထူးချွန် ထင်ရှားသူ၊ မိမိ၏ အတွေးအမြင် အယူအဆများကို ရှင်းလင်းတင်ပြနိုင်စွမ်းရှိ၍ မိမိ ပညာရပ်နယ်ပယ် ပြင်ပရှိ ဆွေးနွေးဝေဖန်ရာများ၌ပါ မိမိ အမြင်များ လွှမ်းမိုးစေနိုင်သူမျိုးကို ဆိုလိုကြောင်း ဖော်ပြခဲ့ပြီး၊ ပုဂ္ဂိုလ်များ ရွေးချယ်ရာ၌ ပညာစွမ်းရည်ထက် အများပြည်သူ လေးစားသိမှတ်မှုကို အဓိကထား စဉ်းစားခဲ့သည် ဟုဆိုပါသည်။

၎င်းတို့ ရွေးချယ်ခဲ့သည့် သက်ရှိထင်ရှား ပြည်သူ့ပညာတတ်စာရင်းများ ထဲတွင်

စီးပွားရေးနှင့် ဖွံ့ဖြိုး တိုးတက်ရေးဆိုင်ရာ ပညာရှင်များ၊

စာရေးဆရာ၊ သတင်းစာ ဆရာ၊ စာနယ်ဇင်း ပင်တိုင် ဆောင်းပါးရှင်များ

ရှေ့နေ၊ တရားသူကြီး စသည့် ဥပဒေပညာရှင်များ၊

နိုင်ငံရေး ဝေဖန်သူ၊ နိုင်ငံရေး သိပ္ပံပညာရှင်နှင့် နိုင်ငံရေး သင်ကြားသော တက္ကသိုလ် ဆရာများ၊

တွေးခေါ်ရှင်၊ သမိုင်းပညာရှင်၊ လူမှုရေး သိပ္ပံပညာရှင်များ၊

ပတ်ဝန်းကျင် ထိန်းသိမ်းရေး ပညာရှင်၊ ရူပဗေဒ ပညာရှင်၊ ဆေးပညာရှင်များ၊

*ဘာသာဗေဒ ပညာရှင်၊ စာရင်းအင်း ပညာရှင်၊ ကွန်ပျူတာ သိပ္ပံပညာရှင်များ၊*

ဘာသာရေး တွေးခေါ်ရှင်၊ ဘာသာရေး ပညာရှင်နှင့် ဘာသာရေး ခေါင်းဆောင်များ၊

စသည့် အသိပညာ နယ်ပယ်စုံမှ ပုဂ္ဂိုလ်များ ပါဝင်သည်။





အတွေးအမြင် အယူအဆများ၊ စာအုပ်စာတမ်းများဖြင့် အလုပ်လုပ်သူတစ်ဦးအဖြစ် မိမိကိုယ်ကို ဖော်ပြသူ အလန်လိုက်တမင်း (Alan Lightman) က တက္ကသိုလ် ပညာတတ်တစ်ဦး ပြည်သူ့ပညာတတ် အဖြစ်သို့ ပြောင်းလဲ ဖြစ်ပေါ်ပုံနှင့် ပြည်သူ့ရေးရာ နယ်ပယ်၌ သူ၏ စွမ်းဆောင်ရည် အဆင့်ဆင့် တိုးမြင့်သွားပုံ အကြောင်းကို သူ၏ The Role of the Public Intellectual စာတမ်း၌ လူပုဂ္ဂိုလ် သာဓကများနှင့် တကွ ရှင်းလင်း တင်ပြသည်။

သူက ပြည်သူ့ပညာတတ်တို့သည်

ပထမအဆင့်တွင် မိမိနှင့် တိုက်ရိုက် သက်ဆိုင်သော ပညာရပ်အကြောင်း သက်သက်ကို အများပြည်သူသို့ ဟောပြောပို့ချခြင်း၊ စာအုပ်စာတမ်း ရေးသား ဖြန့်ချိခြင်းများ ပြုလုပ်သည်။ ဥပမာ၊ တက္ကသိုလ်တွင် စီးပွားရေးပညာ သင်ကြားပို့ချနေသည့် စီးပွားရေးပညာရှင်က အများပြည်သူအား ပညာရပ် အကြောင်း ဟောပြောခြင်း၊ သို့မဟုတ် စီးပွားရေးပညာကို အများသူငါ ဖတ်ရှုနားလည်နိုင်မည့် စာအုပ်စာတမ်းများ ရေးသားခြင်းမျိုး ဖြစ်သည်။

ဒုတိယအဆင့်တွင် မိမိ ပညာရပ်အကြောင်း ရှင်းလင်းရုံသာမကဘဲ ယင်း ပညာရပ်ဆိုင်ရာ သဘောတရားများ သိမှတ် ယုံကြည်ချက်များကို လူမှုရေး နိုင်ငံရေး စသည့် လူ့အဖွဲ့အစည်း၏ အရေးအရာများနှင့် နှီးနွှယ် ပတ်သက် ချိတ်ဆက်လျက် ရေးသားခြင်း၊ ဟောပြောခြင်းများ ပြုလုပ်လာသည်။ ဥပမာ စီးပွားရေးပညာရှင်က မိမိတိုင်းပြည်၏ လက်ရှိ စီးပွားရေး အခြေအနေကို ဝေဖန်သုံးသပ်ခြင်း၊ လတ်တလော ဖြစ်ပေါ်သည့် စီးပွားရေး ပြဿနာတစ်ရပ် အကြောင်း အများ သိရှိ နားလည်အောင် ရှင်းလင်းတင်ပြခြင်း စသည်တို့ ဖြစ်သည်။

တတိယအဆင့်တွင် ပြည်သူ့ပညာတတ်သည် မိမိ ပညာရပ်နယ်ပယ်၌သာ မဟုတ်တော့ဘဲ၊ ၎င်းနယ်ပယ် ပြင်ပရှိ အများပြည်သူဆိုင်ရာ အရေးကိစ္စ

(public issue) များတွင်ပါ ပါဝင် ပတ်သက်လာသည်။ အကြောင်းက သူ၏ ပင်မနယ်ပယ်တွင် တတ်ကျွမ်းလိမ္မာမှု၊ အများပြည်သူကို အသိပညာ ဖြန့်ဝေ ပေးနိုင်မှုတို့ကြောင့် ထင်ရှားကျော်ကြားကာ အများ ပြည်သူ့၏ လေးစား ကြည်ညိုမှု ခံလာရသည့်အခါ၊ ပုဂ္ဂိုလ်ခင်၍ တရားမင်သော သဘောအရ လည်းကောင်း၊ ကြီးကျယ်သော ဉာဏ်ပညာကြောင့် အခြားကဏ္ဍနယ်ပယ် များတွင်ပါ အမြော်အမြင်ရှိသော ဝေဖန်ချက် မှတ်ချက် အကြံပြုချက်များ ပေးနိုင်လာခြင်းကြောင့် လည်းကောင်း၊ အများသူငါတို့က အကြောင်းအမျိုး ကြုံတိုင်း မေးမြန်းလာကြပြီး ၎င်းကလည်း နှုတ်ဖြင့် ပြောကြားခြင်း စာအုပ် စာတမ်း ရေးသားတင်ပြခြင်းများ ပြုလုပ်လာသောကြောင့် ဖြစ်သည်။ ဥပမာ ၁၉၁၉ ခုနှစ်တွင် ရီလေးတီးဗတီး သီအိုရီကြောင့် ထင်ရှားသွားပြီးနောက်၌ သိပ္ပံပညာရှင်ကြီး အိုင်စတိုင်း (Albert Einstein ၁၈၇၉ – ၁၉၅၅) သည် အများသူငါတို့ အလေးထား နာကြားရသော ပညာရှိ သုခမိန်တစ်ယောက် ဖြစ်လာသည်။ သူ့အား ကြီးမြတ်သော ပုဂ္ဂိုလ်တစ်ဦး၊ ကျိုးကြောင်း ဆင်ခြင်ဉာဏ် ပြည့်ဝသော လူသားတစ်ဦးအဖြစ် လေးစား ကြည်ညိုကာ ပရိသတ်တို့က ဘာသာရေး၊ ပညာရေး၊ ကိုယ်ကျင့်တရား၊ ဒဿနနှင့် ကမ္ဘာ့နိုင်ငံရေး စသည့် ကဏ္ဍနယ်ပယ်စုံမှ ပြဿနာပေါင်းစုံကို မေးမြန်းကာ သူ့အဖြေစကားများကို တလေးတစား မှတ်သားကြသည်။

၎င်းသည်ကား အများပြည်သူ့ရေးရာကို မိမိ စိတ်ဝင်စားလာ သကဲ့သို့ မိမိ၏ စွမ်းရည်နှင့် ပတ်သက်၍လည်း အများပြည်သူ၏ လေးစားသိမှတ်ခြင်း ခံရသော ပညာတတ်တို့ ပါဝင်ပတ်သက်မှုနယ်ပယ် ကျယ်ဝန်းလာပုံသဘောကို ဖော်ပြခြင်း ဖြစ်သည်။

၎င်းနေရာ၌ အလန်လိုက်တမင်းက တစ်ခုတော့ သတိပေးသည်။

တတိယအဆင့်သည် အလွန် တာဝန်ကြီးကြောင်းနှင့် ၎င်းအဆင့်ထဲသို့ အလွယ်တကူ ပေါ့ပေါ့တန်တန် ဝင်မသွားသင့်ကြောင်း သူက ထောက်ပြသည်။ အကြောင်းက ထိုအဆင့်၌ ပညာတတ်သည် မိမိ ပြည့်ပြည့်ဝဝ နားလည် တတ်ကျွမ်းခြင်း မရှိသည့် နယ်ပယ်ထဲသို့ ရောက်ရှိနေပြီး၊ ပရိသတ်ကမူ မိမိအား နယ်ပယ်သစ်တွင်လည်း လေးစားမြဲ လေးစား ယုံကြည်နေနိုင်သော အကယ်၍ မိမိ၏ ရေးသားပြောဆိုချက်တွေ လွဲမှားခဲ့သော် ထိုအမှား၏ သက်ရောက်မှုတွေ ကြီးကျယ်နေနိုင်သောကြောင့် ဖြစ်ကြောင်း သူက ဆိုသည်။



ပြည်သူ့ပညာတတ်တို့၏ သဘောကို ပို၍ ပီပြင်စွာ မြင်နိုင်စေရန်အတွက် Prospect ၏ ၂၀၀၅ ခုနှစ် စာရင်းတွင် နံပါတ် (၁) နေရာက ပါရှိခဲ့သူ နိုဝမ်း(မ)ချွမ်စကီး (Avram Noam Chomsky ၁၉၂၈ – ) အကြောင်း အကျဉ်းချုပ်၍ ဖော်ပြလိုက်ပါသည်။

အမေရိကန်ပြည်ဖွား ချွမ်စကီး၏ မိဘများသည် ယူကရိန်းနှင့် ဘယ်လာရုစ် နိုင်ငံတို့မှ ရွှေ့ပြောင်းလာခဲ့သော ဂျူးလူမျိုးများ ဖြစ်သည်။ ထို့ကြောင့် သူ ငယ်စဉ်က ဟေဗရူးစာပေ၊ ဂျူးယဉ်ကျေးမှုတို့နှင့် ကြီးပြင်းရသည်။ ကလေး ဘဝက ကြုံရဖူးသည့် ဂျာမန်နှင့် အိုင်းရစ် ကက်သလစ်များ၏ ဂျူး ဆန့်ကျင်ရေး လုပ်ရပ်များကြောင့် သူ့၌ ကက်သလစ် ဘာသာဝင်များအပေါ် ကြောက်ရွံ့စိတ် အမြစ်တွယ်ခဲ့သည်။ သူ့အသက် ၁၀ နှစ်မှာပင် ဖက်ဆစ်ဝါဒ ပြန့်ပွားမှု အန္တရာယ်အကြောင်း စာတစ်ပုဒ် ရေးသားခဲ့ဖူးသည်။

ချွမ်စကီးသည် အမေရိကန် တက္ကသိုလ်များ၌ ဒဿနိကဗေဒနှင့် ဘာသာ ဗေဒ ဘာသာရပ်များ သင်ယူခဲ့သည် ၁၉၅၅ ခုနှစ်တွင် ဘာသာဗေဒ ပါရဂူဘွဲ့ ရရှိခဲ့ပြီးနောက် ထိုစဉ်မှ စတင်ကာ MIT တက္ကသိုလ်၌ ပါမောက္ခအဖြစ် နှစ်ပေါင်း ၅၀ ကျော် ဆက်တိုက် ဆောင်ရွက်ခဲ့သည်။ ဘာသာဗေဒနယ်ပယ်တွင် များစွာ လွှမ်းမိုးခဲ့သည် generative grammar သီအိုရီကို ဖော်ထုတ်ခဲ့ခြင်းကြောင့် သူ့အား ဘာသာဗေဒပညာ ဖခင်ကြီးတစ်ဦးအဖြစ် ပညာရပ်လောကက အသိအမှတ်ပြုကြသည်။ ထို့ပြင် စိတ်ပညာနယ်ပယ်၊ အထူးသဖြင့် သိမှုဆိုင်ရာ စိတ်ပညာ (cognitive psychology) ကဏ္ဍ၌လည်း သူ၏ အရေးပါသော ဖြည့်ဆည်းမှုများ ရှိခဲ့သည်။

ချွမ်စကီးသည် အတွေးအမြင် အယူအဆနှင့် ပတ်သက်လာလျှင် ခိုင်ခိုင်မာမာ ရပ်တည်တတ်သူ၊ အပြင်းအထန် ခုခံကာကွယ်တတ်သူတစ်ဦးဖြစ်၍ ဒဿန၊ ဘာသာဗေဒနှင့် နိုင်ငံရေးနယ်ပယ်တို့တွင် အခြား ထင်ရှားသော ပညာရှင်များ၊ စာနယ်ဇင်းပုဂ္ဂိုလ်များနှင့် အကြိတ်အနယ် ငြင်းခုံဝေဖန်မှုများ ရှိခဲ့သည်။

နိုင်ငံရေးနယ်ပယ်၌ သူ့အား စတင် လူသိများလာခဲ့သည့် အကြောင်းမှာ ၁၉၆၇ ခုနှစ်က ရေးသည့် ဗီယက်နမ် စစ်ဆန့်ကျင်ရေးစာတမ်းကြောင့် ဖြစ်သည်။ The Responsibility of Intellectuals ခေါင်းစဉ်တပ် ၎င်းစာတမ်းနှင့် ၁၉၆၉ ခုနှစ်က ထုတ်ဝေသည့် American Power and the New Mandarins စာတမ်းပေါင်းချုပ်စာအုပ်တို့ကြောင့် ချွမ်စကီးသည် အမေရိကန်အစိုးရ၏ နိုင်ငံခြားရေးဆိုင်ရာ မူဝါဒများကို ဆန့်ကျင်သူတစ်ဦးအဖြစ် ထင်ရှားလာသည်။ သည့်အပြင် အစိုးရနှင့် လုပ်ငန်းရှင်ကြီးများ၏ အာဘော်ဖြစ်နေသည်ဟု သူ ရှုမြင်သော အမေရိကန် မီဒီယာလောက၊ မူးယစ်ဆေးဝါးဆိုင်ရာ အမေရိကန် ပေါ်လစီနှင့် အမေရိကန်တို့၏ လုပ်ပိုင်ခွင့် အာဏာ အကန့်အသတ်များကို

ထောက်ပြဝေဖန်မှုများကြောင့် သူ့အား ထောက်ခံသူတို့ ထောက်ခံကြိုးဆိုကြသကဲ့သို့ အပြင်းအထန် ဆန့်ကျင်သူ၊ မနှစ်သက် မလိုလားသူများလည်း ရှိခဲ့ရာ၊ သတ်ဖြတ်ရန် ခြိမ်းခြောက်ခြင်းများပင် ခံရသည်။ Unabomber အမည်ဖြင့် လူသိများခဲ့သည့် စာအိတ်ဗုံး လူသတ်သမား ကာဇင်းစကီး၏ ပစ်မှတ်များ စာရင်းတွင် သူ့အမည်လည်း ပါရှိခဲ့ရာ ကာဇင်းစကီး လွတ်မြောက်နေစဉ် ကာလတစ်လျှောက်လုံး ချွမ်စကီးအား လုံခြုံရေး တာဝန်ရှိ ပုဂ္ဂိုလ်တို့က အရပ်ဝတ်ရဲအစောင့်အရှောက် ချထားပေးခြင်း၊ သူ့ထံ ပေးပို့သည့် စာများတွင် ပေါက်ကွဲစေတတ်သော ပစ္စည်းများ ပါမပါ စစ်ဆေးခြင်းများ ပြုလုပ်ပေးခဲ့ရသည်။

သူ၏ ပြည်သူ့ရေးရာ ဆောင်ရွက်ချက်များကြောင့် ချွမ်စကီးသည် ဗြိတိန်ထုတ် New Statesman မဂ္ဂဇင်းက ၂၀၀၆ ခုနှစ် ရွေးချယ်သည့် ကျွန်ုပ်တို့ခေတ်၏ လူစွမ်းကောင်း (Heroes of our time) အမည်စာရင်းတွင်လည်း အမှတ်စဉ် – ၇ နေရာ ဖော်ပြခြင်း ခံခဲ့ရပါသည်။

မေခြင်း

စာချစ်စိတ် ရင့်သန်သော စာသမားတို့အတွက်
စာနှင့်နီးနွယ်သော၊ သို့မဟုတ် ''စာအုပ်''နှင့်သက်ဆိုင်ပတ်သက်သော
အကြောင်းအရာရုံတို့ကို စုစည်းဖော်ပြပေးထားသည့်

# စာအုပ်ကမ္ဘာ

လူအများကို လှုပ်ရှားတက်ကြွစေခဲ့သော၊ အသိသစ် အမြင်သစ်ပေးသော၊ ထို့နောက်၊ ထိုအသိအမြင် ထိုလှုပ်ရှားမှုများအားဖြင့် လူ့အဖွဲ့အစည်းကို ပြောင်းလဲစေခဲ့သော စာပေများ၊ ... တစ်နည်းဆိုရသော်၊ ကမ္ဘာကို ကိုင်လှုပ်ခဲ့သော စာအုပ်များ ...

ထို့နောက်၊
စောင်ရေသန်းချီရောင်းချရသည့် စာအုပ်၊ လေလံပွဲမှာ တန်ဖိုးကြီး ပေးဝယ်ကာ တရိုတသေ သိမ်းဆည်းရသည့် ရှားပါးစာအုပ်၊ စာချစ်သူလောကမှာ ကိုးကွယ်သလောက်နီးပါး အမြတ်တနိုး တန်ဖိုးထားခြင်း ခံရသော စာအုပ်၊ မလိုလားသူ အသိုင်းအဝိုင်းက တွေ့ရာသချိုင်း မားမဆိုင်းဟု လိုက်လံရှာဖွေဖော်ထုတ် ဖျက်ဆီးခြင်း ခံရသော စာအုပ်။

သည့်အပြင်၊
ပညာရှိ ကဝိစာဆိုကြီး၊ ပါရမီထူးကဲသော ဖန်တီးရှင်ကြီး စသဖြင့် အလေးအမြတ်ပြုခြင်း ခံရသည့် စာရေးသူများ၊ မထင်မရှား မွဲမွဲတေတေ နှစ်ပေါင်းများစွာ နေခဲ့ပြီး တစ်ချိန်သောအခါ၌ မိမိ၏ တစ်ခုသော လက်ရာကြောင့် အောင်မြင်မှု အထွတ်အထိပ်သို့ ရောက်ရှိကြသူများ။

ထို့အပြင်၊

စာအရေးအသားအတွက် ထောင်သွင်းအကျဉ်းချခြင်း၊ ကားစင် တင်၍ စီရင်ခြင်း၊ မိမိရေးသော စာအုပ်များနှင့်အတူ မီးရှို့သုတ်သင်ခြင်း ခံရသည့် စာရေးဆရာများ၊ ကျမ်းပြုပုဂ္ဂိုလ်များ။

ထို့နောက်၊

စာမသင်ရ၊ စာမဖတ်ရဟု ကြီးလေးသော ပြစ်ဒဏ်များနှင့်တကွကွပ်ညှစ်ထားသည့်ကြားက စာတစ်လုံးချင်း ပေါင်းဖတ်ကာ စာအုပ်ကမ္ဘာထဲ စွန့်စားဝင်ရောက်ခဲ့သူများ၊ စာကြည့်တိုက် စာအုပ်သိုက်များကြားမှာ တစ်သက်တာပတ်လုံး နှစ်မြှုပ်ပျော်မွေ့ခဲ့ကြသူများ၊ မိမိတို့ ယုံကြည်မြတ်နိုးစွာ ဆည်းပူးရယူခဲ့သည့် စာအုပ်ထဲက အသိပညာများအတွက် အရှင်လတ်လတ် မြေမြှုပ်စီရင်ခြင်း အပါအဝင် အန္တရာယ်မျိုးစုံကို ရပ်တည်ရင်ဆိုင်ခဲ့ကြသည့် ပုဂ္ဂိုလ်များ။




# စာအုပ်ကမ္ဘာ

## ဖေမြင့်

[ စာမူခွင့်ပြုအမှတ် – ၄၀၀၅၂၄၁၁၀၉ ]

**နှစ်ပေါင်း ၄၀၀ မျှရှည်လျားခဲ့သည့် ကမ္ဘာ့စီးပွားရေးပညာ သမိုင်းတစ်လျှောက် ပြုစုပြီးထားခဲ့သော တွေးခေါ်ရှင် ပညာရှင်များ၊ ၎င်းတို့ ဖြတ်သန်းကျင်လည်ရာ တိုင်းပြည်ဒေသနှင့် ခေတ်ကာလဝန်းကျင်အခြေအနေအထားများ ထိုအခြေအနေအထားများပေါ်တွင် အခြေခံတည်၍ ၎င်းတို့၌ ဖြစ်ပေါ်သည့် စီးပွားရေးဆိုင်ရာ အတွေးအမြင် အယူအဆများ၊ ယင်းအယူအဆများက နိုင်ငံတကာရှိ လူတို့၏ စီးပွားရေး လူမှုရေး နိုင်ငံရေးသဘောများ အပေါ် လွှမ်းမိုးသက်ရောက်ပုံများ။**

# ဖေမြင့်

## စီးပွားရေးတွေးခေါ်ရှင်များ

[ အက်ဒမ် စမစ်၊ ဂျယ်ရီမီ ဘင်သမ်၊ ဒေးဗစ် ရီကာဒို၊
ကားလ်မာ့က်(စ)၊ အဲဖရက် မာရှယ်၊ သော်စတိုင်း
ဗက်ဘလင်၊... စသည်တို့ အပါအဝင်
ပုဂ္ဂိုလ် ၂၅ ဦး၏ ဘဝနှင့်အတွေးအမြင်များ။ ]

[ စာမူခွင့်ပြုအမှတ် – ၄၀၀၇၃၆၀၆၀၇ ]

ကျွန်တော်တို့ အားလုံးမှာပင် မိမိ တန်ဖိုးထားသောအရာ၊ မိမိ သစ္စာစောင့်သိရမည်ဟု ယုံမှတ်ထားသည့်အရာ၊ မိမိ လုပ်ဆောင်ရမည့်တာဝန်ဟု မိမိဘာသာ ပြဋ္ဌာန်းမိသည့် အရာများရှိပါသည်။ ဒါတွေကို ကျေပွန်စွာ ထမ်းရွက်နိုင်သော် ကျွန်တော်တို့ ဝမ်းသာပီတိဖြစ်ကြသည်။ ကျေပွန်ခဲ့သော မိမိကိုယ်တိုင်အတွက်လည်း ဂုဏ်ယူမိကြသည်။ တာဝန်မကျေပွန်ခဲ့လျှင် သို့မဟုတ် သစ္စာဖောက်ဖျက် ဆန့်ကျင်ဘက်အလုပ်ကို လုပ်ခဲ့မိလျှင်ကား အကြီးအကျယ် စိတ်မချမ်းမြေ့ခြင်းဖြစ်ရပါသည်။ မိမိအတွင်းစိတ်၏ ကဲ့ရဲ့ရှုတ်ချခြင်းကိုလည်း မိမိဘာသာ အပြင်းအထန် ခံရတတ်ပါသည်။



# ဖေမြင့်

# တန်ဖိုးထားအပ်သော အရာများ

[စာမူခွင့်ပြုအမှတ် ၅၄/၂၀၀၄(၁)]

- လူ့အဖွဲ့အစည်း အသီးသီးရှိ တွေ့ကွဲပြားသော ယဉ်ကျေးမှု၊ ထုံးစလေ့၊ ဘာသာအယူဝါဒ၊ လူမှုကျင့်ဝတ်၊ ဆောင်ရေး ရှောင်ရေးနှင့် တန်ဖိုးထားကြသော အရာများ၊

- လူ့အဖွဲ့အစည်းများအတွင်း ဖြစ်ပေါ်ပြောင်းလဲမှုများနှင့်၊ အစဦးအလာ လူ့အဖွဲ့အစည်း၊ ခေတ်သစ်လူ့အဖွဲ့အစည်း၊ ခေတ်သစ်လွန် လူ့အဖွဲ့အစည်းတို့၏ သဘောသဘာဝများ၊

- လူမှုအလွှာအဆင့်၊ လူတန်းစားစနစ်၊ ဇာတ်စနစ် စသည့် အသွင်သဏ္ဌာန်များအားဖြင့် တည်ရှိနေသည့်၊ လူ့အဖွဲ့အစည်းအတွင်း မညီမျှသော ဘဝအခြေအနေများ၊

# ဖေမြင့်

# ယဉ်ကျေးမှု လူ့အဖွဲ့အစည်းနှင့် ညီမျှခြင်း မညီမျှခြင်းများ အကြောင်း

[ လူမှုရေးသိပ္ပံမိတ်ဆက် ]

[ စာမူခွင့်ပြုအမှတ် – ၄၀၀၂၅၂၀၂၁၁ ]

